ကိုရီးယားဘာသာစကား အခြေခံဖတ်စာအုပ်

# EPS-TOPIK

မြန်မာသင်တန်းသားများအတွက်

ကိုယ်တိုင်လေ့လာမှု အထောက်အကူပြု

# 한국어 2

## ကိုရီးယားဘာသာစကား (၂)




HRDK 한국산업인력공단

## 교재 길잡이 ဖတ်စာအုပ် လမ်းညွှန်

이 교재는 고용허가제 한국어능력시험을 대비하는 데 도움을 주기 위해 집필된『한국어 표준교재 개정판』을 집에서 스스로 공부할 수 있도록 개발한 책입니다. 특히 미얀마 사람들이 한국어를 쉽고 재미있게 배울 수 있도록 현지의 언어 및 사회·문화적 환경에 맞추어 개발한 자가학습 교재입니다. 이러한 이유로 교재의 앞부분에는 한국어와 미얀마어의 차이점을 간략히 정리하여 제시하였습니다.

ဤ ဖတ်စာအုပ်သည် EPS-TOPIK စာမေးပွဲအတွက် ပြင်ဆင်ရာတွင် အထောက်အပံ့ဖြစ်စေရန် ရည်ရွယ်၍ ရေးသားထုတ်ဝေထားသော "ကိုရီးယားဘာသာစကား အခြေခံဖတ်စာအုပ်(ပြင်ဆင်ချက်)" ကို အိမ်တွင် အိမ်တွင် ကိုယ်တိုင်ကိုယ်ကျ လေ့လာနိုင်စေရန် ဖြည့်စွက်ရေးသားထားသည့် စာအုပ်ဖြစ်ပါသည်။ အထူးသဖြင့် မြန်မာလူမျိုးများ ကိုရီးယားဘာသာစကားကို အလွယ်တကူ စိတ်ဝင်စားဖွယ် သင်ယူနိုင်စေရန် မြန်မာဘာသာစကားနှင့် မြန်မာ့လူမှုပတ်ဝန်းကျင်၊ ယဉ်ကျေးမှုတို့နှင့် ကိုက်ညီအောင် ပြင်ဆင်ထားသည့် ကိုယ်တိုင်လေ့လာမှု အထောက်အကူပြု ဖတ်စာအုပ်ဖြစ်သည့်အလျောက် သင်ခန်းစာ၏ အရှေ့ပိုင်းတွင် ကိုရီးယားနှင့် မြန်မာဘာသာစကား၏ ခြားနားချက်များကို အကျဉ်းအားဖြင့် မိတ်ဆက်တင်ပြထားပါသည်။

이 교재는 현지에 한국어 교육기관과 한국어 교사가 충분하지 않다는 점을 감안하여 참고서의 역할을 하는 친절한 교재가 되도록 애를 썼습니다. 또한 한국어를 연습할 기회가 많지 않은 현지 환경을 고려하여 익힘책의 기능을 하도록 하였으며, 나아가 EPS-TOPIK을 준비할 수 있도록 구성하였습니다. 이렇게 구성된 교재는 가상의 교사를 설정하여 학습 안내를 하도록 하였습니다. 특히 '한글 익히기' 단원과 과마다 수록되어 있는 문법 항목에 대한 설명은 미얀마어로 녹음을 하여 제시함으로써 이해를 돕고자 하였습니다. 부록에는 어휘 목록 및 동사와 형용사의 활용표를 제시하여 편리함을 더하고자 하였습니다.

ဤ ဖတ်စာအုပ်သည် မြန်မာနိုင်ငံတွင် ကိုရီးယား ဘာသာစကားသင်တန်းများနှင့် ကိုရီးယား ဆရာ/ဆရာမများ မလောက်ငသည့် အခြေအနေများတွင် ကိုးကားစာအုပ်တစ်အုပ်အနေဖြင့် အသုံးပြုနိုင်စေရန် ရည်ရွယ်၍ ရှင်းလင်းချက်များကို တတ်နိုင်သမျှ ပြည့်စုံအောင် ကြိုးပမ်းထားပါသည်။ ထို့အပြင် ကိုရီးယားဘာသာစကားကို လေ့ကျင့်ရန် အခွင့်မသာလှသော အခြေအနေများကို ထည့်သွင်းစဉ်းစား၍ လေ့ကျင့်ခန်းစာအုပ်တစ်ဖြစ်မှ တစ်ဆင့်တက်၍ EPS-TOPIK စာမေးပွဲအတွက် ကြိုတင်ပြင်ဆင်နိုင်စေရန်လည်း ရည်ရွယ်ဖွဲ့စည်းထားပါသည်။ ဤ ဖတ်စာအုပ်တွင် ဆရာမမှ ဘေးတွင် ရှိနေသကဲ့သို့ ရေးသားထားပြီး အထူးသဖြင့် 'အခြေခံစကားလုံးမိတ်ဆက်ခြင်း'အပိုင်းနှင့် ကျန်သင်ခန်းစာများရှိ သဒ္ဒါများတွင် ရှင်းလင်းချက်များကို မြန်မာဘာသာစကားဖြင့် အသံသွင်း၍ ပိုမိုနားလည်လွယ်ကူစေရန် ပြင်ဆင်ထားပါသည်။ နောက်ဆက်တွဲ ကဏ္ဍတွင်လည်း စကားလုံးများ၏ အဓိပ္ပါယ်များနှင့် ကြိယာများ၏ အသုံးပြုပုံများကို တင်ပြ၍ လွယ်ကူစွာ လေ့လာနိုင်စေရန် ကြိုးပမ်းထားပါသည်။




17 휴가 때 제주도에 다녀올 거예요

대화 1

투안 리한 씨는 제주도에 가 봤어요?

리한 네, 가 봤어요.

투안 제주도가 어땠어요? 좋았어요?

리한 네, 정말 좋았어요.
특히 바다가 너무 아름다웠어요.

투안 어땠어요? 저도 제주도에 가 보고 싶어요.

1. 리한 씨는 어디에 가 봤어요?
2. 제주도가 어때요?

## 01 대화 စကားပြောစာပိုဒ်များ

본문의 내용을 쉽게 이해할 수 있도록 대화 앞에 대화의 상황을 설명하는 글을 제시하였습니다. 본문은 미얀마어로 번역하여 제시하였습니다. 학습자들이 본문을 이해하는 데 도움을 주기 위해 본문에 사용된 어휘 및 표현 중 설명이 필요하다고 생각되는 것을 골라 예문과 함께 미얀마어로 제시하였습니다. 본문 학습 후에는 스스로 본문에 대한 이해 정도를 측정할 수 있도록 내용 확인 문제를 제시하였습니다.

အပြန်အလှန် စကားပြောသည့် စာပိုဒ်များတွင် အကြောင်းအရာကို အလွယ်တကူ နားလည်နိုင်စေရန်အတွက် နောက်ခံအခြေအနေ ရှင်းလင်းချက်ကို ထည့်သွင်းထားပြီး စကားပြောဝါကျများကိုလည်း မြန်မာဘာသာဖြင့် ဘာသာပြန်ဆို၍ ကျောင်းသားများ စာပိုဒ်ကို အလွယ်တကူ နားလည်စေရန် စကားပြောတွင် ပါဝင်သော စကားလုံးများအနက် အချို့ကို ဥပမာနှင့်တကွ ရှင်းပြထားပြီး အကြောင်းအရာများကို သင်ယူပြီးသည့်အခါ မိမိကိုယ်ကို ပြန်လည်ဆန်းစစ်နိုင်စေရန်အတွက် လေ့ကျင့်ခန်း မေးခွန်းများကိုလည်း ထည့်သွင်းထားပါသည်။

## 02 어휘 ဝေါဟာရများ

교재에 제시된 어휘를 학습을 염두에 두고 어휘의 특성(유사한 의미군, 유의어, 반의어 등)을 고려하여 재배열한 후에 미얀마어와 함께 제시였습니다. 교재에 수록된 어휘 연습 문제 외에도 여백이 허락할 경우 추가로 문제를 실었습니다.

သင်ခန်းစာတွင် ပါဝင်သော စကားလုံးများကို အလွယ်တကူ သင်ယူနိုင်စေရန်အတွက် စကားလုံး၏
ထူးခြားချက်(အဓိပ္ပါယ် ဆက်စပ်မှု၊ ဆင်တူမှု၊ ခြားနားမှု စသည်)များကို ထည့်သွင်းစဉ်းစား၍ စာလုံးစဉ် ပြန်စီကာ မြန်မာဘာသာဖြင့် ဖော်ပြထားပြီး စာမျက်နှာအပိုများတွင် သင်ခန်းစာတွင် မပါရှိသေးသော စကားလုံးအချို့အတွက် လေ့ကျင့်ခန်းများကိုလည်း ထည့်သွင်းထားပါသည်။


어휘 1 여행지

산 동굴 폭포 호수
강 바다 섬 온천
유적지 민속촌 놀이공원 드라마 촬영지
아름답다 유명하다 경치가 좋다 사람들이 친절하다

1. 그림에 맞는 표현을 〈보기〉에서 골라 넣으세요.



## 03 문법 သဒ္ဒါများ

문법은 표로 정리하여 제시함으로써 이해를 돕고자 하였습니다. 자가 학습의 능률을 높일 수 있도록 한국어와 미얀마어의 대조적 정보를 제공하였습니다. 목표 문법 항목을 예문과 함께 제시한 후 기 학습한 유사 문법 항목과 비교함으로써 두 문법 항목 간의 차이점을 이해하기 쉽도록 하였습니다. 또한 본 교재에는 같은 지면에 제시되어 있는 어휘와 문법 연습 문제를 해당 항목 후 바로 연습할 수 있도록 배치하였고 연습 문제를 추가로 구성하여 학습 내용을 내재화 할 수 있도록 하였습니다.

သဒ္ဒါများကို နားလည်ရ လွယ်ကူစေရန် သီးခြား ဖော်ပြထားပြီး ကိုယ်တိုင်လေ့လာသင်ယူရာတွင် အထောက်အကူဖြစ်စေရန် ကိုရီးယားနှင့် မြန်မာဘာသာစကား နှိုင်းယှဉ်ချက်များကိုလည်း ထည့်သွင်းထားပါသည်။ လေ့ကျင့်ရမည့် သဒ္ဒါများကို ဥပမာနှင့်တကွ ဖော်ပြထားပြီး ဆင်တူသဒ္ဒါများနှင့်လည်း နှိုင်းယှဉ်ပြသ၍ သဒ္ဒါနှစ်ခုအကြား ခြားနားချက်ကို သိသာမြင်သာအောင် ဖော်ပြထားပါသည်။ ထို့အပြင် ဤ ဖတ်စာအုပ်တွင် ဝေါဟာရနှင့် သဒ္ဒါ လေ့ကျင့်ခန်း မေးခွန်းများကို သက်ဆိုင်ရာ သင်ခန်းစာ၏ အောက်တွင် တစ်ဆက်တည်း လေ့ကျင့်နိုင်စေရန် ထည့်သွင်းပေးထားပြီး လေ့ကျင့်ခန်း မေးခွန်းများကိုလည်း ထပ်တိုးဖြည့်စွက်ထားခြင်းအားဖြင့် သင်ခန်းစာအကြောင်းအရာကို ရင်းနှီးကျွမ်းဝင်သွားစေရန် ပြင်ဆင်ပေးထားပါသည်။

## 04 활동 အသုံးချသင်ခန်းစာများ

자가 학습의 능률을 높일 수 있도록 미얀마어로 번역하여 제시하였고, 활동에 대한 〈내용 확인〉을 통해 스스로 학습 성취 여부를 판단할 수 있도록 하였습니다. 또한 여백이 허락할 경우 〈퀴즈〉를 통해 학습 동기를 유발하고 학습의 흥미를 유지할 수 있도록 하였습니다.

ကိုယ်တိုင်သင်ယူလေ့ကျင့်မှုကို အထောက်အကူပြုစေရန်အတွက် မြန်မာဘာသာဖြင့် ရေးသားဖော်ပြထားပြီး လေ့ကျင့်မှုတိုင်းတွင် ပြန်လည်ဆန်းစစ်ခြင်းကဏ္ဍကို ထည့်သွင်း၍ မိမိ၏ နားလည်မှုကို တိုင်းတာနိုင်ရန် ပြင်ဆင်ထားပါသည်။ စာမျက်နှာအလွတ်များတွင် ဉာဏ်စမ်းမေးခွန်းများကို ဖြည့်စွက်၍ သင်ယူလိုစိတ်ကို ဖြစ်ပေါ်စေပြီး စိတ်ဝင်စားဖွယ် သင်ခန်းစာဖြစ်အောင် ပြင်ဆင်ထားပါသည်။







## 05 정보 · 문화 သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု

정확한 전달을 위해 정보 및 문화 내용을 미얀마어로 번역하여 제시하였습니다. 또한 〈내용 확인〉 문제를 통해 스스로 내용 이해 여부를 판단할 수 있도록 하였습니다.

နားလည်မှု မလွဲမှားစေရန်အတွက် သတင်းအချက်အလက်နှင့် ယဉ်ကျေးမှုအကြောင်းအရာများကို ဘာသာပြန်ဆိုပေးထားပြီး ပြန်လည်ဆန်းစစ်ခြင်းမေးခွန်းများမှတစ်ဆင့် မိမိမှ မည်မျှ နားလည်ထားသည်ကို ဆန်းစစ်နိုင်စေရန် ပြင်ဆင်ထားပါသည်။

## 06 EPS-TOPIK

읽기와 듣기에서 다루고 있는 주제에 대해 간략히 미얀마어로 설명해 줌으로써 한국어 수준이 좀 부족하더라도 한국어를 혼자서 공부하는 데 어려움이 없도록 하고자 하였습니다. 듣기 대본을 한국어와 미얀마어로 제시해 줌은 물론 정답도 함께 제시해 줌으로써 학습의 효율성을 높이고자 하였습니다. 비슷한 유형의 다른 문제를 연습할 수 있도록 〈확장 연습〉을 제공해 줌으로써 학습 효과를 극대화하고자 하였습니다.

ဖတ်ခြင်းနှင့် နားထောင်ခြင်းတွင် ပါဝင်သော အကြောင်းအရာများကို မြန်မာဘာသာဖြင့် ဘာသာပြန်ဆို ပေးထားခြင်းအားဖြင့် ကိုရီးယားဘာသာစကား စွမ်းရည် မမြင့်လှသော ကျောင်းသားများအနေဖြင့် ကိုယ်တိုင်ကိုယ်ထ စာလေ့လာနိုင်စေရန် ပြင်ဆင်ပေးထားပါသည်။ အသံဖိုင်ထဲမှ အကြောင်းအရာများကို ကိုရီးယား-မြန်မာ နှစ်ဘာသာဖြင့် ဖော်ပြ၍ အဖြေများကိုလည်း ပေးထားခြင်းအားဖြင့် သင်ယူနိုင်မှု အတိုင်းအတာကို မြှင့်တင်ထားပါသည်။ ဆင်တူမေးခွန်းများကိုလည်း လေ့ကျင့်နိုင်စေရန် ထပ်ဆောင်း လေ့ကျင့်ခန်းများကို ပြင်ဆင်ပေးထားပြီး လေ့လာမှု အကျိုးကျေးဇူးကို အမြင့်ဆုံးရောက်အောင် ကြိုးပမ်းထားပါသည်။





## 07 발음 အသံထွက်များ

교사가 없는 상황에서 발음 연습을 하는 데에는 한계가 있습니다. 따라서 혼자 듣고 따라 읽으면서 발음 연습을 할 수 있도록 하였습니다. 모음, 자음의 발음은 물론 한국어 음운 현상에 대해서도 다루었으며 모두 31개의 항목으로 나누어 구성하였습니다.

ဆရာမ မရှိဘဲ အသံထွက် လေ့ကျင့်ရသည်မှာ မလွယ်ကူလှပါ။ ထို့ကြောင့် တစ်ဦးတည်း နားထောင်ပြီး လိုက်ဆိုရင်း အသံထွက်ကို လေ့ကျင့်နိုင်အောင် ပြင်ဆင်ပေးထားပါသည်။ သရနှင့် ဗျည်းတို့၏ အသံထွက်များသာမက အသံကူးပြောင်းခြင်း ပုံစံများကိုလည်း ထည့်သွင်းပေးထားပြီး စုစုပေါင်း (၃၁)ပိုင်းဖြင့် ဖွဲ့စည်းထားပါသည်။

## 08 유용한 표현 အသုံးဝင်သော အသုံးအနှုန်းများ

한국 사람들이 일상생활에서 자주 사용하는 유용한 표현을 전형적인 상황 맥락에서의 대화문을 통해 번역문과 함께 곳곳에 제시하였습니다.

ကိုရီးယားလူမျိုးများ နေ့စဉ်လူနေမှုဘဝတွင် မကြာခဏ အသုံးပြုသောတွင်ကျယ်သည့် အသုံးအနှုန်းများကိုလည်း သိသာထင်ရှားသည့် အခြေအနေ/ဥပမာ/စကားပြောပုံစံများဖြင့် အလျဉ်းသင့်သလို ထည့်သွင်း၍ ဘာသာပြန်ဆိုပေးထားပါသည်။





## 듣기 파일 안내
အသံဖိုင် လမ်းညွှန်

| | |
|---|---|
| Track 01 – Track 180 | 『한국어 표준교재』에 수록된 듣기 파일<br>"ကိုရီးယားဘာသာစကား အခြေခံဖတ်စာအုပ်"အသံဖိုင် |
| MK 1 | 인사말<br>နှုတ်ဆက်စကား |
| MK 2 | 미얀마어와 한국어 대조<br>မြန်မာ-ကိုရီးယား ဘာသာစကား နှိုင်းယှဉ်ချက် |
| K-1 - K-8 | 한글 익히기 I & II အခြေခံစကားလုံးများ လေ့လာခြင်း(၁+၂) |
| G06-1 - G50-2 | 각 과의 문법 포인트 강의<br>예 G30-1 → 30과의 문법 1에 대한 포인트 강의<br>သင်ခန်းစာ တစ်ခုချင်းစီအတွက် သဒ္ဒါရှင်းလင်းချက်များ<br>E.g. G30-1 : အခန်း(၃၀)မှ သဒ္ဒါ(၁)အတွက် ရှင်းလင်းချက် |
| L-06 - L-58 | 각 과의 듣기 확장 연습<br>예 L-30 → 30과의 듣기 확장 연습<br>သင်ခန်းစာ တစ်ခုချင်းစီအတွက် (အကြား)ထပ်ဆောင်းလေ့ကျင့်ခန်း<br>E.g. L-30 : အခန်း(၃၀)မှ (အကြား)ထပ်ဆောင်းလေ့ကျင့်ခန်း |
| P01 - P31 | 발음 연습<br>အသံထွက် လေ့ကျင့်ခန်း |

# 목차 မာတိကာ

| 주제 အကြောင်းအရာ | 과 အခန်း | 제목 ခေါင်းစဉ် | 기능/직무 구조 သင်ခန်းစာအကြောင်းအရာ | 어휘 ဝေါဟာရ | 문법 သဒ္ဒါ | 정보/문화 သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု |
|---|---|---|---|---|---|---|
| 예비편 ပဏာမ သင်ခန်းစာ | 1 | 한글 익히기 I အခြေခံစကားလုံးများလေ့လာခြင်း(၁) | | | | |
| | 2 | 한글 익히기 II အခြေခံစကားလုံးများလေ့လာခြင်း(၂) | | | | |
| | 3 | 교실 한국어 စာသင်ခန်းသုံးစကားများ | | | | |
| | 4 | 안녕하세요 မင်္ဂလာပါ။ | | | | |
| | 5 | 주말 잘 보내세요 ပိတ်ရက်မှာ အေးအေးဆေးဆေး နားပါ။ | | | | |
| 기본생활 နေ့စဉ်ဘဝ | 6 | 저는 투안입니다 ကျွန်တော့်နာမည် ထူအန်းပါ။ | 자기소개하기 မိမိကိုယ်ကို မိတ်ဆက်ခြင်း | 나라 နိုင်ငံ 직업 အလုပ်အကိုင် | 입니다 입니까 | 인사 예절 နှုတ်ဆက်တဲ့ ယဉ်ကျေးမှု |
| | 7 | 여기가 사무실이에요 ဒါ ရုံးခန်းပါ။ | 장소 및 물건 묻고 대답하기 နေရာနှင့် ပစ္စည်းအကြောင်း အမေးအဖြေ | 장소 နေရာ 물건 ပစ္စည်း | 이/가 이에요/예요 | 한국의 좌식 문화 ကြမ်းပြင်မှာ ထိုင်တဲ့ ဓလေ့ 생활필수품 လူနေမှုအသုံးအဆောင် ပစ္စည်းများ |
| | 8 | 12시 30분에 점심을 먹어요 ၁၂ နာရီခွဲမှာ နေ့လယ်စာ စားတယ်။ | 일과 시간 묻고 대답하기 နေ့စဉ်လုပ်ရှားမှုနဲ့ အချိန်အကြောင်း အမေးအဖြေ | 일과 နေ့စဉ်လှုပ်ရှားမှု 시간 အချိန် | -아요/어요 에(시간) | 출근 시간을 지킵시다 အချိန်မှန်မှန် ရုံးတက်ကြစို့။ |
| | 9 | 가족이 몇 명이에요? မိသားစုဝင် ဘယ်နှယောက် ရှိလဲ။ | 가족에 대해 묻고 대답하기 မိသားစုအကြောင်း အမေးအဖြေ | 가족 မိသားစု 외모와 성격 ရုပ်သွင်ပြင်နဲ့ စရိုက်လက္ခဏာ | 하고 에(장소) | 높임말과 반말 ယဉ်ကျေးတဲ့ အသုံးနဲ့ သူငယ်ချင်းအသုံး |
| | 10 | 어제 도서관에서 한국어를 공부했어요 မနေ့က စာကြည့်တိုက်မှာ ကိုရီးယားစာ လုပ်ခဲ့တယ်။ | 날짜와 장소 묻고 대답하기 ရက်စွဲနှင့် နေရာ အမေးအဖြေ | 날짜와 요일 ရက်စွဲနှင့် နေ့များ 장소 및 동작 နေရာနှင့် အပြုအမူ | -았/었- 에서 | 한국의 공휴일 အစိုးရရုံးပိတ်ရက်များ |
| | 11 | 사과 다섯 개 주세요 ပန်းသီး ငါးလုံး ပေးပါ။ | 물품 구매하기 ပစ္စည်း ဝယ်ခြင်း | 과일과 식료품 အသီးနှင့် စားသောက်ကုန်များ 화폐 및 물품 구매 ငွေကြေးနှင့် ပစ္စည်းဝယ်ယူခြင်း | 주세요 -아/어 주세요 | 의류 အဝတ်အစားများ |
| | 12 | 병원 옆에 약국이 있어요 ဆေးရုံဘေးမှာ ဆေးဆိုင်ရှိတယ်။ | 위치와 길 찾기 နေရာနှင့်လမ်းရှာခြင်း | 이동 동사 ရွေ့လျားမှုပြ ကြိယာများ 위치와 방향 နေရာနှင့် ဦးတည်ရာ | -(으)세요 (으)로 | 길거리 လမ်း |
| | 13 | 시청 앞에서 일곱 시에 만나요 ၇နာရီ မြို့တော်ခန်းမ ရှေ့မှာ တွေ့မယ်။ | 약속 시간과 장소를 정하기 တွေ့မယ့်အချိန်နဲ့ နေရာကို သတ်မှတ်ခြင်း | 상태 1 အခြေအနေ(၁) 상태 2 အခြေအနေ(၂) | -고 싶다 -(으)ㄹ까요 | 한국 사람들이 인사로 하는 약속 ကိုရီးယားလူမျိုးတွေ နှုတ်ဆက်တဲ့သဘောနဲ့ ပြောတဲ့ ချိန်းဆိုခြင်း |
| | 14 | 저는 비빔밥을 먹을래요 ကျွန်တော်ကတော့ ထမင်းသုပ် စားမယ်။ | 음식 주문하기 အစားအသောက် မှာခြင်း | 식당 စားသောက်ဆိုင်များ 음식의 맛 အစားအသောက် အရသာ | -(으)ㄹ래요 안 | 음식 메뉴 အစားအသောက် မီနူး |
| | 15 | 날씨가 맑아서 기분이 좋아요 ရာသီဥတု သာယာလို့ စိတ်ပျော်တယ်။ | 날씨와 기분 이야기하기 ရာသီဥတုနှင့် ခံစားချက်အကြောင်း ပြောခြင်း | 날씨와 계절 ရာသီဥတုနှင့် ဥတုရာသီ 기분과 감정 ခံစားမှုနှင့် ခံစားချက် | -네요 -아서/어서 | 한국의 사계절 ကိုရီးယားရဲ့ (၄)ရာသီ |
| | 16 | 시간이 있을 때 주로 테니스를 치러 가요 အချိန်ရတဲ့အခါ တင်းနစ်ရိုက်ဖို့ ပုံမှန် သွားပါတယ်။ | 취미 이야기하기 ဝါသနာအကြောင်း ပြောခြင်း | 취미 ဝါသနာ 운동 အားကစား | -(으)ㄹ 때 -(으)러 가다 | 취미 활동 프로그램 ဝါသနာနှင့် အပျော်တမ်း သင်တန်းများ |
| | 17 | 휴가 때 제주도에 다녀올 거예요 ပိတ်ရက်မှာ ဂျယ်ဂျူကျွန်းကို အလည်သွားမလို့ပါ။ | 여행 경험 및 계획 이야기하기 ခရီးအတွေ့အကြုံနှင့် အစီအစဉ်အကြောင်း ပြောခြင်း | 여행지 ခရီးသွားဒေသများ 여행 준비와 활동 ခရီးထွက်ရန် ပြင်ဆင်ခြင်းနှင့် လုပ်ဆောင်မှုများ | -아/어 보다 -(으)ㄹ 거예요 | 한국의 관광지 ကိုရီးယားရှိ လည်ပတ်စရာ နေရာများ |



| 주제<br>အကြောင်းအရာ | 과<br>အခန်း | 제목<br>ခေါင်းစဉ် | 기능/직무 구조<br>သင်ခန်းစာအကြောင်းအရာ | 어휘<br>ဝေါဟာရ | 문법<br>သဒ္ဒါ | 정보/문화<br>သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု |
|---|---|---|---|---|---|---|
| 일상 및 여가 생활 နေ့စဉ်ဘဝနှင့် အပန်းဖြေဘဝ | 18 | 버스나 지하철을 타고 가요<br>ဘတ်စ်ကား ဒါမှမဟုတ် မြေအောက်ရထား စီးပြီး သွားပါတယ်။ | 교통수단과 소요 시간 말하기<br>လမ်းပန်းဆက်သွယ်ရေးနှင့် ကြာချိန်အကြောင်း ပြောခြင်း | 교통<br>လမ်းပန်းဆက်သွယ်ရေး<br>이동<br>သွားရေးလာရေး | (이)나<br>에서 까지 | 대중교통 이용 방법<br>အများသုံးယာဉ်များ အသုံးပြုနည်း |
| | 19 | 거기 한국가구지요?<br>ဟန်းဂု ပရိဘောဂကပါလားခင်ဗျာ။ | 전화하기<br>ဖုန်းခေါ်ဆိုခြင်း<br>인터넷에 대해 말하기<br>အင်တာနက်အကြောင်း ပြောဆိုခြင်း | 전화<br>ဖုန်း<br>인터넷<br>အင်တာနက် | -지요<br>-고 | 생활에 유용한 전화번호<br>အသုံးဝင်သော ဖုန်းနံပါတ်များ |
| | 20 | 저는 설거지를 할게요<br>ကျွန်တော် ပန်းကန်ဆေးလိုက်မယ်။ | 집안일 부탁하기<br>အိမ်အလုပ် အကူအညီတောင်းခြင်း<br>집안일 말하기<br>အိမ်အလုပ်အကြောင်း ပြောခြင်း | 청소<br>သန့်ရှင်းရေး<br>집안일<br>အိမ်မှုကိစ္စများ | -(으)ㄹ게요<br>-는 것 | 쓰레기 종량제와 분리수거<br>အမှိုက်ခွဲခြားစွန့်ပစ်ခြင်း |
| | 21 | 상 차리는 것을 도와줄까요?<br>ထမင်းဝိုင်းပြင်တာ ကူပေးရမလား။ | 설명하기<br>ရှင်းပြခြင်း<br>허락 구하기<br>ခွင့်တောင်းခြင်း | 약속<br>ချိန်းဆိုခြင်း<br>초대<br>ဖိတ်ကြားခြင်း | -는데/-(으)ㄴ데<br>-(으)ㄹ까요 | 집들이 선물<br>အိမ်တက်လက်ဆောင် |
| | 22 | 무단횡단을 하면 안 돼요<br>စည်းမဲ့ကမ်းမဲ့ လမ်းဖြတ်မကူးပါနဲ့။ | 금지하기<br>တားမြစ်ခြင်း<br>이유 말하기<br>အကြောင်းရင်းပြောပြခြင်း | 금지<br>တားမြစ်ချက်များ<br>하면 안 되는 행동<br>ရှောင်ရန်များ | -(으)면 안 되다<br>-(으)니까 | 공공장소 표지판<br>အများသုံးနေရာ အသိပေး ဆိုင်းဘုတ်များ |
| | 23 | 어른께는 두 손으로 물건을 드려야 돼요<br>လူကြီးကိုဆိုရင် လက်နှစ်ဖက်နဲ့ ပစ္စည်းပေးရပါတယ်။ | 높임말 말하기<br>ယဉ်ကျေးစွာ သုံးနှုန်းပြောဆိုခြင်း<br>조언하기<br>အကြံဉာဏ်ပေးခြင်း | 어휘 높임<br>ယဉ်ကျေးသော စကားလုံးများ<br>생활 예절<br>ယဉ်ကျေးသော အမူအကျင့်များ | -(으)시-<br>-아야/어야 되다/하다 | 한국인들에게 나이란?<br>ကိုရီးယားလူမျိုးတွေအတွက် အသက်ဆိုတာ။ |
| | 24 | 한국 영화를 보면서 공부해요<br>ကိုရီးယားကား ကြည့်ရင်း စာလေ့လာတယ်။ | 공부 방법 말하기<br>စာလေ့လာနည်းအကြောင်း ပြောခြင်း<br>신청 방법 설명하기<br>လျှောက်ထားနည်း ရှင်းပြခြင်း | 공부<br>စာလေ့လာခြင်း<br>교육<br>သင်တန်းများ | -(으)면서<br>-기 쉽다/어렵다 | 외국인 근로자 교육 프로그램<br>နိုင်ငံခြားသားအလုပ်သမား သင်တန်းများ |
| | 25 | 일요일마다 교회에 가요<br>တနင်္ဂနွေနေ့တိုင်း ဘုရားကျောင်း သွားတယ်။ | 빈도 표현하기<br>အကြိမ်အရေအတွက် ပြောခြင်း<br>소원 말하기<br>ဆန္ဒအကြောင်း ပြောခြင်း | 종교<br>ဘာသာရေး<br>종교 활동<br>ဘာသာရေးလှုပ်ရှားမှုများ | 마다<br>-았으면/었으면 좋겠다 | 종교 행사<br>ဘာသာရေး ပွဲတော်များ |
| 공공기관 ရုံးဌာန သွားရောက်ခြင်းများ | 26 | 밥을 먹은 후에 이 약을 드세요<br>ထမင်းစားပြီး နောက်မှ ဒီဆေးကို သောက်ပါ။ | 순서 말하기<br>အလှည့်အကြောင်း ပြောခြင်း<br>금지하기<br>တားမြစ်ခြင်း | 신체<br>ခန္ဓာကိုယ်<br>증상<br>ရောဂါလက္ခဏာများ | -(으)ㄴ 후에<br>-지 마세요 | 가정 비상약<br>အိမ်သုံး အရေးပေါ်ဆေး |
| | 27 | 어디가 아프십니까?<br>ဘယ်နေရာက နာတာလဲ။ | 조건 말하기<br>သတ်မှတ်ချက်အကြောင်း ပြောခြင်း<br>증상 묻고 대답하기<br>ရောဂါလက္ခဏာအကြောင်း အမေးအဖြေ | 병원<br>ဆေးရုံ<br>치료<br>ဆေးကုသမှု | -(으)면<br>-ㅂ/습니까,<br>-ㅂ/습니다 | 외국인근로자센터 진료 안내<br>နိုင်ငံခြားသား အလုပ်သမားစင်တာ ဆေးကုသမှု လမ်းညွှန် |
| | 28 | 통장을 만들려고 왔어요<br>ဘဏ်စာအုပ်လုပ်ဖို့ လာတာပါ။ | 의도 말하기<br>ရည်ရွယ်ချက်ပြောခြင်း<br>방법 표현하기<br>နည်းလမ်းပြောခြင်း | 은행<br>ဘဏ်<br>은행 업무/현금인출기<br>ဘဏ်လုပ်ငန်းများနှင့် ATM | -(으)려고<br>-(으)면 되다 | 외국인 근로자 전용 금융 서비스<br>နိုင်ငံခြားသားအလုပ်သမား သီးသန့် ဘဏ်ဝန်ဆောင်မှု |
| | 29 | 필리핀으로 엽서를 보내고 싶은데요<br>ဖိလစ်ပိုင်သို့ ပို့စကတ် ပို့ချင်လို့ပါ။ | 편지 보내기<br>စာပို့ခြင်း<br>요청하기<br>တောင်းဆိုခြင်း | 우편물<br>စာ<br>소포/택배<br>ပါဆယ်/ပစ္စည်း<br>သယ်ယူပို့ဆောင်ခြင်း | (으)로<br>-(으)십시오 | 국제특급 우편 서비스<br>နိုင်ငံတကာ အမြန်ချောပို့ဝန်ဆောင်မှု |
| | 30 | 거기에서 태권도를 배울 수 있어요?<br>အဲဒီမှာ တိုက်ကွမ်ဒို သင်လို့ရလား။ | 이용 문의하기<br>အသုံးပြုနည်း မေးမြန်းခြင်း<br>교육 신청하기<br>သင်တန်းလျှောက်ထားခြင်း | 교육 및 서비스<br>သင်တန်းများ၊ ဝန်ဆောင်မှုများ<br>외국인력 지원 센터 이용<br>နိုင်ငံခြားသား အလုပ်သမား ထောက်ပံ့ရေးစင်တာ အသုံးပြုခြင်း | -(으)ㄹ 수 있다/없다<br>-(으)려면 | 외국인 근로자를 위한 지원 기관<br>နိုင်ငံခြားသား အလုပ်သမား ထောက်ပံ့ရေး ရုံးဌာနများ |

| 주제<br>အကြောင်းအရာ | 과<br>အခန်း | 제목<br>ခေါင်းစဉ် | 기능/직무 구조<br>သင်ခန်းစာအကြောင်းအရာ | 어휘<br>ဝေါဟာရ | 문법<br>သဒ္ဒါ | 정보/문화<br>သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု |
|---|---|---|---|---|---|---|
| 한국에 대한 이해<br>ကိုရီးယားနိုင်ငံအကြောင်း | 31 | 우리 고향은 서울보다 공기가 맑아요<br>ကျွန်တော်တို့ ဇာတိမှာက ဆိုးလ်မှာထက် လေကောင်းလေသန့် ပိုရတယ်။ | 날씨 표현하기<br>ရာသီဥတုအကြောင်း ပြောခြင်း<br>비교하기<br>နှိုင်းယှဉ်ခြင်း | 날씨<br>ရာသီဥတု<br>도시의 특성<br>မြို့ပြရဲ့ထူးခြားချက် | -지만<br>보다 | 한국의 행정구역<br>အုပ်ချုပ်ရေးမြို့တော်များ |
| | 32 | 복날에는 삼계탕을 먹어요<br>အပူဆုံးနေ့မှာ ဂျင်ဆင်းကြက်ပေါင်း စားပါတယ်။ | 한국의 음식 문화 알기<br>ကိုရီးယားရဲ့ အစားအသောက်ယဉ်ကျေးမှုကိုလေ့လာခြင်း<br>조리법 설명하기<br>ဟင်းချက်နည်းရှင်းပြခြင်း | 계절 음식<br>ရာသီပေါ်စာ<br>재료 및 조리법<br>ပါဝင်ပစ္စည်းနှင့် ချက်ပြုတ်နည်း | -(으)ㄴ<br>-아서/어서 | 특별한 날 먹는 음식<br>နေ့ထူးနေ့မြတ်မှာ စားတဲ့ အစားအစာများ |
| | 33 | 송편을 만드는 체험도 할 수 있어요<br>ဆုံးဖြောင်း(ကောက်ညှင်းမုန့်) ကိုယ်တိုင် လုပ်ကြည့်လို့ရပါတယ်။ | 추측하기<br>မှန်းဆခြင်း<br>계획 말하기<br>အစီအစဉ်အကြောင်းပြောခြင်း | 설날<br>ကိုရီးယားရိုးရာနှစ်ကူးနေ့<br>추석<br>ကောက်သစ်စားပွဲနေ့ | -겠-<br>-는 | 한국의 명절<br>ကိုရီးယားရဲ့ ပွဲတော်များ |
| | 34 | 아기 옷을 선물하는 게 어때요?<br>ကလေးဝတ်အကျီ လက်ဆောင်ပေးရင် ဘယ်လို နေမလဲ။ | 추천하기<br>ထောက်ခံအားပေးခြင်း<br>순서 말하기<br>အလှည့်စဉ်ပြောခြင်း | 특별한 날<br>နေ့ထူးနေ့မြတ်<br>결혼 문화<br>ထိမ်းမြားမင်္ဂလာ ယဉ်ကျေးမှု | -는 게 어때요<br>-고 나서 | 한국인의 경조사<br>သာရေးနာရေးများ |
| | 35 | 한국 드라마가 재미있잖아요<br>ကိုရီးယားကားတွေက စိတ်ဝင်စားစရာ ကောင်းတယ်မဟုတ်လား။ | 이유 말하기<br>အကြောင်းရင်းပြောပြခြင်း<br>추측하기<br>မှန်းဆခြင်း | 한류<br>ကိုရီးယားရေစီးကြောင်း<br>K-POP & Drama<br>경제 및 산업<br>စီးပွားရေးနှင့် စက်မှုလုပ်ငန်း | -잖아요<br>-는/(으)ㄴ 것 같다 | 한류 여행<br>Korea Drama & K-POP ခရီး |
| 직장문화<br>အလုပ်ခွင် ယဉ်ကျေးမှု | 36 | 단정한 모습이 좋아 보여요<br>သပ်ရပ်သော အသွင်အပြင်က ကြည့်ကောင်းတယ်။ | 복장 설명하기<br>ဝတ်စုံရှင်းပြခြင်း<br>충고하기<br>အကြံဉာဏ်ပေးခြင်း | 복장<br>အဝတ်အစား<br>태도<br>အပြုအမူ | -아/어 보이다<br>-게 | 작업 현장의 복장<br>အလုပ်ခွင်ဝတ်စုံ |
| | 37 | 출입문을 꼭 닫읍시다<br>အဝင်အထွက်တံခါးကို ဆက်ဆက် ပိတ်ကြရအောင်။ | 기숙사 주의사항 알리기<br>အဆောင်တွင် သတိပြုရမည့် အချက်များ အသိပေးခြင်း | 기숙사<br>အဆောင်<br>냉난방기<br>အဲကွန်း+ဘွိုင်လာ | -(으)ㅂ시다<br>-는 동안 | 한국의 주거 형태<br>ကိုရီးယားလူနေမှုဓလေ့ |
| | 38 | 일할 맛이 나요<br>အလုပ်လုပ်ရကျိုးနပ်တယ်။ | 직장의 분위기 소개하기<br>အလုပ်ခွင်အနေအထား မိတ်ဆက်ခြင်း<br>동료와의 갈등 표현하기<br>လုပ်ဖော်ကိုင်ဖက်ကြားက ပဋိပက္ခအကြောင်းပြောခြင်း | 직장의 분위기<br>အလုပ်ခွင်အနေအထား<br>동료와의 갈등<br>လုပ်ဖော်ကိုင်ဖက်ကြားက ပဋိပက္ခ | -는/-(으)ㄴ 편이다<br>-다고 하다 | 직장 내에서의 호칭<br>အလုပ်ခွင် အခေါ်အဝေါ်များ |
| | 39 | 오늘 회식을 하자고 해요<br>ဒီနေ့ ကုမ္ပဏီညစာစားပွဲ လုပ်ရအောင်လို့ပြောတယ်။ | 회식 일정 공지하기<br>ကုမ္ပဏီညစာစားပွဲ အစီအစဉ် ကြေညာခြင်း<br>새 직원 소개하기<br>ဝန်ထမ်းသစ် မိတ်ဆက်ခြင်း | 회식<br>ကုမ္ပဏီညစာစားပွဲ<br>직장에서의 모임<br>အလုပ်ခွင်မှ စုဝေးတွေ့ဆုံခြင်းများ | -자고 하다<br>-(으)라고 하다 | 한국의 회식 문화<br>ကိုရီးယားရဲ့ ကုမ္ပဏီ ညစာစားပွဲ ယဉ်ကျေးမှု |
| | 40 | 불쾌감을 느꼈다면 그건 성희롱이에요<br>စိတ်ကျဉ်းကျပ်မှုကို ခံစားရတယ်ဆိုရင် အဲဒါ ကာမဆိုင်ရာအသား ယုပြောဆိုမှု မြောက်ပါတယ်။ | 성희롱 예방 조언하기<br>ကာမဆိုင်ရာအသား ယုပြောဆိုမှု ကြိုတင်ကာကွယ်နည်း အကြံပြုချက်<br>성추행에 대한 강의 듣기<br>ကာမဆိုင်ရာအသား ယုပြောဆိုမှု ပို့ချချက် နားထောင်ခြင်း | 성희롱<br>ကာမဆိုင်ရာအသား ယုပြောဆိုမှု<br>성희롱 대처 방법<br>ကာမဆိုင်ရာ အသားယု ပြောဆိုမှု ဖြေရှင်းနည်း | -냐고 하다<br>간접화법의 축약형 | 성희롱의 개념과 처벌<br>ကာမဆိုင်ရာအသား ယုပြောဆိုမှု အဓိပ္ပါယ်နှင့် ပြစ်ဒဏ်များ |
| | 41 | 드라이버로 해 보세요<br>ဝက်အူလှည့်နဲ့ လုပ်ကြည့်ပါ။ | 작업 도구 제안하기<br>ပစ္စည်းကိရိယာများ သုံးစေခြင်း<br>작업 상황 설명하기<br>အလုပ်ခွင်အခြေအနေရှင်းပြခြင်း | 제조업 수공구<br>ကုန်ထုတ်လုပ်ငန်းသုံးပစ္စည်းများ<br>제조업 기계<br>ကုန်ထုတ်လုပ်ငန်းသုံး စက်များ | (으)로<br>-고 있다 | 작업에 필요한 도구<br>အလုပ်ခွင်တွင် လိုအပ်သော ပစ္စည်းကိရိယာများ |
| | 42 | 이 기계 어떻게 작동하는지 알아요?<br>ဒီစက်ကို ဘယ်လို ကိုင်ရလဲ သိလား။ | 기계 작동법 설명하기<br>စက်လည်ပတ်ပုံ ရှင်းပြခြင်း<br>작업 보고하기<br>အလုပ်အစီရင်ခံခြင်း | 기계 작동<br>စက်လည်ပတ်ခြင်း<br>포장 작업<br>ပါကင်ပိတ်ခြင်း | -는지 알다/모르다<br>-(으)ㄹ 것 같다 | 안전한 도구 및 기계 사용법<br>စက်နှင့် ပစ္စည်းများ ဘေးကင်းစွာ အသုံးပြုနည်း |



| 주제<br>အကြောင်းအရာ | 과<br>အခန်း | 제목<br>ခေါင်းစဉ် | 기능/직무 구조<br>သင်ခန်းစာအကြောင်းအရာ | 어휘<br>ဝေါဟာရ | 문법<br>သဒ္ဒါ | 정보/문화<br>သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု |
|---|---|---|---|---|---|---|
| **직장생활** လုပ်ငန်းခွင်ဘဝ | 43 | **철근을 옮겨 놓으세요**<br>ကွန်ကရစ်သံချောင်းကို ရွှေ့ထားပါ။ | 작업 지시하기<br>အလုပ်တာဝန်ညွှန်ကြားခြင်း<br>작업 확인하기<br>အလုပ်တာဝန် စစ်ဆေးခြင်း | 건설 현장<br>ဆောက်လုပ်ရေးလုပ်ငန်းခွင်<br>유통업 포장<br>ပို့ဆောင်ရေးလုပ်ငန်း ပါကင်ထုပ်ခြင်း | -아/어 놓다<br>-지요 | 건설 현장의 중장비<br>ဆောက်လုပ်ရေးလုပ်ငန်းခွင် စက်ယန္တရားများ |
| | 44 | **페인트 작업을 했거든요**<br>ဆေးသုတ်ထားတာမို့ပါ။ | 작업장 환경 묘사하기<br>လုပ်ငန်းခွင်အခြေအနေ ပုံဖော်ပြခြင်း<br>정리 정돈 말하기<br>နေရာတကျထားရန် ပြောခြင်း | 작업장 환경<br>အလုပ်ခွင်ပတ်ဝန်းကျင် အနေအထား<br>폐기물과 정리 도구<br>စွန့်ပစ်ပစ္စည်း သိမ်းဆည်းစက် | -거든요<br>-아지다/어지다 | 작업 도구 정리 정돈<br>အလုပ်ခွင်သုံး ကိရိယာများ နေရာတကျ ထားရှိခြင်း |
| | 45 | **호미를 챙겼는데요**<br>မြေဆွတံစဉ်ကို ယူလာပါတယ်။ | 작업 변경 요구하기<br>အလုပ်အပြောင်းအလဲ တောင်းဆိုခြင်း<br>작업 요청하기<br>အလုပ်တောင်းခံခြင်း | 농업 1<br>စိုက်ပျိုးရေး ၁<br>농업 2<br>စိုက်ပျိုးရေး ၂ | -는데요<br>-기 전에 | 한국 농촌의 사계절<br>ကျေးလက်ရဲ့ လေးရာသီ |
| | 46 | **더 신경 쓰도록 하자**<br>ပို ဂရုစိုက်ကြရအောင်။ | 문제 원인 찾기<br>ပြဿနာဇစ်မြစ်ရှာခြင်း<br>해결 방안 말하기<br>ဖြေရှင်းမည့်နည်းလမ်း အကြောင်းပြောခြင်း | 축산업<br>မွေးမြူရေးလုပ်ငန်း<br>어업<br>ငါးဖမ်းလုပ်ငန်း | -도록 하다<br>-게 되다 | 축산업과 어업 현장의 직업<br>မွေးမြူရေးနှင့် ရေလုပ်ငန်း လုပ်ငန်းခွင်မှတာဝန်များ |
| | 47 | **재고를 파악하는 것이 중요해요**<br>ကုန်လက်ကျန် အခြေအနေကို သိဖို့ အရေးကြီးတယ်။ | 업무 관리하기<br>အလုပ်တာဝန် ကြီးကြပ်ခြင်း<br>업무 실수 말하기<br>အလုပ်ခွင်အမှားအယွင်း အကြောင်းပြောခြင်း | 창고 관리<br>ဂိုဒေါင်ကြီးကြပ်ခြင်း<br>가구 제조<br>ပရိဘောဂ ထုတ်လုပ်ခြင်း | -는 것이 중요하다<br>-(으)ㄹ 것이다 | 직장에서의 칭찬 노하우<br>အလုပ်ခွင်တွင်း ချီးကျူးစကား ပြောခြင်း |
| | 48 | **다치지 않도록 조심하세요**<br>မထိခိုက်မိအောင်သတိထားပါ။ | 기계 작업 시 주의사항 말하기<br>စက်ကိုင်ချိန် သတိပြုရမည့်အချက်များ အကြောင်း ပြောခြင်း<br>위험 상황 대처하기<br>အန္တရာယ်အခြေအနေ ကိုင်တွယ်ဖြေရှင်းခြင်း | 기계 작업<br>စက်ကိုင်ခြင်း<br>재해<br>ထိခိုက်မှုများ | -(으)ㄴ 적이 있다/없다<br>-지 않도록 조심하다 | 작업장 사고<br>အလုပ်ခွင် မတော်တဆမှု |
| | 49 | **안전화를 안 신으면 다칠 수 있어요**<br>လုံခြုံရေးဖိနပ် မစီးရင် အန္တရာယ်ရတတ်တယ်။ | 위험 상황 예방하기<br>အန္တရာယ် ကြိုတင်ကာကွယ်ခြင်း<br>위험 가능성 경고하기<br>အန္တရာယ်ရှိနိုင်မှု သတိပေးခြင်း | 보호구<br>အကာအကွယ်ပစ္စည်းများ<br>작업장 사고<br>အလုပ်ခွင်မတော်တဆမှု | -(으)ㄹ 수 있다<br>-기 때문에 | 신체 기관과 보호구<br>ကိုယ်ခန္ဓာအစိတ်အပိုင်းများနှင့် အကာအကွယ်ပစ္စည်းများ |
| | 50 | **열심히 해 준 덕분이에요**<br>ကြိုးကြိုးစားစားလုပ်ပေးတဲ့ ကျေးဇူးကြောင့်ပါ။ | 업무 평가하기<br>အလုပ်ခွင်အကဲဖြတ်ခြင်း<br>건강 말하기<br>ကျန်းမာရေးအကြောင်းပြောခြင်း | 안전 수칙<br>လုံခြုံရေးစည်းကမ်းများ<br>건강 증진<br>ကျန်းမာရေး ကောင်းလာခြင်း | -(으)ㄴ 덕분에<br>-기로 하다 | 건강을 위한 스트레칭<br>ကျန်းမာရေးအတွက် အကြောလျှော့ခြင်း |
| **법령 및 제도** ဥပဒေနှင့် စနစ်များ | 51 | **한국에 가서 일을 하고 싶은데요**<br>ကိုရီးယားကို သွားပြီး အလုပ်လုပ်ချင်ပါတယ်။ | 고용허가제에 대해 묻고 답하기<br>EPS စနစ်အကြောင်း အမေးအဖြေ<br>EPS-TOPIK에 대해 문의하기<br>EPS-TOPIK စာမေးပွဲအကြောင်း အမေးအဖြေ | 고용허가제<br>EPS စနစ်အကြောင်း<br>한국어 능력시험<br>EPS-TOPIK စာမေးပွဲ | EPS-TOPIK 신청서 작성하기<br>EPS-TOPIK စာမေးပွဲဖောင် ဖြည့်ခြင်း | 고용허가제 이해하기<br>EPS စနစ်အကြောင်း လေ့လာခြင်း |
| | 52 | **근로 조건이 좋은 편이에요**<br>လုပ်ငန်းခွင်အခြေအနေက ကောင်းတဲ့သဘောရှိတယ်။ | 근로계약서 내용 문의하기<br>အလုပ်စာချုပ်အကြောင်း မေးမြန်းခြင်း<br>근로 계약 체결하기<br>အလုပ်စာချုပ်ချုပ်ဆိုခြင်း | 근로 조건<br>အလုပ်အချက်အလက်များ<br>취업 절차<br>အလုပ်ရှာခြင်း အဆင့်ဆင့် | 표준근로계약서 작성하기<br>အလုပ်စာချုပ် ဖြည့်စွက်ခြင်း | 표준근로계약서<br>အလုပ်စာချုပ် |



| 주제<br>အကြောင်းအရာ | 과<br>အခန်း | 제목<br>ခေါင်းစဉ် | 기능/직무 구조<br>သင်ခန်းစာအကြောင်းအရာ | 어휘<br>ဝေါဟာရ | 문법<br>သဒ္ဒါ | 정보/문화<br>သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု |
|---|---|---|---|---|---|---|
| 법령 및 제도<br>ဥပဒေနှင့် စနစ်များ | 53 | 외국인 등록을 하러 가요<br>နိုင်ငံခြားသား မှတ်ပုံတင် လုပ်ဖို့ သွားမယ်။ | 입국 심사 받기<br>ပြည်ဝင်စစ်ဆေးမှုခံယူခြင်း<br>외국인 등록하기<br>နိုင်ငံခြားသားမှတ်ပုံတင်ခြင်း | 입국 절차<br>ပြည်ဝင်လုပ်ငန်းစဉ်များ<br>외국인 등록<br>နိုင်ငံခြားသားမှတ်ပုံတင်ခြင်း | 취업 교육<br>이해하기<br>အလုပ်ခွင်သင်တန်း အကြောင်း | 외국인 등록<br>နိုင်ငံခြားသားမှတ်ပုံတင်ခြင်း |
| | 54 | 보험금을 신청하려고요<br>အာမခံကြေးလျှောက်မလို့ပါ။ | 보험 가입하기<br>အာမခံထားခြင်း<br>보험금 청구하기<br>အာမခံကြေး တောင်းခံခြင်း | 보험 가입<br>အာမခံထားခြင်း<br>보험금 청구<br>အာမခံကြေး တောင်းခံခြင်း | 보험 안내<br>이해하기<br>အာမခံ လမ်းညွှန်များ လေ့လာခြင်း | 외국인 근로자 보험<br>နိုင်ငံခြားသားအလုပ်သမား အာမခံ |
| | 55 | 급여 명세서를 확인해 보세요<br>လစာပြေစာကို စစ်ကြည့်ပါ။ | 급여 명세서 확인하기<br>လစာပြေစာ စစ်ဆေးခြင်း<br>수당 확인하기<br>လုပ်အားခ စစ်ဆေးခြင်း | 급여와 세금<br>လစာနှင့် အခွန်ငွေ<br>수당<br>လုပ်အားခ | 급여 명세서<br>읽기<br>လစာပြေစာ ဖတ်ခြင်း | 월급<br>လစာ |
| | 56 | 이번 여름 휴가 계획은 세웠어?<br>နွေရာသီပိတ်ရက်ရှည် အစီအစဉ်ဆွဲပြီးပြီလား။ | 휴가 알아보기<br>ပိတ်ရက်အကြောင်း လေ့လာခြင်း<br>병가 신청하기<br>ဆေးခွင့်တင်ခြင်း | 휴가<br>ခွင့်ရက်ရှည်<br>병가<br>ဆေးခွင့် | 휴가 신청서<br>이해하기<br>ခွင့်ရက်ရှည် လျှောက်ထားခြင်း | 휴가에 대한<br>근로기준법의 이해<br>ပိတ်ရက်ဆိုင်ရာ အလုပ်သမားဥပဒေ အကြောင်း |
| | 57 | 사업장을 변경하고 싶은데<br>အလုပ်ပြောင်းချင်လို့ပါ။ | 사업장 변경 절차<br>알아보기<br>အလုပ်ရုံ ပြောင်းခြင်း လုပ်ငန်းစဉ် လေ့လာခြင်း<br>일시 출국 절차 확인하기<br>ခေတ္တပြန်ခြင်း လုပ်ငန်းစဉ် လေ့လာခြင်း | 사업장 변경<br>အလုပ်ရုံ ပြောင်းခြင်း<br>조기 귀국과 일시 출국<br>စောပြန်ခြင်းနှင့် ခေတ္တပြန်ခြင်း | 재입국<br>허가 동의서<br>이해하기<br>ပြည်ပြန်ဝင်ခွင့် သဘောတူစာ အကြောင်း နားလည်ခြင်း | 사업장 변경<br>အလုပ်ရုံ ပြောင်းခြင်း |
| | 58 | 체류 기간을 연장한 후에 꼭 신고해야 해<br>နေထိုင်ခွင့်သက်တမ်း တိုးပြီးရင် ဆက်ဆက် အကြောင်းကြားရမယ်။ | 체류 연장 절차 알아보기<br>နေထိုင်ခွင့်သက်တမ်းတိုးခြင်း လုပ်ငန်းစဉ် မေးမြန်းခြင်း<br>체류 자격 변경 이해하기<br>နေထိုင်ခွင့်ဗီဇာအကြောင်း | 체류 기간 연장<br>နေထိုင်ခွင့်သက်တမ်းတိုးခြင်း<br>체류 자격<br>နေထိုင်ခွင့်ဗီဇာ | 체류 기간<br>연장 신청서<br>작성하기<br>နေထိုင်ခွင့် သက်တမ်းတိုး ဖောင် ဖြည့်ခြင်း | 체류 기간 연장 신청<br>နေထိုင်ခွင့်သက်တမ်းတိုး လျှောက်ထားခြင်း |
| 직장생활용어<br>အလုပ်ခွင်သုံး ဝေါဟာရများ | 59 | 산업 안전 Ⅰ<br>လုပ်ငန်းခွင်တွင်း ဘေးကင်းလုံခြုံမှု ၁ | 산업 안전표지 익히기<br>စက်မှုလုပ်ငန်းဆိုင်ရာ ဘေးကင်းရေးဆောင်ပုဒ်များ မှတ်သားခြင်း<br>제조업 관련 안전 수칙 익히기<br>ကုန်ပစ္စည်းထုတ်လုပ်မှုဆိုင်ရာ လိုက်နာရန် စည်းမျဉ်းများ မှတ်သားခြင်း | 산업 안전표지<br>စက်မှုလုပ်ငန်းဆိုင်ရာ ဘေးကင်းရေးဆောင်ပုဒ်များ<br>제조업 관련 안전 수칙<br>ကုန်ပစ္စည်းထုတ်လုပ်မှုဆိုင်ရာ လိုက်နာရန် စည်းမျဉ်းများ | | 직업병<br>အလုပ်ရောဂါ |
| | 60 | 산업 안전 Ⅱ<br>လုပ်ငန်းခွင်တွင်း ဘေးကင်းလုံခြုံမှု ၂ | 건축업 관련 안전 수칙<br>익히기<br>ကုန်ပစ္စည်းထုတ်လုပ်မှု ဆိုင်ရာ လိုက်နာရန် စည်းမျဉ်းများ | 건축업 관련 안전 수칙<br>ဆောက်လုပ်ရေးလုပ်ငန်း ဆိုင်ရာ လိုက်နာရန် စည်းမျဉ်းများ မှတ်သားခြင်း | | 직업병 예방<br>အလုပ်ရောဂါ ကာကွယ်ရေး |




선생님 ဆရာမ


리한 ရီဟန်
ပါကစ္စတန်


투안 ထူအန်း
ဗီယက်နမ်


바루 ဘာရူ
အင်ဒိုနီးရှား


아딧 အာဒစ်
ထိုင်း


카림 ခါရင်း
ဥဇဘက်ကစ္စတန်


바트 ဘာထု
မွန်ဂို


칸 ခန်း
ကမ္ဘောဒီးယား


타타 ထာထာ
အင်ဒိုနီးရှား


이반 အီဗန်
ဥဇဘက်ကစ္စတန်


인디카 အင်ဒီခါ
သီရိလင်္ကာ


리리 လီလီ
တရုတ်


수피카 ဆူဖီခါ
ထိုင်း


흐엉 ဟူအောင်း
ဗီယက်နမ်


모니카 မိုနီခါ
သီရိလင်္ကာ


수루 ဆူရူ
တရုတ်


박지훈 ဘတ်ဂျီဟွန်း
ကိုရီးယား


김건우 ဂင်ဂေါ်နူ
ကိုရီးယား


이미영 အီမိယောင်း
ကိုရီးယား


정소희 ဂျောင်ဆိုဟီး
ကိုရီးယား


이민우 အီမင်နူ
ကိုရီးယား

# မြန်မာ-ကိုရီးယား ဘာသာစကား နှိုင်းယှဉ်ချက်

## 1 ဘာသာစကားအုပ်စု

MK 2

မြန်မာဘာသာစကားက တရုတ်-တိဘက် ဘာသာစကားအုပ်စုမှာ ပါဝင်ပြီး ကိုရီးယားဘာသာစကားကတော့ အာလ်တိုက်(Altaic)ဘာသာစကားအုပ်စုမှာ ပါဝင်ပါတယ်။ အခုလို ဘာသာစကားအုပ်စုချင်း မတူညီကြပေမဲ့ ကိုရီးယားနဲ့ မြန်မာဘာသာစကားမှာ ဆင်တူတဲ့ အချက်တွေ အလွန် များပါတယ်။

| | ဘာသာစကားအုပ်စု | နီးစပ်သော ဘာသာစကားများ |
|---|---|---|
| M | တရုတ်-တိဘက်အုပ်စု | တိဘက်၊ လီဆူ၊ အာချန်း ဘာသာစကားများ |
| K | အာလ်တိုက်အုပ်စု | ဥဇဘက်ကစ္စတန်၊ ကာဂျစ္စတန်၊ တူရကီ ဘာသာစကားများ |

## 2 အသံထွက်များ

### 1. သရသံနှင့် ဗျည်းသံများ

ကိုရီးယားဘာသာစကားမှာ မြန်မာလူမျိုးတွေ အသံထွက်ရခက်တဲ့ သရသံနဲ့ မြန်မာဘာသာစကားမှာ မရှိတဲ့ ဗျည်းသံတွေ ရှိပါတယ်။

သရ ㅡ[ɨ] ရဲ့ အသံထွက်ကို မြန်မာဘာသာစကားနဲ့ တစ်ထပ်တည်းကျအောင် မဖော်ပြနိုင်ပါဘူး။ အနီးစပ်ဆုံး ရေးရင် [အွတ်]လို့ ရေးလို့တော့ ရပေမဲ့ ဒါဟာ ㅡ[ɨ] ရဲ့ တကယ့် အသံအမှန်တော့ မဟုတ်ပါဘူး။ ဒါကြောင့်မို့ တကယ့် ကိုရီးယားအသံကို နားထောင်ပြီး ပါးစပ်ပုံစံကို တူအောင် လိုက်လုပ်ရင်း လေ့ကျင့်ရပါမယ်။

ဗျည်း ㄹ[r/l] ရဲ့ အသံထွက်ဟာလည်း မြန်မာစကားစစ်စစ်မှာတော့ မရှိပါဘူး။ သူ့ကို [ya]လို့ မဖတ်ရပါဘူး။ အင်္ဂလိပ်စကားရဲ့ [r]အသံ(ex:[ရိုမီယို/romeo]) သို့မဟုတ် ရခိုင်[Rakhai]ရဲ့ [ra]သံမျိုး ထွက်ပေးရပါတယ်။ သူကတော့ မြန်မာစကားမှာ မရှိပေမဲ့ မြန်မာတွေနဲ့ စိမ်းလှတဲ့ အသံမျိုးတော့ မဟုတ်တဲ့အတွက် အခက်အခဲတော့ မရှိပါဘူး။

### 2. အသတ်သံများ

#### (1) တစ်လုံးတည်း အသတ်များ

ကိုရီးယားနဲ့ မြန်မာဘာသာစကားတွေမှာ အသတ်သံ ထွက်ပုံချင်းလည်း အနည်းငယ် ကွာခြားပါတယ်။ မြန်မာဘာသာစကားမှာ နာသံနဲ့ သံပြတ် အသံထွက်တွေကို ထွက်တဲ့အခါ အသံရဲ့ တည်နေရာနဲ့ ပါးစပ်ပုံစံက အရေးမကြီးတာမို့ အသံတူတာ၊ အသံခွဲရခက်တာမျိုးတွေ ရှိပါတယ်။ ဒါပေမဲ့ ကိုရီးယားဘာသာစကားမှာတော့ အသံထွက်တဲ့ နေရာနဲ့ ပါးစပ်ပုံစံက အရေးကြီးတာမို့ သတိထားပြီး လေ့ကျင့်ရပါမယ်။

| | |
|---|---|
| နာသံများ | - 강[kaŋ], 간[kan], 감[kam] (မြန်မာမှာ - ကံ၊ ကန်၊ ကမ်[kan]) |
| သံပြတ်အသံများ | - 각[kak], 갇[kat], 갑[kap] (မြန်မာမှာ - ကက်[ket]၊ ကတ်=ကပ်[kat]) |
| လျှာလိပ်သံ | - 갈[kal] (မြန်မာဘာသာစကားတွင် မရှိသော်လည်း အင်္ဂလိပ်ဘာသာစကားမှ လျှာလိပ်သံကဲ့သို့ အသံထွက်လျှင် ရပါသည်။) |



• ကိုရီးယားဘာသာစကားမှာလည်း အသံတူ အသတ်များ ရှိပါတယ်။

(ကိုရီးယား) 각, 갂, 갘 > [kak]
갇, 갓, 갔, 갖, 갗, 같 > [kat]
갑, 갚 > [kap]

(မြန်မာ) ကတ်[kat]=ကပ်[kat]

## (2) နှစ်လုံးတွဲ အသတ်များ

ကိုရီးယားနဲ့ မြန်မာဘာသာစကားဟာ နှစ်လုံးတွဲအသတ်တွေမှာလည်း အသံထွက်ပုံချင်း ကွာခြားပါတယ်။ ကိုရီးယားရဲ့ နှစ်လုံးတွဲအသတ်ကတော့ နှစ်ခုအနက်မှ တစ်ခုကိုပဲ အသံထွက်ရတာဖြစ်ပြီး မြန်မာစကားရဲ့ နှစ်လုံးတွဲအသတ်ကတော့ တစ်ခုက အသတ်၊ တစ်ခုက ဗျည်းဖြစ်ပါတယ်။

(ကိုရီးယား) - 값[kap]
(မြန်မာ) - တက္ကသိုလ်(တက်ကသိုလ်[tekkatho])

# 3. အသံကူးခြင်း

စကားသံများဟာ စကားလုံး တစ်လုံးထက် ပိုလာတဲ့အခါ အသံကူးတတ်ပါတယ်။ အသတ်ပါတဲ့ စကားလုံးရဲ့ အနောက်မှာ သရနဲ့ စတဲ့ စကားလုံး (ဗျည်းမဲ့သင်္ကေတ 'ㅇ' ) ရှိရင် ရှေ့က စကားလုံးရဲ့ အသတ်ဟာ နောက်က စကားလုံးရဲ့ ဗျည်းအဖြစ် အသံကူးသွားပါတယ်။

• 밥을 먹어요 [바블 머거요]
ဒီဝါကျမှာ (을 နဲ့ 어) ရဲ့ အရှေ့မှာ အသတ်တွေ ရှိတဲ့အတွက်ကြောင့် (블 နဲ့ 거) ဆိုပြီး အသံကူးသွားတာဖြစ်ပါတယ်။

# 4. အသံပြောင်းခြင်း

စကားသံများဟာ စကားလုံး တစ်လုံးထက် ပိုလာတဲ့အခါ အသံပြောင်းတတ်ပါတယ်။ ကိုရီးယားရဲ့ အသံပြောင်းခြင်း စည်းကမ်းတွေကတော့ အများကြီး ရှိပါတယ်။ အများအားဖြင့် ရှေ့က စကားလုံးရဲ့ အသတ်က နောက်က စကားလုံးရဲ့ ဗျည်း သို့မဟုတ် သရရဲ့ သက်ရောက်မှုကြောင့် ရှေ့က စကားလုံးရဲ့ အသံပြောင်းသွားတာမျိုး ဖြစ်ပါတယ်။

• 국내 kukne [kuŋnɛ], 막내 makne [maŋnɛ]
'ㄱ' အသတ်နောက်မှာ 'ㄴ' ဗျည်း ရှိရင် 'ㄱ' ဟာ 'ㅇ' သံဖြစ်သွားပါတယ်။ ဒါကို နာသံပြောင်းခြင်းလို့ ခေါ်ပါတယ်။

(ကိုရီးယားဘာသာစကားရဲ့ အသံကူးပြောင်းပုံ အသေးစိတ်ကို သင်ခန်းစာ တစ်ခန်းချင်းစီမှာ ထပ် ရှင်းပြပါ့မယ်။)

# မြန်မာ-ကိုရီးယား ဘာသာစကား နှိုင်းယှဉ်ချက်

## 3 သဒ္ဒါနှင့် အသုံးများ

### 1. ဝါကျစဉ်

(1) ကိုရီးယားနဲ့ မြန်မာဘာသာစကားဟာ ဝါကျစဉ်လည်း တူညီပါတယ်။ ကတ္တား+ကြိယာ+ကံ(SVO)ဝါကျစဉ်ဖြစ်တဲ့ တရုတ်နဲ့ အင်္ဂလိပ်ဘာသာစကားလိုမဟုတ်ဘဲ ကိုရီးယားနဲ့ မြန်မာဘာသာစကားဟာ ကတ္တား+ကံ+ကြိယာ(SOV) ဝါကျစဉ်ပုံစံဖြစ်ပါတယ်။




(2) ကိုရီးယားဘာသာစကားဟာ မြန်မာဘာသာစကားလိုပဲ ကြိယာရဲ့ အရှေ့မှာ ကြိယာဝိသေသနကို ထားရပါတယ်။




(3) ကိုရီးယားဘာသာစကားဟာ မြန်မာဘာသာစကားလိုပဲ နာမ်ရဲ့ အနောက်မှာ ဝိဘတ်လိုက်ပါတယ်။




(4) ကိုရီးယားဘာသာစကားဟာ မြန်မာဘာသာစကားလိုပဲ အကူကြိယာဟာ ပင်မကြိယာရဲ့ အနောက်မှာ နေရပါတယ်။





(5) ကိုရီးယားဘာသာစကားမှာ အငြင်းကို ပြချင်တဲ့အခါ မြန်မာဘာသာစကားလိုပဲ (မ+ကြိယာ+ဝါကျအဆုံးသတ်) ပုံစံရှိပါတယ်။ ဒါ့အပြင် မြန်မာမှာ မရှိတဲ့ (ကြိယာ+အငြင်း+ဝါကျအဆုံးသတ်)ပုံစံလည်း ရှိပါတယ်။




(6) မြန်မာစကားမှာ နာမ်ကို အထူးပြုတဲ့အခါ ရှေ့ကနေရော နောက်ကနေပါ စကားလုံးထည့်လို့ရပေမဲ့ ကိုရီးယားစကားမှာတော့ နာမ်ရဲ့ အရှေ့ကနေပဲ အထူးပြုလို့ရပါတယ်။




## 2. လိပ်စာနှင့် ရက်စွဲ ရေးနည်း

(1) ကိုရီးယားနိုင်ငံမှာ လိပ်စာရေးတဲ့အခါ ကြီးစဉ်ငယ်လိုက် အစဉ်အတိုင်း ရေးရပါတယ်။

| | |
|---|---|
| M | အမှတ် ၂၄၆၊ သမာဓိလမ်း၊ သီရိမင်္ဂလာရပ်၊ မော်လမြိုင်မြို့။ |
| K | 울산광역시 중구 종가로 345 한국산업인력공단<br>အူးလ်ဆန်းမြို့၊ ဂျုန်ဂူမြို့နယ်၊ ဂျုံဂါရိုလမ်း၊ အမှတ် ၃၄၅<br>လူ့စွမ်းအားအရင်းအမြစ်ဖွံ့ဖြိုးရေးဌာန |

(2) မြန်မာဘာသာစကားမှာ (ရက်၊လ၊နှစ်)လို့ ရေးပေမဲ့ ကိုရီးယားဘာသာစကားမှာတော့ (နှစ်၊လ၊ရက်)လို့ပဲ ရေးပါတယ်။

| | |
|---|---|
| M | ၃၁ ရက်၊ ၁၀ လ၊ ၂၀၁၈ ခုနှစ် |
| K | 2018년 10월 31일 |

## 3. အချိန်နှင့် ကာလ

မြန်မာစကားမှာ (ခဲ့တယ်/တယ်/မယ်)စတဲ့ စကားလုံးတွေနဲ့ အချိန်ကာလ(အတိတ်/ပစ္စုပ္ပန်/အနာဂတ်/ပြုနေမှု/ပြီးဆုံးမှု)ကို ဖော်ပြပါတယ်။ ဒါပေမဲ့ ကိုရီးယားဘာသာစကားလောက်တော့ အချိန်ကာလပြ စကားလုံးတွေကို တိတိကျကျ တွင်တွင်ကျယ်ကျယ် အသုံးမပြုပါဘူး။

မြန်မာစကားနဲ့ ကိုရီးယားစကားရဲ့ အသိသာဆုံး ကွာခြားချက်ကတော့ ကြိယာနဲ့ တွဲဆက်ပုံ တွဲဆက်နည်းဖြစ်ပါတယ်။

| | | | | |
|---|---|---|---|---|
| M | စား + ခဲ့ + တယ်။ | စား + နေ + တယ်။ | စား + တယ်။ | စား + မယ်။ |
| K | 먹 + 었 + 다 | 먹 + 고 있 + 다 | 먹 + 는 + 다 | 먹 + 겠 + 다 |

အပေါ်က ဥပမာကို ကြည့်မယ်ဆိုရင် (စားခဲ့တယ်)နဲ့(စားနေတယ်)ရဲ့ စကားဆက်အသုံးပြုပုံက ကိုရီးယားနဲ့ မြန်မာ အတူတူပဲ ဖြစ်ပါတယ်။ ဒါပေမဲ့ (စားတယ်)နဲ့(စားမယ်)မှာကျတော့ မြန်မာစကားမှာ ဝါကျအဆုံးသတ် တစ်ခုတည်းနဲ့ အချိန်ကာလကို ဖော်ပြလို့ရပေမဲ့ ကိုရီးယားစကားမှာတော့ ကြိယာနဲ့ ဝါကျအဆုံးသတ်စကားလုံးရဲ့ ကြားမှာ ကာလပြစကားဆက်ကို မဖြစ်မနေ ထည့်ပေးရပါတယ်။

ဥပမာ 먹었다 ရဲ့ 었 ဟာဆိုရင် ဝါကျအဆုံးသတ်နဲ့ တွဲတဲ့ အတိတ်ကာလပြ စကားဆက်ပုံစံဖြစ်ပြီး သူ့ရှေ့က ကြိယာက အာသရလား အောသရလားဆိုတာကို ကြည့်ပြီးမှ တွဲဆက်ရတာဖြစ်ပါတယ်။
အဲဒီလိုပဲ။ ကိုရီးယားဘာသာစကားမှာ နာမ် သို့မဟုတ် ကြိယာကို စကားဆက် တစ်ခုနဲ့ တွဲဆက်တော့မယ်ဆိုရင် အမြဲတမ်း "ဗျည်း+သရအောက်မှာ အသတ်ပါခြင်း/မပါခြင်းနဲ့ ဗျည်းနဲ့ တွဲထားတဲ့ သရက ဘယ်လို သရလဲ"ဆိုတာကို ထည့်စဉ်းစားပေးရပါတယ်။

| | | | | |
|---|---|---|---|---|
| M | စားခဲ့သူ / သွားခဲ့သူ | စားတဲ့သူ / သွားတဲ့သူ | စားမယ့်သူ / သွားမယ့်သူ | စားနေတဲ့သူ / သွားနေတဲ့သူ |
| K | 먹은 사람 / 간 사람 | 먹는 사람 / 가는 사람 | 먹을 사람 / 갈 사람 | 먹고 있는 사람 / 가고 있는 사람 |

အပေါ်က ဥပမာကတော့ နာမ်ကို အထူးပြုတဲ့ ကာလပြစကားဆက် အသုံးပြုပုံကို နှိုင်းယှဉ်ပြထားတာဖြစ်ပါတယ်။ အတိတ်ကာလနဲ့ အနာဂတ်ကာလပြ စကားလုံးတွေမှာ ကြည့်ရင် အသတ်ပါခြင်း မပါခြင်းအပေါ်မူတည်ပြီး အသုံးပြုတဲ့ ကာလပြစကားဆက်ပုံစံ ကွဲပြားတာ တွေ့နိုင်ပါတယ်။ မြန်မာစကားမှာတော့ အဲဒီလို ဗျည်းသရ ခွဲသုံးခြင်းမျိုး မရှိတာမို့ ဒါဟာလည်း သေချာ လေ့လာမှတ်သားရမယ့် အကြောင်းအရာတစ်ခုပဲ ဖြစ်ပါတယ်။

နောက်တစ်ချက် မတူတာက မြန်မာစကားမှာ စကားဆက်ကို သုံးပြီး နာမ်ကို အထူးပြုတဲ့အခါ ဝါကျအဆုံးသတ်ကို သံတိုပြောင်းပေးလိုက်ရုံပါပဲ။ ဥပမာ(စားတယ် → စားတဲ့သူ/စားမယ် → စားမယ့်သူ)။
ဒါပေမဲ့ ကိုရီးယားစကားမှာတော့ ဝါကျအဆုံးသတ်နဲ့ တွဲခဲ့တဲ့ စကားလုံးကို နာမ်ကို အထူးပြုတဲ့အခါမှာ စကားဆက်အနေနဲ့ ဆက်သုံးလို့ ရတာလည်း ရှိသလို မရတာလည်းရှိပါတယ်။

ဥပမာ( 먹는다 → 먹는 사람 ✔), (먹었다 → 먹었 사람 X), (먹겠다 → 먹겠 사람 X), (먹고 있다 → 먹고 있 사람 X)



## 4. ယဉ်ကျေးသည့် အသုံးအနှုန်းများ

ကိုရီးယားဘာသာစကားမှာ ယဉ်ကျေးတဲ့ အသုံးနှင့် ပုံမှန်အသုံး၊ သူငယ်ချင်းသုံး စသည်ဖြင့် စကားပြောပုံစံများ ရှိပါတယ်။ မြန်မာစကားရဲ့ (ရှိသည်နှင့် ရှိပါသည်၊ စားသည်နှင့် သုံးဆောင်သည်)ကဲ့သို့သော အသုံးများဟာ ကိုရီးယားဘာသာစကားမှာ လွန်စွာ စုံလင်ကြွယ်ဝလှတဲ့အတွက် ကိုရီးယားဘာသာစကားရဲ့ အခက်ခဲဆုံး ကဏ္ဍလို့တောင် ဆိုကြပါတယ်။

| | |
|---|---|
| **M** | ငါ အိမ်မှာ ရှိတယ်။(ရိုးရိုးဝါကျ)<br>ကျွန်မ အိမ်မှာ ရှိပါတယ်။(ပိုယဉ်ကျေးတဲ့ ဝါကျ) |
| **K** | 저는 집에 있습니다.<br>선생님께서 댁에 계십니다. |

ကိုရီးယားစကားမှာ 저(ကျွန်တော်)ဆိုတာ မိမိကိုယ်ကို နှိမ့်ချတဲ့ အသုံးဖြစ်ပြီး 습니다(ပါတယ်။)ကလည်း ကိုယ့်ထက်ကြီးတဲ့ သူကို ပြောတဲ့အခါမှာ သုံးတဲ့ ဝါကျအဆုံးသတ်ပုံစံဖြစ်ပါတယ်။ အဲဒီလို မိမိကိုယ်ကို နှိမ့်ချပြောဆိုခြင်းအားဖြင့် ယဉ်ကျေးစေတဲ့ အသုံးမျိုးလည်း ရှိသလို နံပါတ်(၂)ဝါကျထဲကလို 께서(က)ဆိုတဲ့ ဝိဘတ်ကို အသုံးပြုပြီး တစ်ဖက်သားကို မြှင့်တင်ခြင်းအားဖြင့် စကားကို ယဉ်ကျေးစေတာမျိုးလည်း ရှိပါတယ်။ 댁(အိမ်)ဆိုတာကလည်း 집(အိမ်)ကို ပိုယဉ်ကျေးအောင် ပြောတာဖြစ်ပြီး 계시(ရှိ)ကလည်း 있(ရှိ)ကို ပိုယဉ်ကျေးအောင် သုံးတဲ့ စကားမျိုးဖြစ်ပါတယ်။ အဓိကအားဖြင့် မိမိကိုယ်ကို နှိမ့်ချတဲ့ ပုံစံနဲ့ တစ်ဖက်သားကို မြှင့်တင်တဲ့ ပုံစံဆိုပြီး ရှိတာမို့ ဒါတွေကို ကျွမ်းကျင်အောင် လေ့ကျင့်ဖို့ လိုပါတယ်။




# 우리 고향은 서울보다 공기가 맑아요

ကျွန်တော်တို့ ဇာတိမှာက ဆိုးလ်မှာထက် လေကောင်းလေသန့် ပိုရတယ်။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** ရာသီဥတုအကြောင်း ပြောတတ်စေရန်၊ နှိုင်းယှဉ်တတ်စေရန်
- □ **သဒ္ဒါ** -지만, 보다
- □ **ဝေါဟာရ** ရာသီဥတု၊ မြို့ပြအင်္ဂါရပ်များ
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** ကိုရီးယားရှိ ခရိုင်များ



## 대화 1 စကားပြော ၁






ဘာရူနဲ့ ချော်လ်မင် အပြင်ကို ကြည့်ရင်း စကားပြောနေကြပါတယ်။ သူတို့ ဘာအကြောင်း ပြောနေကြတာပါလဲ။ အရင်ဆုံး သူတို့ ပြောတာကို နှစ်ခေါက် နားထောင်ပြီး လိုက်ပြော ကြည့်ရအောင်။

바루 철민 씨, 밖을 보세요. 지금 눈이 와요. 우와 신기해요.
ချော်လ်မင်ရေ၊ အပြင်ကို ကြည့်ပါဦး။ အခု နှင်းတွေ ကျနေတယ်။ အံ့သြစရာကြီးဗျာ။

철민 바루 씨는 눈을 처음 봐요?
ဘာရူက နှင်းကျတာ အခုမှ မြင်ဖူးတာလား။

바루 네, 우리 고향은 일 년 내내 더워요. 12월에도 최저기온이 20도 정도라서 바닷가에 가서 수영도 할 수 있어요.
ဟုတ်တယ်ဗျ။ ကျွန်တော်တို့ဆီမှာက တစ်နှစ်ပတ်လုံး ပူတာ။ ၁၂လပိုင်းမှာတောင် အနိမ့်ဆုံးအပူချိန်က ၂၀ဒီဂရီ လောက်ပဲဆိုတော့ ပင်လယ်ကမ်းစပ် သွားပြီး ရေတောင် ကူးလို့ ရတယ်။

철민 정말요? 바루 씨 고향에 여행 가고 싶네요.
ဟုတ်လား။ ဘာရူတို့ ဇာတိကို အလည်သွားချင်လိုက်တာဗျာ။

바루 겨울에는 비가 많이 와서 습해요. 여행을 하려면 여름에 가세요. 기온은 높지만 비가 오지 않아서 여행하기 좋아요.
ဆောင်းတွင်းမှာတော့ မိုး အရမ်း ရွာတော့ စိုစွတ်စွတ်နဲ့။ သွားလည်မယ်ဆိုရင် နွေရာသီမှာ သွားဗျ။ အပူချိန်တော့ မြင့်ပေမယ့် မိုးမရွာတော့ လည်လို့ ပတ်လို့ ကောင်းတယ်။

**신기하다**
ထူးခြားအံ့သြဖွယ်ရာကောင်းသည်
- 외국인인데 한국 사람처럼 한국말을 하니까 정말 신기해요.
  နိုင်ငံခြားသားဖြစ်ပြီး ကိုရီးယားလူမျိုး အတိုင်း ကိုရီယားစကား ပြောတာ အရမ်း အံ့သြဖို့ ကောင်းတယ်။
- TV에서 마술을 하는 것을 봤는데 아주 신기했어요.
  တီဗီမှာ မျက်လှည့်ပြတာ တွေ့တာ အရမ်း ထူးဆန်းတယ်။

**정도 လောက်**
N쯤 ဖြင့် အစားထိုး အသုံးပြုနိုင်သည်။
- 집에서 회사까지 30분 정도 걸려요.
  အိမ်ကနေ ရုံးအထိ မိနစ် ၃၀လောက် ကြာတယ်။
- 한국에서 산 지 1년 정도 됐어요.
  ကိုရီးယားမှာ နေတာ ၁နှစ်လောက် ရှိပြီ။

သေချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 두 사람은 지금 무엇을 보고 있어요?
   သူတို့ နှစ်ယောက် အခု ဘာကို ကြည့်နေတာလဲ။
2. 바루 씨의 고향은 날씨가 어때요?
   ဘာရူတို့ ဇာတိမှာ ရာသီဥတုက ဘယ်လိုနေလဲ။

정답 1. 눈 오는 것을 보고 있어요. 2. 일 년 내내 더워요.



## 어휘 1 ဝေါဟာရ ၁ 날씨 ရာသီဥတု

ဒါကတော့ ရာသီဥတုနဲ့ သက်ဆိုင်တဲ့ အသုံးအနှုန်းလေးတွေပါ။ ဘာတွေရှိလဲဆိုတာ လေ့လာကြည့်ရအောင်။




| | | | |
|---|---|---|---|
| 기온<br>အပူချိန် | 영상<br>သုညမှတ်နှင့် အထက် | 영하<br>သုညမှတ် အောက် | 습도<br>စိုထိုင်းဆ |
| 최고기온<br>အမြင့်ဆုံးအပူချိန် | 최저기온<br>အနိမ့်ဆုံးအပူချိန် | 기온이 높다<br>အပူချိန် မြင့်သည် | 기온이 낮다<br>အပူချိန် နိမ့်သည် |
| 기온이 올라가다<br>အပူချိန် မြင့်တက်လာသည် | 기온이 내려가다<br>အပူချိန် ကျဆင်းသွားသည် | 습하다<br>စိုစွတ်သည် | 건조하다<br>ခြောက်သွေ့သည် |



အပေါ်က ဝေါဟာရတွေကို မကြည့်ဘဲ မေးခွန်းလေးတွေ ဖြေကြည့်ရအောင်။

1. 그림을 보고 알맞은 말을 연결하세요. ပုံကို ကြည့်ပြီး သင့်တော်တဲ့ စကားနဲ့ တွဲဆက်ပါ။




① ② ③ ④ ⑤

㉠ 영상 ㉡ 최고기온 ㉢ 습도 ㉣ 최저기온 ㉤ 영하

정답 1. ㉡ 2. ㉢ 3. ㉣ 4. ㉤ 5. ㉠

31 ကျွန်တော်တို့ ဇာတိမှာက ဆိုးလ်မှာထက် လေကောင်းလေသန့် ပိုရတယ်။

## 문법 1 သဒ္ဒါ ၁ -지만




အကြောင်းအရာချင်း ဆန့်ကျင်ဘက်ဖြစ်တဲ့ ဝါကျ နှစ်ကြောင်းကို ဆက်စပ်ပေးတဲ့အခါ သုံးပါတယ်။
ကြိယာ သို့မဟုတ် ဂုဏ်ရည်ပြကြိယာနဲ့ တွဲဖက်သုံးလေ့ရှိပြီး နာမ်နဲ့ တွဲတဲ့ အခါမှာတော့ '-(이)지만' ကို သုံးပါတယ်။

- 가: 수루 씨 고향의 여름 날씨는 어때요? ဆူရူတို့ ဇာတိမှာ နွေရာသီ ရာသီဥတုက ဘယ်လိုနေလဲ။
  나: 30도까지 기온이 **올라가지만** 습도가 낮아서 많이 덥지 않아요.
  ၃၀ ဒီဂရီလောက်ထိ အပူချိန် မြင့်တက်တတ်ပေမဲ့ စိုထိုင်းဆတော့ နိမ့်လို့ သိပ် အပူကြီးတော့ မဟုတ်ပါဘူး။
- 가: 인디카 씨 고향은 서울하고 비슷해요? အင်ဒီခါတို့ ဇာတိမှာရော ဆိုးလ်လိုပဲလား။
  나: 아니요, 서울에는 사람이 **많지만** 우리 고향에는 사람이 별로 없어요.
  ဟင့်အင်း၊ ဆိုးလ်မှာက လူတွေ များပေမဲ့ ကျွန်မတို့ ဇာတိမှာတော့ လူ သိပ်မရှိပါဘူး။

### 대조적 정보 နှိုင်းယှဉ်ချက်

'-지만' က '-ပေမဲ့'လို့ ဆိုလိုပါတယ်။ မြန်မာစာမှာလိုပဲ ဝါကျ နှစ်ကြောင်းကြားမှာ သုံးပြီး ပထမ ဝါကျရဲ့ ကြိယာ သို့မဟုတ် ဂုဏ်ရည်ပြကြိယာနဲ့ တွဲဖက် သုံးပါတယ်။

- 우리 아버지는 **크지만** 어머니는 작으세요. ကျွန်တော်တို့ အဖေက အရပ်ရှည်ပေမဲ့ အမေကတော့ ပုပါတယ်။
- 한국말을 잘 **못하지만** 한국 드라마를 좋아해요.
  ကိုရီးယားစကားကို ကောင်းကောင်း မပြောတတ်ပေမဲ့ ကိုရီးယားဇာတ်လမ်းတွဲကို ကြိုက်ပါတယ်။



'-지만' ရဲ့ အသုံးကို နားလည်ပြီလား။ ဒါဆိုရင် ပုံကို ကြည့်ပြီး ကွက်လပ်ထဲမှာ သင့်တော်ရာ စကားလုံးကို ဖြည့်ကာ စကားပြောကို အဆုံးသတ်ကြည့်ပါ။

2. 그림을 보고 '-지만'을 사용해서 대화를 완성하세요. ပုံကို ကြည့်ပြီး '-지만' ကို သုံး၍ ဝါကျကို အဆုံးသတ်ပါ။

1) 

여름 겨울

가: 한국은 겨울에도 습해요? ကိုရီးယားမှာက ဆောင်းတွင်းလည်း စိုစွတ်တာပဲလား။
나: 아니요, 여름에는 ____________ 겨울에는 ____________.
ဟင့်အင်း၊ နွေဘက်မှာတော့ စိုစွတ်ပေမဲ့ ဆောင်းတွင်းမှာတော့ မစိုစွတ်ပါဘူး။

2)  

낮 밤

가: 투안 씨 고향 날씨는 어때요? ထူအန်းတို့ ဇာတိရဲ့ ရာသီဥတုကရော ဘယ်လိုနေလဲ။
나: 낮에는 ____________ 밤에는 ____________.
နေ့ဘက်မှာတော့ ပူပေမဲ့ ညဘက်မှာတော့ အေးပါတယ်။

정답 1. 습하지만, 습하지 않아요 2. 덥지만, 시원해요



ထပ်ပြီး လေ့လာရအောင်။ '-지만' ကို သုံးပြီး ဝါကျကို အဆုံးသတ်ကြည့်ပါ။

1. 운동화는 ____________ 구두는 불편해요.
2. 오전에는 ____________ 지금은 안 와요.
3. 시장은 ____________ 공원은 가까워요.
4. 저는 기타는 못 ____________ 피아노는 칠 수 있어요.

정답 1. 편하지만 2. 왔지만 3. 멀지만 4. 치지만



## 대화 2 စကားပြော ၂

Track 98



ခန်း တစ်ယောက် တက္ကစီ ငှားစီးနေပါတယ်။ ကားဆရာနဲ့ ဘာတွေ ပြောနေကြလဲ။ အရင်ဆုံး သူတို့ ပြောနေတာကို နှစ်ခေါက် နားထောင်ကြည့်ရအောင်။

택시 기사 어서 오세요.
ကြွပါ ခင်ဗျာ။

칸 신도림으로 가 주세요.
ရှင်းဒိုရင်းကို သွားပေးပါခင်ဗျ။

택시 기사 네, 알겠습니다. 그런데 어디에서 오셨어요?
ဟုတ်ကဲ့ပါ။ ဒါနဲ့ ဘယ်နိုင်ငံက လာတာလဲ။

칸 캄보디아에서 왔어요.
ကမ္ဘောဒီးယားက လာတာပါ။

택시 기사 아, 캄보디아요? 저도 한 번 여행을 가 봤는데 정말 좋았어요. 공기도 맑고 시끄럽지 않고요.
သြော်၊ ကမ္ဘောဒီးယားလား။ ကျွန်တော်လည်း တစ်ခါ အလည်သွားဖူးတာ အရမ်းပျော်ခဲ့တယ်။ လေကောင်း လေသန့်လည်း ရပြီးသိပ်မဆူညံဘူးဗျ။

칸 네, 우리 고향은 서울보다 인구도 적고 조용해요. 그래서 처음 서울에 왔을 때는 사람이 너무 많아서 깜짝 놀랐어요.
ဟုတ်ပါတယ်။ ကျွန်တော်တို့ ဇာတိမှာက ဆိုးလ်မှာထက် လူနေ နည်းပြီး ငြိမ်ငြိမ်သက်သက် ရှိတယ်။ အဲဒါကြောင့် ဆိုးလ်ကို ရောက်ရောက်ချင်း တုန်းက လူတွေ အရမ်း များလို့ ရုတ်တရက် အံ့ဩသွားမိ သေးတာဗျ။

> **어디에서 오셨어요?**
> ဘယ်နိုင်ငံက လာခဲ့တာပါလဲ။
> · 가: 어디에서 오셨어요?
> ဘယ်နိုင်ငံက လာခဲ့တာပါလဲ။
> 나: 미얀마에서 왔어요.
> မြန်မာနိုင်ငံက လာခဲ့တာပါ။

> **깜짝 놀라다 ရုတ်တရက်**
> ခန့်မှန်းမထားသော ကိစ္စကြောင့် အံ့အားသင့်ခြင်းကို ဖော်ပြသည့်အခါ သုံးသည်။
> · 한국에서 일하는 친구가 한국어를 너무 잘해서 깜짝 놀랐어요.
> ကိုရီးယားမှာ အလုပ်လုပ်နေတဲ့ သူငယ်ချင်းက ကိုရီးယားလို အရမ်းကျွမ်းလို့ ရုတ်တရက် အံ့ဩမိတယ်။
> · 리한 씨가 갑자기 고향으로 돌아간다고 해서 깜짝 놀랐어요.
> ရီဟန်က ရုတ်တရက် ဇာတိက ပြန်မယ်လို့ ပြောတော့ အရမ်းအံ့ဩသွားတာ။



ဒီတစ်ခါတော့ ကိုယ့်ကိုယ်ကို ခန်းနဲ့ ကားဆရာလို့ သဘောထားပြီး သူတို့ ပြောသလို လိုက်ပြောကြည့်ရအောင်။ သေချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 칸 씨는 어디에서 왔어요? ခန်းက ဘယ်က လာခဲ့တာလဲ။
2. 칸 씨는 고향은 어때요? ခန်းရဲ့ ဇာတိက ဘယ်လိုနေလဲ။

정답 1. 캄보디아 2. 서울보다 인구가 적고 조용해요.

## 어휘 2 ဝေါဟာရ ၂ 도시의 특성 မြို့ပြ အင်္ဂါရပ်များ



မြို့ပြအင်္ဂါရပ်နဲ့ ပတ်သက်တဲ့ အသုံးအနှုန်းတွေ ဘာတွေရှိလဲဆိုတာ လေ့လာကြည့်ရအောင်။



인구가 많다
လူနေမှု ထူထပ်သည်



인구가 적다
လူနေမှု နည်းပါးသည်



복잡하다
လူရှုပ်သည်



한적하다
ဆိတ်ငြိမ်သည်





교통이 편리하다
လမ်းပန်းဆက်သွယ်ရေး လွယ်ကူသည်



교통이 불편하다
လမ်းပန်းဆက်သွယ်ရေး ခက်ခဲသည်



시끄럽다
ဆူညံသည်



조용하다
ငြိမ်သက်သည်



공기가 맑다
လေကောင်းလေသန့်ရသည်



유명하다
နာမည်ကြီးသည်



친절하다
ဖော်ရွေသည်

- 출퇴근 시간에는 항상 교통이 **복잡해요**. ရုံးတက်ရုံးဆင်းချိန်မှာတော့ အမြဲတမ်း ကားလမ်းတွေ ရှုပ်တတ်တယ်။
- 지금 살고 있는 집은 지하철역에서 가까워서 교통이 **편리해요**.
  အခု နေနေတဲ့ အိမ်က မြေအောက်ရထားဘူတာရုံနဲ့ နီးတော့ သွားရလာရတာ လွယ်ကူတယ်လေ။



အပေါ်မှာ လေ့လာခဲ့တဲ့ ဝေါဟာရတွေကို ပြန်စဉ်းစားရင်း မေးခွန်းတွေ ဖြေကြည့်ကြရအောင်။

1. 그림에 맞는 표현을 〈보기〉에서 골라 넣으세요.
   အောက်ကပုံနဲ့ လိုက်မယ့် အသုံးအနှုန်းကို ဥပမာ ဝေါဟာရထဲကနေ ရွေးပြီး ထည့်ပါ။



1) 



2) 





3) 



4) 



5) 

6) 

7) 



8) 

보기

| | | | |
|---|---|---|---|
| 한적하다 | 시끄럽다 | 인구가 적다 | 교통이 편리하다 |
| 복잡하다 | 교통이 불편하다 | 인구가 많다 | 친절하다 |

정답 1) 인구가 많다 2) 복잡하다 3) 교통이 편리하다 4) 시끄럽다
5) 인구가 적다 6) 한적하다 7) 교통이 불편하다 8) 친절하다

## 문법 2 သဒ္ဒါ ၂ 보다

G31-2

နာမ်နဲ့ တွဲဖက်ပြီးတော့ နှိုင်းယှဉ်ခြင်းကို ဖော်ပြတဲ့ ဝါကျတွေမှာ သုံးပါတယ်။

· 가: 모니카 씨의 고향은 **서울보다** 커요? မိုနီခါရဲ့ ဇာတိက ဆိုးလ်ထက် ကြီးလား။
  나: 아니요, **서울보다** 작아요. ဟင့်အင်း၊ ဆိုးလ်ထက် သေးပါတယ်။

· 가: 오늘 날씨가 참 춥네요. ဒီနေ့ ရာသီဥတု အရမ်း အေးတယ်နော်။
  나: 네, **어제보다** 기온이 내려갔어요. ဟုတ်ကဲ့၊ မနေ့ကထက် အပူချိန် ကျသွားတယ်။



### 대조적 정보 နှိုင်းယှဉ်ချက်

'보다' ကို မြန်မာစကားရဲ့ "-ထက်"မှာလိုပဲ တစ်ခုနဲ့ တစ်ခု နှိုင်းယှဉ်ဖို့အတွက် နှိုင်းယှဉ်လိုတဲ့ နာမ်ရဲ့ နောက်မှာ ကပ်လျက် တွဲပြီး အသုံးပြုပါတယ်။

· 수박이 **사과보다** 커요. ဖရဲသီးက ပန်းသီးထက် ကြီးပါတယ်။
· 기차가 **버스보다** 빨라요. ရထားက ဘတ်စ်ကားထက် မြန်ပါတယ်။



'보다' ရဲ့ အသုံးကို နားလည်ပြီလား။ ဒါဆိုရင် ပုံကို ကြည့်ပြီး စကားပြောကို အဆုံးသတ်ကြည့်ပါ။

2. 그림을 보고 대화를 완성하세요. ပုံကို ကြည့်ပြီး ဝါကျကို အဆုံးသတ်ပါ။

1) 고향 서울

가: 투안 씨 고향은 인구가 많아요? ထူအန်းတို့ ဇာတိမှာ လူနေထူထပ်လား။
나: 아니요, 서울보다 ________________.
ဟင့်အင်း၊ ဆိုးလ်မှာထက် နည်းပါတယ်။

2) 




어제 오늘

가: 오늘은 날씨가 어때요? ဒီနေ့ ရာသီဥတု ဘယ်လိုနေလဲ။
나: 어제보다 ________________.
မနေ့ကထက် အေးပါတယ်။

정답 1) 적어요 2) 시원해요



ထပ်ပြီး လေ့လာရအောင်။ '보다' ကို သုံးပြီး ဖြေကြည့်ပါ။

1. 봄이 좋아요, 가을이 좋아요?
2. 미얀마가 커요, 한국이 커요?
3. 백화점 물건이 비싸요, 시장 물건이 비싸요?
4. 운동을 잘해요, 노래를 잘해요?



## 활동 အသုံးချသင်ခန်းစာများ

〈보기〉처럼 메모를 한 후에 고향을 소개해 보세요.
ဥပမာမှာ ပြထားသလို မှတ်စုထုတ်ပြီး မိမိ ဇာတိအကြောင်း မိတ်ဆက်ကြည့်ပါ။

보기

| 필리핀 보라카이<br>ဖိလစ်ပိုင်နိုင်ငံ ဘိုရာခိုင်ကျွန်း | |
|---|---|
| 최고기온<br>အမြင့်ဆုံး အပူချိန် | 38도<br>၃၈ ဒီဂရီ |
| 최저기온<br>အနိမ့်ဆုံး အပူချိန် | 20도<br>၂၀ ဒီဂရီ |
| 습도<br>စိုထိုင်းဆ | 높다<br>မြင့်သည် |
| 특징<br>အင်္ဂါရပ်များ | 인구가 적다<br>လူနေ နည်းသည်<br>조용하다<br>ငြိမ်သက်သည်<br>바다가 유명하다<br>ပင်လယ်က နာမည်ကြီးသည် |

가: 고향이 어디예요?
ဇာတိက ဘယ်ကလဲ။
나: 제 고향은 필리핀 보라카이예요.
ကျွန်တော့် ဇာတိကတော့ ဖိလစ်ပိုင်နိုင်ငံ ဘိုရာခိုင်ကျွန်းပါ။
가: 보라카이 날씨는 어때요?
ဘိုရာခိုင် ရာသီဥတုက ဘယ်လိုနေလဲ။
나: 서울보다 더워요. 최고기온은 38도 정도이고 최저기온은 20도 정도예요.
ဆိုးလ်ထက် ပူပါတယ်။ အမြင့်ဆုံးအပူချိန် ၃၈ဒီဂရီလောက်ဖြစ်ပြီး အနိမ့်ဆုံး အပူချိန်ကတော့ ၂၀ဒီဂရီလောက်ပါ။
가: 습도도 높아요?
စိုထိုင်းဆရော မြင့်လား။
나: 네, 서울보다 습도가 높아요.
ဟုတ်ကဲ့၊ ဆိုးလ်ထက် စိုထိုင်းဆ မြင့်ပါတယ်။
가: 보라카이는 어떤 곳이에요?
ဘိုရာခိုင်က ဘယ်လို နေရာမျိုးလဲ။
나: 제 고향은 서울보다 인구도 적고 조용해요. 그리고 바다가 유명해서 관광객이 많이 와요.
ကျွန်တော့် ဇာတိက ဆိုးလ်ထက် လူနေ နည်းပြီး ဆိတ်ငြိမ်ပါတယ်။ ပြီးတော့ ပင်လယ်က နာမည်ကြီးလို့ ခရီးသွား ဧည့်သည်တွေ အလာများပါတယ်။

| 고향 | |
|---|---|
| 최고기온 | |
| 최저기온 | |
| 습도 | |
| 특징 | |

# 한국의 행정구역 ကိုရီးယားနိုင်ငံရဲ့ တိုင်း၊ ခရိုင်များ

한국은 1개의 특별시(서울), 6개의 광역시(부산, 인천, 대구, 광주, 대전, 울산), 8개의 도(경기도, 강원도, 충청북도, 충청남도, 전라북도, 전라남도, 경상북도, 경상남도), 1개의 특별자치시(세종시), 1개의 특별자치도(제주도)로 이루어져 있습니다.

ကိုရီးယားနိုင်ငံကို မြို့တော် ၁မြို့(ဆိုးလ်)၊ အခြား မြို့ကြီး ၆မြို့(ဘူဆန်၊ အင်ချွန်၊ ဒယ်ဂူ၊ ဂွမ်ဂျူ၊ ဒယ်ဂျွန်၊ အူလ်ဆန်)၊ ပြည်နယ် ၈ခု(ဂယောင်ဂီ၊ ဂန်ဝန်၊ ချွန်းချောင်းမြောက်ပိုင်း၊ ချွန်းချောင်းတောင်ပိုင်း၊ ဂျော်လာမြောက်ပိုင်း၊ ဂျော်လာတောင်ပိုင်း၊ ဂယောင်ဆန်းမြောက်ပိုင်း၊ ဂယောင်ဆန်းတောင်ပိုင်း)၊ သီးသန့်မြို့တော် ၁မြို့(ဆယ်ဂျုံမြို့)၊ သီးသန့်ပြည်နယ် ၁ခု(ဂျယ်ဂျူကျွန်း)တို့ဖြင့် ဖွဲ့စည်းထားပါတယ်။

경기도와 인천광역시는 서울과 함께 '수도권'으로 불리는데, 이곳에는 대한민국 인구의 절반을 넘는 사람들이 살고 있습니다. 강원도는 80%가 산지이고 바다도 있어 관광객들이 많이 찾는 곳입니다. 충청도는 중부 지방과 남부 지방을 이어 주는 역할을 하는 곳으로 교통이 편리하고 과학과 행정의 중심지입니다. 전라도는 한국의 최대 쌀 생산지로 전주, 광주 등의 도시가 유명합니다. 이곳에는 맛있는 음식이 많은 것으로도 유명해 관광객들이 많이 찾습니다. 경상도는 대구, 울산, 부산 등의 광역시가 모여 있어 바다를 중심으로 공업이 많이 발달했습니다. 경주는 신라의 수도였던 곳으로 전통 문화가 많이 남아 있어 세계 문화유산으로 지정되었습니다. 한국의 대표적인 관광지인 제주도는 독특한 자연환경과 문화를 간직한 곳으로 국제 자유 도시로 지정해 한국뿐만 아니라 외국에서도 많이 찾는 관광지로 거듭나고 있습니다.

ဂယောင်ဂီပြည်နယ်နဲ့ အင်ချွန်မြို့ကြီးကိုတော့ ဆိုးလ်မြို့နယ်နဲ့ အတူတကွ 'မြို့ပြဒေသများ'လို့ ခေါ်ဆိုကြပြီး အဲဒီဒေသတွေမှာတော့ ကိုရီးယားနိုင်ငံ လူဦးရေရဲ့ တစ်ဝက်ကျော်ကျော်လောက် နေထိုင်လျက် ရှိပါတယ်။ ဂန်ဝန်ပြည်နယ်မှာတော့ ၈၀%လောက်က တောင်တန်းဒေသဖြစ်ပြီး ပင်လယ်လည်း ရှိတာကြောင့် ခရီးသွားဧည့်သည်တွေ ပြတ်လေ့ မရှိပါဘူး။ ချွန်းချောင်းပြည်နယ်ကတော့ အလယ်ပိုင်းနဲ့ တောင်ပိုင်းဒေသကို ဆက်သွယ်ပေးတဲ့ တာဝန်ကို ယူထားတဲ့ နေရာဖြစ်လို့ လမ်းပန်းဆက်သွယ်ရေး လွယ်ကူပြီး သိပ္ပံပညာရပ်နဲ့ အုပ်ချုပ်ရေးအတွက် အရေးပါသော ဒေသဖြစ်ပါတယ်။ ဂျော်လာပြည်နယ်ကတော့ ကိုရီးယားနိုင်ငံရဲ့ ဆန်စပါးထွက်ရှိမှု အများဆုံး မြို့တွေဖြစ်တဲ့ ဂျွန်ဂျူ၊ ဂွမ်ဂျူ စတဲ့ မြို့တွေကြောင့် ထင်ရှားပါတယ်။ ဒီနေရာတွေက အစားအသောက် အရသာရှိတယ်လို့လည်း နာမည်ကြီးတာကြောင့် ခရီးသွားတွေ မပြတ်ပါဘူး။ ဂယောင်ဆန်းပြည်နယ်ကတော့ ဒယ်ဂူ၊ အူလ်ဆန်၊ ဘူဆန်မြို့ကြီးတွေ စုနေတဲ့အတွက် ပင်လယ်ကို ဗဟိုပြုတဲ့ လုပ်ငန်းတွေ ဖွံ့ဖြိုးပါတယ်။ ဂယောင်ဂျူကတော့ ရှီလာခေတ် မြို့တော်ဟောင်း ဖြစ်တာကြောင့် ရိုးရာ အမွေအနှစ်တွေ အများကြီး ကျန်ရှိနေတဲ့အတွက် ကမ္ဘာ့ယဉ်ကျေးမှုအမွေအနှစ်အဖြစ် သတ်မှတ်ခြင်းကို ခံခဲ့ရပါတယ်။ ကိုရီးယားနိုင်ငံရဲ့ ကိုယ်စားပြု လည်ပတ်စရာ နေရာဖြစ်တဲ့ ဂျယ်ဂျူကျွန်းကတော့ ထူးခြားတဲ့ သဘာဝ ပတ်ဝန်းကျင်နဲ့ ယဉ်ကျေးမှုကို ထိန်းသိမ်းထားတဲ့ နေရာဖြစ်ပြီး နိုင်ငံတကာ လွပ်လပ်သော မြို့တော်အဖြစ် သတ်မှတ်ထားလို့ ကိုရီးယားမှာတင်မကဘဲ နိုင်ငံရပ်ခြားကနေလည်း အများဆုံး လာရောက် လည်ပတ်ကြတဲ့ နေရာအဖြစ် ကျော်ကြားလျက် ရှိနေပါတယ်။





## EPS-TOPIK 듣기 EPS-TOPIK အကြား စာမေးပွဲ



မေးခွန်းနံပါတ် ၁နဲ့ ၂အတွက် စကားပြော တစ်ခုကို နားထောင်ပြီး အသင့်တော်ဆုံး အဖြေကို ရွေးပေးရမှာပါ။ သေချာ နားထောင်ပြီး အဖြေမှန်ကို ရွေးပါ။

[1~3] 잘 듣고 내용과 관계있는 그림을 고르십시오.
သေချာ နားထောင်ပြီး အကြောင်းအရာနဲ့ သက်ဆိုင်တဲ့ ပုံကို ရွေးပါ။




1. ①  ②  ③  ④ 

2. ①  ②  ③  ④ 

3. ①  ②  ③  ④ 




အောက်က ပုစ္ဆာတွေအတွက် မေးခွန်းကို နားထောင်ပြီး အဖြေမှန်ကို ရွေးပေးရမှာပါ။ စကားပြောကို နားမထောင်ခင် ရွေးဖို့ ပေးထားတာတွေကို အရင် ဖတ်ကြည့်ပါ။

[4~5] 질문을 듣고 알맞은 대답을 고르십시오.
မေးခွန်းကို နားထောင်ပြီး လိုက်ဖက်မယ့် အဖြေကို ရွေးပါ။

4. ① 오늘은 덥고 습해요.
② 30도까지 올라갈 거예요.
③ 어제가 오늘보다 추웠어요.
④ 기온이 높지만 바람이 많이 불어요.

5. ① 네, 인구가 적고 조용해요.
② 네, 바다가 아주 유명해요.
③ 아니요, 서울보다 한적해요.
④ 아니요, 복잡하지만 공기가 맑아요.

### 듣기 대본 စာသား

1. 남: 오늘 날씨는 어때요? ဒီနေ့ ရာသီဥတု ဘယ်လိုနေလဲ။

   여: 건조해요. ခြောက်သွေ့ပါတယ်။

2. 여: 투안 씨 고향은 서울하고 비슷해요? ထူအန်းတို့ ဇာတိက ဆိုးလ်မှာလိုပဲလား။

   남: 아니요, 서울보다 인구가 적어서 훨씬 조용해요.
   ဟင့်အင်း။ ဆိုးလ်မှာထက် လူနေ နည်းတော့ အများကြီး ပိုပြီး ဆိတ်ငြိမ်ပါတယ်။

3. 남: 서울은 교통이 편리해서 버스나 지하철을 타면 어디든지 갈 수 있습니다.
   ဆိုးလ်မှာက လမ်းပန်းဆက်သွယ်ရေး လွယ်ကူတော့ ဘတ်စ်ကားတို့ မြေအောက်ရထားတို့ စီးတာနဲ့ ဘယ်မဆို သွားနိုင်ပါတယ်။

4. 여: 오늘 최고기온은 몇 도예요? ဒီနေ့ အမြင့်ဆုံးအပူချိန်က ဘယ်န ဒီဂရီလဲ။

5. 남: 모니카 씨 고향은 복잡해요? မိုနီခါတို့ ဇာတိမှာ လူရှုပ်လား။

정답 1. ② 2. ③ 3. ④ 4. ② 5. ③



### 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်




1. 대화를 듣고 질문에 알맞은 것을 고르십시오.
   ပြောတာကို နားထောင်ပြီး မေးခွန်းအတွက် သင့်တော်ရာ အဖြေကို ရွေးပါ။

   수피카의 고향은 겨울 날씨가 어떻습니까?
   ဆူဖီခါရဲ့ ဇာတိမှာ ဆောင်းတွင်း ရာသီဥတု ဘယ်လိုနေလဲ။

   ① 춥다　② 따뜻하다　③ 비가 온다　④ 눈이 내린다

### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

여: 한국은 겨울이 너무 추워요. ကိုရီးယားက ဆောင်းတွင်း တအား အေးတယ်။

남: 수피카 씨 고향은 어때요? ဆူဖီခါ ဇာတိမှာရော ဘယ်လိုနေလဲ။

여: 겨울이 있지만 별로 춥지 않아요. 대신 비가 많이 와요.
ဆောင်းတွင်းတော့ ရှိပေမဲ့ သိပ် မအေးဘူးရှင့်။ အဲဒီ့အစား မိုးတော့ မတရား ရွာတယ်။

남: 그래요? 한국은 춥고 눈도 내려요. ဟုတ်လား။ ကိုရီးယားမှာတော့ အရမ်း ချမ်းပြီး နှင်းတွေလည်း ကျတယ်။

정답 1. ③



## EPS-TOPIK 읽기 EPS-TOPIK အဖတ် စာမေးပွဲ



မေးခွန်းနံပါတ် ၁နဲ့ ၂ကတော့ ကွက်လပ်ဖြည့်ဖို့ အသင့်တော်ဆုံး အဖြေတွေကို ရွေးပေးရမှာပါ။ မှန်ကန်တဲ့ စကားလုံးတွေကို ရွေးပြီး ကွက်လပ်ဖြည့်ပါ။

[1~3] 빈칸에 들어갈 가장 알맞은 것을 고르십시오. ကွက်လပ်ဖြည့်ဖို့ အသင့်တော်ဆုံး အရာကို ရွေးပါ။

1. 우리 고향은 일 년 내내 따뜻합니다. 평균 기온은 보통 25도 정도이고 ________로 내려가는 날이 없어서 눈이 오지 않습니다.

ကျွန်တော်တို့ ဇာတိမှာ တစ်နှစ်ပတ်လုံး နွေးပါတယ်။ ပျမ်းမျှ အပူချိန်ကတော့ များသောအားဖြင့် ၂၅ဒီဂရီလောက် ဖြစ်ပြီးတော့ သုညမှတ်အောက်ကို ကျသွားတဲ့ နေ့မျိုး မရှိလို့ နှင်းမကျပါဘူး။

① 날씨 ② 영하 ③ 온도 ④ 습도

2. 가: 가장 기온이 낮을 때는 몇 도까지 내려가요?
အပူချိန် အနိမ့်ဆုံး ကျဆင်းတဲ့အခါ ဘယ် ဒီဂရီလောက်အထိ ကျတတ်လဲ။
나: 우리 고향의 ________은/는 15도 정도예요.
ကျွန်တော်တို့ ဇာတိရဲ့ အနိမ့်ဆုံးအပူချိန်ကတော့ ၁၅ဒီဂရီ လောက်ပါ။

① 습도 ② 영상 ③ 최고기온 ④ 최저기온

3. 가: 한국은 여름에 비가 많이 와요? ကိုရီးယားက နွေရာသီမှာ မိုးများလား။
나: 네, 비가 많이 와서 ________이/가 높아요. ဟုတ်ကဲ့။ မိုးများလို့ စိုထိုင်းဆ မြင့်ပါတယ်။

① 습도 ② 날씨 ③ 최고기온 ④ 최저기온



အောက်ပါ ပုစ္ဆာတွေအတွက် စာပိုဒ်ကို ဖတ်ပြီး မေးခွန်းတွေကို ဖြေပေးရမှာပါ။ အရင် လေ့လာခဲ့တာတွေကို ပြန်စဉ်းစားပြီး မေးခွန်းတွေကို ဖြေကြည့်ရအောင်။

[4~5] 다음 글을 읽고 물음에 답하십시오. အောက်ပါ စာပိုဒ်ကို ဖတ်ပြီး မေးခွန်းများကို ဖြေဆိုပါ။

제 고향은 필리핀 보라카이입니다. 보라카이는 제주도보다 작은 섬인데 연평균 기온이 27도 정도로 일 년 내내 따뜻합니다. 그런데 6월부터 10월까지는 비가 많이 와서 습도가 높습니다. 그러니까 여행을 가고 싶으면 11월에서 5월에 가는 것이 좋습니다. 이 때에는 기온은 높지만 습도가 낮아서 여행하기 좋습니다. 보라카이는 연평균 최고기온이 34도이고 최저기온이 20도라서 일 년 내내 바다에 가서 수영할 수 있습니다. 보라카이는 작지만 아주 아름다워서 관광객이 많이 옵니다. 그리고 바다가 아주 유명하니까 보라카이에 오면 바다에 꼭 가 보십시오.

ကျွန်တော့် ဇာတိကတော့ ဖိလစ်ပိုင်နိုင်ငံ ဘိုရာခိုင်ကျွန်းပါ။ ဘိုရာခိုင်က ဂျယ်ဂျူကျွန်းထက် သေးတဲ့ ကျွန်းလေး ဖြစ်ပြီးတော့ နှစ်ပတ်လည် ပျမ်းမျှ အပူချိန်က ၂၇ဒီဂရီလောက် ဖြစ်တဲ့အတွက် တစ်နှစ်ပတ်လုံး နွေးထွေးပါတယ်။ ဒါပေမဲ့ ၆လပိုင်းကနေ ၁၀လပိုင်း အထိကတော့ မိုး မတရား ရွာလို့ စိုထိုင်းဆ မြင့်ပါတယ်။ အဲဒါကြောင့် အလည်သွားချင်တယ်ဆိုရင် ၁၁လပိုင်းကနေ ၅လပိုင်းအတွင်း သွားတာ ကောင်းပါတယ်။ အဲဒီ အချိန်မှာတော့ အပူချိန်မြင့်ပေမဲ့ စိုထိုင်းဆ နိမ့်တော့ လည်လို့ ပတ်လို့ ကောင်းပါတယ်။ ဘိုရာခိုင်မှာက နှစ်ပတ်လည် ပျမ်းမျှ အမြင့်ဆုံး အပူချိန်က ၃၄ဒီဂရီဖြစ်ပြီး အနိမ့်ဆုံး အပူချိန်က ၂၀ဒီဂရီဆိုတော့ တစ်နှစ်ပတ်လုံး ပင်လယ်ထဲမှာ ရေကူးလို့ ရပါတယ်။ ဘိုရာခိုင်ကျွန်းက သေးပေမဲ့ အရမ်း လှတော့ ခရီးသွားဧည့်သည်တွေ အများကြီး လာကြပါတယ်။ ပြီးတော့ ပင်လယ်က အရမ်း နာမည်ကြီးတော့ ဘိုရာခိုင်ကို ရောက်ရင် ပင်လယ်ကို မဖြစ်မနေ ရောက်အောင် သွားပါ။

4. 이 글은 무엇에 대한 글입니까? ဒီ စာက ဘာအကြောင်း ရေးထားတာပါလဲ။

① 고향 음식 ② 고향 날씨 ③ 휴가 계획 ④ 여행 경험

5. 보라카이에 대한 설명으로 알맞지 않은 것을 고르십시오.
ဘိုရာခိုင်နဲ့ ပတ်သက်တဲ့ ရှင်းပြချက်အနေနဲ့ မကိုက်ညီတာကို ရွေးပါ။

① 제주도보다 큽니다.
② 11월에는 습도가 낮습니다.
③ 1월에도 수영을 할 수 있습니다.
④ 7월과 8월에는 비가 많이 옵니다.

정답 1. ② 2. ④ 3. ① 4. ② 5. ①

## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~3] 빈칸에 들어갈 가장 알맞은 것을 고르십시오. ကွက်လပ်ဖြည့်ရန် အသင့်တော်ဆုံး စကားလုံးကို ရွေးပါ။

1. 제 ________ 은/는 낚시입니다. 특히 바다낚시를 좋아해서 시간이 있을 때마다 바다에 갑니다.
ကျွန်တော့်ရဲ့ ဝါသနာကတော့ ငါးမျှားတာပါ။ အထူးသဖြင့် ပင်လယ်ထဲ ငါးမျှားရတာကို ကြိုက်တော့ အချိန်ရတိုင်း ပင်လယ်ကို သွားပါတယ်။

① 업무 ② 직업
③ 취미 ④ 계획

2. 다음 주 토요일은 투안 씨의 생일입니다. 그래서 저는 오늘 선물을 ________ 백화점에 갑니다.
နောက်တစ်ပတ် စနေနေ့က ထူအန်းရဲ့ မွေးနေ့ပါ။ အဲဒါကြောင့် ကျွန်တော် ဒီနေ့ လက်ဆောင် ဝယ်ဖို့ ကုန်တိုက်ကို သွားမှာပါ။

① 풀러 ② 쓰러
③ 팔러 ④ 사러

3. 휴가 때 바다로 ________ 을/를 가려고 합니다. 바다에서 사진도 찍고 맛있는 음식도 먹을 겁니다.
ပိတ်ရက်မှာ ဘူဆန်ကို အလည်သွားမလို့ပါ။ ပင်လယ်မှာ ဓာတ်ပုံတွေလည်း ရိုက်၊ အရသာရှိတဲ့ အစားအစာတွေလည်း စားမှာပါ။

① 출장 ② 등산
③ 쇼핑 ④ 여행

정답 1. ③ 2. ④ 3. ④




# 복날에는 삼계탕을 먹어요

အပူဆုံးနေ့မှာ ဂျင်ဆင်းကြက်ပေါင်း စားပါတယ်။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** ကိုရီးယား၏ အစားအသောက် အလေ့အထနှင့် အကျွမ်းတဝင်ရှိစေရန်၊ ချက်နည်း ရှင်းပြတတ်စေရန်
- □ **သဒ္ဒါ** -(으)ㄴ, -아서/어서
- □ **ဝေါဟာရ** ရာသီစာများ၊ ပါဝင်ပစ္စည်းများနှင့် ဟင်းချက်နည်း
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** နေ့ထူးနေ့မြတ်တွင် စားသုံးသော အစားအစာများ



## 대화 1 စကားပြော ၁






အောက်မှာ ရီဟန်နဲ့ ဂျီဟွန်းတို့ စကားပြောနေတာလေးကို ဖော်ပြထားပါတယ်။ သူတို့ ပြောတာကို နှစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

리한 오늘 점심 메뉴는 삼계탕이네요.
ဒီနေ့ နေ့လယ် မီနူးက ဂျင်ဆင်းကြက်ပေါင်းပါလား။

지훈 리한 씨, 오늘은 복날이에요. 한국 사람들은 복날에 삼계탕을 먹어요.
ရီဟန်ရေ၊ ဒီနေ့က အပူဆုံးနေ့လေ။ ကိုရီးယား လူမျိုးတွေက အပူဆုံးနေ့မှာ ဂျင်ဆင်းကြက်ပေါင်း စားကြတယ်။

리한 정말요? 날씨가 더운데 왜 뜨거운 삼계탕을 먹어요?
တကယ်လားဗျ။ ရာသီဥတု ပူကပူနဲ့ ဘာလို့ ပူတဲ့ ဂျင်ဆင်းကြက်ပေါင်းကို စားရတာလဲ။

지훈 여름에 뜨거운 음식을 먹으면 몸이 따뜻해져서 더위를 이길 수 있어요.
နွေရာသီမှာ ပူတဲ့ အစားအစာကို စားရင် ခန္ဓာကိုယ် နွေးလာလို့ အပူဒဏ်ကို တွန်းလှန်နိုင်တယ်လေ။

리한 그래요? 요즘 저도 너무 더워서 힘이 없었는데 잘됐네요.
ဟုတ်လား။ အခုတလော ကျွန်တော်လည်း အရမ်း ပူလို့ အားမရှိတာနဲ့ အတော်ပဲဗျာ။

**더위 အပူဒဏ်**
အရမ်း ပူသော ရာသီဥတု

- 한국은 8월에 더위가 가장 심해요.
  ကိုရီးယားမှာက ဩဂုတ်လမှာ အပူဒဏ် အပြင်းထန်ဆုံးပဲ။
- 한국에서는 여름에 더위를 잘 견디기 위해서 뜨거운 음식을 먹어요.
  ကိုရီးယားမှာက နွေရာသီမှာ အပူဒဏ်ကိုခံနိုင်ဖို့အတွက် ပူတဲ့ အစားအစာကိုစားလေ့ရှိပါတယ်။

**잘됐다 အတော်ပဲ**
ကိစ္စတစ်ခုခု ချောချောမွေ့မွေ့ ပြီးမြောက်တဲ့အခါ သုံးပါတယ်။

- 가: 시험에 합격해서 한국에서 일할 수 있게 됐어요.
  စာမေးပွဲ အောင်လို့ ကိုရီးယားမှာ အလုပ်လုပ်ဖြစ်သွားပါတယ်။
  나: 잘됐네요. 축하해요.
  အတော်ပဲ။ ဂုဏ်ယူပါတယ်။
- 가: 다음 달에 고향에 갔다올 거예요. 휴가를 받았거든요.
  နောက်လမှာ ဇာတိကို သွားပြန်လာမလို့ပါ။ ခွင့်ရက် ရလာလို့လေ။
  나: 고향에 간 지 오래됐는데 잘됐네요.
  ဇာတိကို မပြန်ရတာ ကြာပြီဆိုတော့အတော်ပဲပေါ့။



သေချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 두 사람은 점심에 뭘 먹어요? သူတို့ နှစ်ယောက် နေ့လယ်စာ ဘာ စားမှာလဲ။
2. 오늘은 무슨 날이에요? ဒီနေ့ ဘာနေ့လဲ။

정답 1. 삼계탕 2. 복날

## 어휘 1 ဝေါဟာရ ၁ 계절 음식 ရာသီစာ




ဒါကတော့ ရာသီစာနဲ့ ပတ်သက်တဲ့ စကားလုံးတွေပါ။ ဘာတွေရှိလဲဆိုတာ လေ့လာကြည့်ရအောင်။


뜨겁다
ပူသည်


차다/차갑다
အေးသည်

**여름 음식 နွေရာသီစာ**


삼계탕
ဂျင်ဆင်းကြက်ပေါင်း


냉면
ခေါက်ဆွဲအေး


콩국수
ပဲနို့ခေါက်ဆွဲအေး


팥빙수
ရေခဲသုပ်

**ဆောင်းရာသီစာ**


팥죽
ပဲနီလေးဆန်ပြုတ်


ကန်စွန်းဥမီးဖုတ်


찐빵
ပေါက်စီ


호떡
ဆန်မုန့်ချို



အပေါ်က ဝေါဟာရတွေကို မကြည့်ဘဲ မေးခွန်းလေးတွေ ဖြေကြည့်ရအောင်။

1. 사진에 맞는 표현을 〈보기〉에서 골라 넣으세요.
အောက်က ဓာတ်ပုံနဲ့ ကိုက်ညီမယ့် စကားလုံးကို ဥပမာ ဝေါဟာရထဲကနေ ရွေးပြီး ထည့်ပါ။


1)


2)


3)


4)


5)


6)


7)


8)

**보기**

| | | | |
|---|---|---|---|
| 팥빙수 | 삼계탕 | 군고구마 | 팥죽 |
| 콩국수 | 찐빵 | 냉면 | 호떡 |

정답 1) 군고구마 2) 팥빙수 3) 삼계탕 4) 찐빵 5) 냉면 6) 호떡 7) 콩국수 8) 팥죽

## 문법 1 သဒ္ဒါ ၁  -(으)ㄴ




ဂုဏ်ရည်ပြကြိယာနဲ့ တွဲပြီး နာမ်ကို အထူးပြုပါတယ်။ '있-' နဲ့ '없-' ရဲ့ အနောက်မှာ '-는' ပဲ လိုက်ပါတယ်။

| 자음 (ဗျည်း) + -은 | 모음 (သရ), 자음 (ဗျည်း) 'ㄹ' + -ㄴ |
|---|---|
| 작다 → 작은 | 크다 → 큰 |

· 가: 리한 씨, 배가 많이 아파요? ရီဟန်ရေ ဗိုက် တအား နာနေလား။
  나: 네, 아까 **찬** 것을 많이 먹어서 그런 것 같아요. ဟုတ်ကဲ့။ ခုနက အေးတဲ့ ဟာတွေ စားလိုက်မိလို့ ထင်တယ်။
· 가: 누가 지민 씨예요? ဘယ်သူက ဂျီမင်လဲ။
  나: 저기 키가 **작은** 사람이에요. ဟိုး က အရပ် ပုတဲ့ သူပါ။
· 가: 이 근처에 **맛있는** 식당이 없어요? ဒီနားမှာ အရသာရှိတဲ့ စားသောက်ဆိုင် မရှိဘူးလား။
  나: 서울 식당에 가 보세요. 불고기가 아주 맛있어요.
  ဆိုးလ် စားသောက်ဆိုင်ကို သွားကြည့်ပါလား။ အသားကင် အရမ်း အရသာရှိတယ်။
· 집이 **먼** 곳에 있는 사람부터 출발하세요. အိမ် ဝေးတဲ့ နေရာမှာ ရှိတဲ့ သူတွေကနေ စပြီး ထွက်ခွာကြပါ။



'-(으)ㄴ' ရဲ့ အသုံးကို နားလည်ပြီလား။ ဒါဆိုရင် အပေါ်က စကားလုံးတွေကို သုံးပြီး စကားပြောကို အဆုံးသတ်ကြည့်ပါ။

2. 빈칸에 맞는 표현을 <보기>에서 골라 '-(으)ㄴ'을 사용해서 대화를 완성하세요.
အသုံးအနှုန်းကို ဥပမာထဲကနေ ရွေးပြီး '-(으)ㄴ' ကို သုံး၍ ဝါကျကို အဆုံးသတ်ပါ။

1) 가: 어느 식당에 갈까요? ဘယ် စားသောက်ဆိုင်ကို သွားကြမလဲ။
   나: 저기 사람이 ________ 식당에 들어가요. ဟိုး က လူများတဲ့ စားသောက်ဆိုင်ကို သွားရအောင်။
2) 가: 무슨 음식을 먹을까요? ဘာ (အစားအစာ) စားကြမလဲ။
   나: 오늘은 추우니까 ________ 음식을 먹고 싶어요.
   ဒီနေ့ အေးတော့ ပူပူနွေးနွေး(အစားအစာ)လေး စားချင်တယ်။
3) 가: 어디 아파요? ဘယ်နား နေမကောင်းလို့လဲ။
   나: 아까 ________ 음식을 먹어서 배탈이 났어요. ခုနက အေးတဲ့ အစားအစာ စားမိလို့ ဗိုက်ရစ်နာလို့ပါ။

**보기**
따뜻하다
차다
많다

정답 1) 많은 2) 따뜻한 3) 찬



ထပ်ပြီး လေ့လာရအောင်။ '-(으)ㄴ' ကို သုံးပြီး ဝါကျကို အဆုံးသတ်ကြည့်ပါ။

1. (시원하다, 물, 마시다) ________________.
2. (맛있다, 불고기, 먹다) ________________.
3. (친절하다, 사람, 만나다) ________________.

정답 1. 시원한 물을 마셔요 2. 맛있는 불고기를 먹어요 3. 친절한 사람을 만나요



### 유용한 표현 အသုံးဝင်သော အသုံးအနှုန်းများ

**푹 쉬세요. တစ်ဝကြီး နားပါ။**

가: 그럼 주말 잘 보내고 월요일에 봅시다. ဒါဆို နားရက်မှာ ကောင်းကောင်း နားပြီး တနင်္လာနေ့မှာ တွေ့ကြတာပေါ့။
나: 네, 반장님. 주말 동안 **푹 쉬세요**. ဟုတ်ကဲ့၊ ဆရာ။ နားရက် အတွင်း **တစ်ဝကြီး နားပါ။**



## 대화 2 စကားပြော ၂

Track 101



ဂေါ်နှုန့် ထူအန်းတို့ သုံးထပ်သားကင် စားတဲ့အကြောင်း ပြောနေကြပါတယ်။ အရင်ဆုံး သူတို့ ပြောတာကို နှစ်ခေါက် နားထောင်ကြည့်ရအောင်။

건우 투안 씨, 삼겹살을 좋아해요?
ထူအန်းရေ၊ သုံးထပ်သားကင် ကြိုက်လား။

투안 네, 저는 한국 음식 중에서 삼겹살을 제일 좋아해요. 그런데 처음에는 식탁에서 고기를 구워서 먹는 것이 좀 신기했어요.
ဟုတ်ကဲ့။ ကျွန်တော် ကိုရီးယား အစားအစာထဲမှာ သုံးထပ်သားကင် အကြိုက်ဆုံးပဲ။ ဒါပေမဲ့ အစကတော့ ထမင်းစားပွဲမှာ အသားကို ကင်ပြီး စားရတာ နည်းနည်း အံ့သြနေခဲ့တာ။

건우 그래요? 한국에서는 이렇게 먹는 음식이 많아요.
ဟုတ်လား။ ကိုရီးယားမှာက ဒီလို စားရတဲ့ အစားအစာတွေ ပေါတယ်။

투안 우리 나라에서는 식탁 위에서 직접 요리를 하지 않아요. 그래서 한국에서 처음 고기를 먹을 때 식탁 위에 불이 있어서 너무 무서웠어요.
ကျွန်တော်တို့ နိုင်ငံမှာတော့ ထမင်းစားပွဲမှာ တိုက်ရိုက် ချက်ပြီး စားလေ့မရှိဘူးဗျ။ အဲဒါကြောင့် ကိုရီးယားမှာ အသားကင် စစားတုန်းက စားပွဲပေါ်မှာ မီးဖိုကြီး ရှိနေတော့ အရမ်း ကြောက်သွားခဲ့တာ။

**중에서** ကြားထဲမှာ၊ အထဲမှာ
ရှေ့မှာ ရှိတဲ့ အများကိန်း အားလုံးကို ထည့်ပြောလိုခြင်း ဖြစ်ပါတယ်။
- 저는 과일 중에서 딸기를 제일 좋아해요.
  ကျွန်တော်တော့ အသီးတွေထဲမှာ စတော်ဘယ်ရီသီးကို အကြိုက်ဆုံးပဲ။
- 투안 씨는 제 친구 중에서 키가 제일 커요.
  ထူအန်းကတော့ ကျွန်တော့် သူငယ်ချင်းတွေကြားမှာ အရပ်အမြင့်ဆုံးပဲ။

**직접** တိုက်ရိုက်၊ ကိုယ်တိုင်
- 환전을 하려면 직접 은행에 가야 해요.
  ငွေလဲချင်ရင် ကိုယ်တိုင် ဘဏ်ကို သွားရပါမယ်။
- 저는 음식을 사 먹지 않고 직접 요리해서 먹어요.
  ကျွန်တော်ကတော့ အစားအစာကို ဝယ်မစားဘဲ ကိုယ်တိုင် ချက်စားပါတယ်။



ဒီတစ်ခါတော့ ကိုယ့်ကိုယ်ကို ဂေါ်နှုန့် ထူအန်းလို့ သဘောထားပြီး သူတို့ ပြောသလို လိုက်ပြောကြည့်ရအောင်။ သေချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 두 사람은 지금 어디에 있어요? သူတို့ နှစ်ယောက် အခု ဘယ်မှာ ရှိပါသလဲ။
2. 투안 씨가 한국에서 제일 좋아하는 음식은 뭐예요?
   ထူအန်း ကိုရီးယားမှာ အကြိုက်ဆုံး အစားအစာက ဘာပါလဲ။

정답 1. 식당 2. 삼겹살

## 어휘 2 ဝေါဟာရ ၂ 재료 및 조리법 ပါဝင်ပစ္စည်းများနဲ့ ဟင်းချက်နည်း



ပါဝင်ပစ္စည်းတွေနဲ့ ဟင်းချက်နည်း ဆိုင်ရာ အသုံးအနှုန်းတွေ ဘာတွေရှိလဲဆိုတာ လေ့လာကြည့်ရအောင်။






အပေါ်မှာ လေ့လာခဲ့တဲ့ ဝေါဟာရတွေကို ပြန်စဉ်းစားရင်း မေးခွန်းတွေ ဖြေကြည့်ကြရအောင်။




정답 ① ㉠ ⓓ, ② ㉢ ⓒ, ③ ㉣ ⓑ, ④ ㉡ ⓐ




## 문법 2 သဒ္ဒါ ၂ -아서/어서




ကြိယာ၏ ပြုလုပ်မှု/ အခြေအနေ တစ်ခုပြီး တစ်ခု လုပ်ဆောင်/ ဖြစ်ခြင်းကို ဖော်ပြသည်။

| ㅏ, ㅗ → **-아서** | ㅓ, ㅜ, ㅣ စသည်ဖြင့် → **-어서** | 하다 → **해서** |
|---|---|---|
| 가다 → **가서**<br>만나다 → 만**나서** | 찍다 → 찍**어서**<br>내리다 → 내**려서** | 하다 → **해서**<br>요리하다 → 요리**해서** |

· 가: 오늘 저녁은 밖에 **나가서** 먹을까요? ဒီနေ့ ညနေတော့ အပြင်ထွက်ပြီး စားကြမလား။
  나: 아니요, 그냥 집에서 먹어요. ဟင့်အင်း။ ဒီအတိုင်း အိမ်မှာပဲ စားရအောင်။
· 가: 가족들에게 선물을 보냈어요? မိသားစုတွေဆီ လက်ဆောင် ပို့ပြီးပြီလား။
  나: 네, 옷을 **사서** 보냈어요. ဟုတ်ကဲ့၊ အဝတ်အစားတွေ ဝယ်ပြီး ပို့လိုက်ပါတယ်။

### 비교해 보세요 နှိုင်းယှဉ်ကြည့်ပါ

**✓ '-아서/어서' နဲ့ '-고'**

'-아서/어서'နဲ့ '-고'ကို အဖြစ်အပျက်တွေ တစ်ခုပြီးမှ တစ်ခု ဖြစ်ပေါ်တာကို ညွှန်ပြချင်တဲ့အခါ သုံးပါတယ်။ '-아서/어서'ကိုတော့ အဖြစ်အပျက် နှစ်ခု ဆက်နွယ်နေတဲ့ အခါမှာ သုံးပြီးတော့ ဘယ် ကြိယာနဲ့မဆို တွဲသုံးနိုင်ပါတယ်။ ဒါပေမဲ့ '-고'ကတော့ အဖြစ်အပျက်တွေ တစ်ခုပြီးမှ တစ်ခု ဖြစ်တယ်ဆိုတာကို ပြဖို့ပဲ သုံးပြီးတော့ ဆက်နွယ်မှုရှိနေတဲ့ အဖြစ်အပျက်တွေအတွက် သုံးလေ့မရှိတဲ့အပြင် ကံပုဒ်ကို မဖြစ်မနေ လိုအပ်တဲ့ ကြိယာတွေနဲ့ တွဲပြီး အသုံးများတာကို တွေ့ရမှာပါ။

· 밥을 먹어서 이를 닦아요.(X) 밥을 **먹고** 이를 닦아요.(O)
· 책을 **사서** 읽었어요.(O) 책을 사고 읽었어요.(X)
· 회사에 **가서** 일을 해요.(O) 회사에 가고 일을 해요.(X)



'-아서/어서' ရဲ့ အသုံးကို နားလည်ပြီလား။ ဒါဆိုရင် အပေါ်က စကားလုံးတွေကို သုံးပြီး စကားပြောကို အဆုံးသတ်ကြည့်ပါ။

2. 그림을 보고 '-아서/어서'를 사용해서 대화를 완성하세요.
ပုံကို ကြည့်ပြီး ကို သုံး၍ ဝါကျကို အဆုံးသတ်ပါ။

1) 
가: 양파는 어떻게 해요 ? ကြက်သွန်ကို ဘယ်လို လုပ်ရမလဲ။
나: ________________ 넣으세요.

2) 가: 이 음식은 어떻게 먹어요 ? ဒီ အစားအစာကို ဘယ်လို စားရတာလဲ။
나: ________________ 먹으면 돼요.

정답 1) 볶아서 2) 끓여서

### 유용한 표현 အသုံးဝင်သော အသုံးအနှုန်းများ

**기가 막히게 맛있어요. ဆွေမျိုးမေ့လောက်အောင် အရသာရှိတယ်**

가: 불고기 맛이 어때요? ဘူလ်ဂိုဂီ အရသာ ဘယ်လိုနေလဲ။
나: **기가 막히게 맛있어요. ဆွေမျိုးမေ့လောက်အောင် အရသာရှိတယ်။**

## 활동 အသုံးချသင်ခန်းစာများ

어제 저녁에 무슨 음식을 먹었어요? 〈보기〉처럼 이야기해 보세요.
မနေ့က ညနေက ဘာ အစားအစာတွေ စားခဲ့ပါသလဲ။ ဥပမာအတိုင်း ပြောကြည့်ပါ။




<ဥပမာ>





가: 모니카 씨, 어제 저녁에 뭐 먹었어요?
မိုနီခါရေ၊ မနေ့ညနေက ဘာ စားခဲ့လဲ။

나: 집에서 고기를 구워서 먹었어요.
အိမ်မှာ အသားကို ကင်ပြီး စားခဲ့ပါတယ်။

가: 맛있었어요?
အရသာ ရှိလား။

가: 네, 정말 맛있었어요.
ဟုတ်ကဲ့၊ အရမ်း အရသာရှိပါတယ်။

〈재료〉
ပါဝင်ပစ္စည်းများ



〈조리법〉
ဟင်းချက်နည်း



# 특별한 날 먹는 음식

## နေ့ထူးရက်မြတ်မှာ စားသော အစားအစာ



여름철 중 가장 더운 때를 '복날'이라고 하는데 한국 사람들은 이때 삼계탕을 먹습니다. 여름에는 땀을 많이 흘려서 기운이 없는데 인삼, 밤, 마늘 같은 좋은 재료가 많이 들어간 삼계탕을 먹으면 힘이 나기 때문입니다. 여러분도 힘이 없는 여름 날 삼계탕을 드셔 보세요.

နွေရာသီထဲမှာ အပူဆုံး အချိန်ကို 'ဘို့နားလ်(အပူဆုံးနေ့)'လို့ ခေါ်ပြီးတော့ ကိုရီးယားလူမျိုးတွေဟာ ဒီအချိန်မှာ ဂျင်ဆင်းကြက်ပေါင်းကို စားကြပါတယ်။ နွေရာသီမှာ ချွေးထွက်များတော့ အားအင်ယုတ်လျော့လေ့ ရှိတာကြောင့် ဂျင်ဆင်း၊ သစ်ချသီး၊ ကြက်သွန်ဖြူ စတဲ့ အမည်ကောင်းတွေ အများကြီး ပါတဲ့ ဂျင်ဆင်းကြက်ပေါင်းကို စားရင် အားအင်တွေ တိုးစေတဲ့ အတွက် ဖြစ်ပါတယ်။ လူကြီးမင်းတို့လည်း အားအင်ကုန်ခမ်းနွမ်းနယ်တဲ့ နွေနေ့မျိုးမှာ ဂျင်ဆင်းကြက်ပေါင်းကို စားသုံးကြည့်ပါ။



한국 사람들은 생일에 무슨 음식을 먹을까요? 케이크도 먹고 맛있는 음식도 많이 먹습니다. 그런데 생일날 꼭 빠지지 않는 음식이 있습니다. 그것은 바로 미역국입니다. 미역국은 산모가 아기를 낳은 후 먹는 음식입니다. 그래서 생일에 미역국을 먹는 것은 낳아 주신 어머니의 은혜를 기억하고 감사한다는 의미가 있습니다.

ကိုရီးယားလူမျိုးတွေက မွေးနေ့မှာ ဘယ်လို အစားအစာမျိုး စားတယ် ထင်ပါသလဲ။ ကိတ်မုန့်လည်း စားပြီး အရသာရှိတဲ့ အစားအစာတွေ အများကြီး စားပါတယ်။ ဒါပေမဲ့ မွေးနေ့မှာ လုံးဝ မပါမဖြစ်တဲ့ အစားအစာ တစ်ခု ရှိပါတယ်။ အဲဒါကတော့ ရေညှိဟင်းချိုပါ။ ရေညှိဟင်းချိုက မိခင်တွေ ကလေးမွေးပြီး နောက်မှာ စားရတဲ့ အစားအစာပါ။ အဲဒါကြောင့် မွေးနေ့မှာ ရေညှိဟင်းချိုကို စားတာဟာ မွေးပေးတဲ့ အမေရဲ့ ကျေးဇူးတရားကို အမှတ်ရပြီး ကျေးဇူးတင်တယ်ဆိုတဲ့ အဓိပ္ပာယ်ရပါတယ်။

### 함께 먹는 음식 တွဲဖက်စားသုံးသော အစားအစာများ

한국에서는 밥과 국을 제외하고는 반찬이나 찌개와 같은 음식은 식탁 위에 놓고 밥을 먹는 사람들과 같이 먹습니다. 식탁 위에서 고기를 구워 먹거나 찌개를 끓여 먹을 때에는 각자의 접시에 덜어서 먹으면 됩니다.

ကိုရီးယားမှာတော့ ထမင်းနဲ့ ဟင်းချိုအပြင် အရန်ဟင်းတွေ အချဉ်ဟင်းတွေလို အစားအစာတွေကို ထမင်းဝိုင်းပေါ် တင်ပြီး ထမင်းစားတဲ့ သူတွေနဲ့ အတူတူ မျှဝေစားသောက်လေ့ ရှိပါတယ်။ ထမင်းစားပွဲပေါ်မှာ အသားကို ကင်စားတာမျိုး၊ အချဉ်ဟင်း ပြုတ်စားတာမျိုး ဆိုရင်တော့ ကိုယ့်ပန်းကန်ထဲ ကိုယ် သပ်သပ်စီ ခွဲထည့်ပြီး စားရပါတယ်။





# EPS-TOPIK 듣기 EPS-TOPIK အကြား စာမေးပွဲ



မေးခွန်းနံပါတ် ၁နဲ့ ၂ကတော့ ပုံကို ကြည့်ပြီး မှန်ကန်တဲ့ ဝါကျကို ရွေးပေးရမှာပါ။ သေချာ နားထောင်ပြီး အဖြေမှန်ကို ရွေးပါ။

[1~2] 다음 그림을 보고 알맞은 대답을 고르십시오.
အောက်ပါ ပုံကို ကြည့်ပြီး သင့်တော်တဲ့ အဖြေကို ရွေးပါ။

Track 102

1. 이것은 무엇입니까? ဒါ ဘာဖြစ်ပါသလဲ။

① ② ③ ④

2. 지금 무엇을 합니까? အခု ဘာလုပ်နေတာပါလဲ။

① ② ③ ④



အောက်ပါ မေးခွန်းတွေအတွက် ပြောတာကို နားထောင်ပြီး အဖြေမှန်ကို ရွေးပေးရမှာပါ။ နားမထောင်ခင်မှာ ရွေးဖို့ ပေးထားတဲ့ ဝါကျတွေကို အရင် ဖတ်ကြည့်ပါ။

[3~5] 이야기를 듣고 질문에 알맞은 대답을 고르십시오.
စကားပြောကို နားထောင်ပြီး မေးခွန်းအတွက် သင့်တော်မယ့် အဖြေကို ရွေးပါ။

3. 이 사람은 왜 한국 음식을 좋아합니까? ဒီလူ ဘာဖြစ်လို့ ကိုရီးယား အစားအစာတွေကို ကြိုက်တာပါလဲ။

① 한국 음식은 시고 답니다. ② 한국 음식은 맵지 않습니다.
③ 한국 음식은 맵지만 맛있습니다. ④ 한국 음식은 싱겁지만 맛있습니다.

4. 무슨 음식에 대한 설명입니까? ဘာအစားအစာနဲ့ ပတ်သက်ပြီး ရှင်းပြနေတာပါလဲ။

① 불고기 ② 비빔밥
③ 김치찌개 ④ 된장찌개

5. 이 사람이 여름에 먹는 음식이 아닌 것은 무엇입니까?
ဒီလူ နွေရာသီမှာ စားတဲ့ အစားအစာ မဟုတ်တာက ဘာလဲ။

① 냉면 ② 삼계탕
③ 삼겹살 ④ 콩국수

## 듣기 대본 စာသား

1. ① 남: 양파입니다. ကြက်သွန်နီပါ။
② 남: 당근입니다. မုန်လာဥနီပါ။
③ 남: 감자입니다. အာလူးပါ။
④ 남: 생선입니다. ငါးပါ။

2. ① 여: 생선을 굽습니다. ငါးကင်ပါတယ်။
② 여: 생선을 튀깁니다. ငါး အကြွပ်ကြော်ပါတယ်။
③ 여: 생선을 삶습니다. ငါးပြုတ်ပါတယ်။
④ 여: 생선을 볶습니다. ငါးကြော်ပါတယ်။

3. 남: 수피카 씨는 한국 음식을 좋아해요? ဆူဖီခါ ကိုရီးယား အစားအစာကို ကြိုက်ပါသလား။
여: 네, 정말 좋아해요. 한국 음식은 맵지만 맛있어요.
ဟုတ်ကဲ့၊ အရမ်း ကြိုက်ပါတယ်။ ကိုရီးယား အစားအစာက စပ်ပေမဲ့ အရသာရှိပါတယ်။

4. 여: 김치찌개는 어떻게 만들어요? ဂင်ချီဟင်းရည်ကို ဘယ်လို လုပ်ရတာလဲ။
남: 먼저 김치를 볶으세요. 그리고 물을 넣고 끓이면 돼요.
ဂင်ချီကို အရင် ကြော်ပါ။ ပြီးရင် ရေထည့်ပြီး ပြုတ်ရင် ရပါပြီ။

5. 남: 수진 씨는 요즘처럼 더운 여름에 보통 뭘 먹어요?
ဆူဂျင် အခုလို ပူတဲ့ နွေရာသီမှာ များသောအားဖြင့် ဘာ စားဖြစ်လဲ။
여: 저는 시원한 냉면이나 콩국수를 자주 먹어요. 그리고 힘이 없을 때는 삼계탕도 먹어요.
ကျွန်မကတော့ အေးတဲ့ ခေါက်ဆွဲအေးလို ပဲနို့ခေါက်ဆွဲအေးလိုမျိုးတို့ကို မကြာမကြာ စားဖြစ်ပါတယ်။ ပြီးတော့ အားမရှိသလို ခံစားရတဲ့ အခါမျိုးမှာတော့ ဂျင်ဆင်းကြက်ပေါင်း စားပါတယ်။

정답 1. ② 2. ① 3. ③ 4. ③ 5. ③



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်




1. 대화를 듣고 질문에 알맞은 것을 고르십시오.
ပြောတာကို နားထောင်ပြီး မေးခွန်းနဲ့ သင့်တော်တဲ့ အဖြေကို ရွေးပါ။

남자가 주문한 것은 무엇입니까?
ယောက်ျားလေး မှာတဲ့ အရာက ဘာဖြစ်ပါသလဲ။

① 비빔밥 1인분하고 불고기 1인분
② 비빔밥 1인분하고 불고기 2인분
③ 불고기 2인분하고 공깃밥 한 그릇
④ 불고기 2인분하고 공깃밥 두 그릇

## 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

여: 어서 오세요. 뭘 드릴까요? ကြွပါ၊ ဘာ ပေးရမလဲ။

남: 여기 불고기 1인분하고 비빔밥 하나 주세요. 그리고 공깃밥도 하나 주시고요.
ဒီကို အသားကင် ၁ယောက်စာနဲ့ ထမင်းသုတ် တစ်ပွဲ ပေးပါ။ ပြီးတော့ ထမင်းဖြူလည်း တစ်ပန်းကန် ပေးပါနော်။

여: 손님, 불고기는 2인분 이상만 돼요. ဆရာတို့ အသားကင်က ၂ယောက်စာနဲ့ အထက်ပဲ မှာလို့ ရပါတယ်။

남: 그럼 불고기만 2인분 주세요. 공깃밥 두 그릇하고요.
ဒါဆို အသားကင်ပဲ ၂ယောက်စာ ပေးပါ။ ထမင်းလည်း နှစ်ပန်းကန် ပေးပါနော်။

정답 1. ④



## EPS-TOPIK 읽기 EPS-TOPIK အဖတ် စာမေးပွဲ



မေးခွန်းနံပါတ် ၁နဲ့ ၂ကတော့ ပုံကို ကြည့်ပြီး မှန်ကန်တဲ့ ဝါကျကို ရွေးပေးရမှာပါ။ မေးခွန်းနံပါတ် ၃ကတော့ စာပိုဒ်ကို ဖတ်ပြီး အကြောင်းအရာနဲ့ တူညီရာကို ရွေးပေးရမှာပါ။ မေးခွန်းကို သေချာ ဖတ်ပြီး သင့်တော်ရာ အဖြေကို ရွေးပါ။

[1~2] 다음 그림을 보고 맞는 문장을 고르십시오. အောက်ပါ ပုံကို ကြည့်ပြီး မှန်တဲ့ ဝါကျကို ရွေးပါ။

1.



① 식탁이 큽니다. ② 컵이 필요합니다.
③ 그릇이 많습니다. ④ 음식이 뜨겁습니다.

2.



① 당근을 볶고 있습니다. ② 계란을 삶고 있습니다.
③ 감자를 튀기고 있습니다. ④ 라면을 끓이고 있습니다.

3. 다음 질문에 답하십시오. အောက်ပါ မေးခွန်းကို ဖြေပါ။

한국 사람들은 식사를 할 때 밥과 함께 국이나 찌개, 그리고 여러 가지 반찬을 같이 먹어요. 이때 밥하고 국, 찌개는 숟가락으로 먹고 반찬은 젓가락으로 먹어요.

ကိုရီးယားလူမျိုးတွေက ထမင်းစားတဲ့အခါ ထမင်းနဲ့ အတူတူ ဟင်းချို၊ အချဉ်ဟင်း ပြီးတော့ အရန်ဟင်းမျိုးစုံကို တွဲစားလေ့ရှိပါတယ်။ အဲဒီအခါ ထမင်းနဲ့ အချဉ်ဟင်းကိုတော့ ဇွန်းနဲ့ စားပြီး အရန်ဟင်းကိုတော့ တူနဲ့ စားပါတယ်။

위 글의 내용과 같은 것을 고르십시오. အပေါ်က စာထဲက အကြောင်းအရာနဲ့ တူတဲ့ ဝါကျကို ရွေးပါ။

① 한국 사람들은 보통 빵과 우유를 먹어요.
② 한국 사람들은 국을 먹을 때 숟가락을 사용하지 않아요.
③ 한국 사람들은 식사할 때 숟가락과 젓가락을 모두 사용해요.
④ 한국 사람들은 숟가락과 젓가락을 한 손에 같이 잡고 밥을 먹어요.



ဟင်းချက်နည်းနဲ့ ပတ်သက်တဲ့ စာကို ဖတ်ပြီး မေးခွန်းများကို ဖြေပါ။ အပေါ်မှာ လေ့လာခဲ့တာတွေကို ပြန်စဉ်းစားပြီး မေးခွန်းတွေကို ဖြေကြည့်ရအောင်။

[4~5] 다음 글을 읽고 물음에 답하십시오. အောက်ပါ စာပိုဒ်ကို ဖတ်ပြီး မေးခွန်းများကို ဖြေပါ။

〈재료 ပါဝင်ပစ္စည်းများ〉

김치 300g, 돼지고기 100g, 양파 1개, 파 조금, 식용유 조금
ဂင်ချီ ၃၀၀ဂရမ်၊ ဝက်သား ၁၀၀ဂရမ်၊ ကြက်သွန်နီ ၁လုံး၊ ကြက်သွန်မြိတ် အနည်းငယ်၊ စားသုံးဆီ အနည်းငယ်

---

〈조리 방법 ဟင်းချက်နည်း〉

1. 김치하고 돼지고기를 적당하게 써세요. ဂင်ချီနဲ့ ဝက်သားကို အနေတော်လေး လှီးထားပါ။
2. 김치하고 돼지고기를 냄비에 넣고 식용유를 조금 넣어서 볶으세요.
ဂင်ချီနဲ့ ဝက်သားကို ဒယ်အိုးထဲ ထည့်ပြီး ဆီ အနည်းငယ် ထည့်၍ ကြော်ပါ။
3. 냄비에 물을 넣고 끓이세요. အိုးထဲကို ရေထည့်ပြီး ပွက်ပွက်ဆူအောင် ပြုတ်ပါ။
4. 물이 끓으면 양파와 파를 넣으세요. ရေဆူလာလျှင် ကြက်သွန်နီနဲ့ ကြက်သွန်မြိတ် ထည့်ပါ။

4. 이 음식에 들어가지 않는 재료는 무엇입니까? ဒီ အစားအစာထဲမှာ မပါတဲ့ ပစ္စည်းက ဘာလဲ။

①   ② 

③   ④ 

5. 읽은 내용과 같은 것을 고르십시오. ဖတ်ထားတဲ့ အကြောင်းအရာနဲ့ တူတာကို ရွေးပါ။

① 물과 김치를 같이 넣고 끓여야 돼요.

② 김치하고 돼지고기는 따로 볶아야 돼요.

③ 양파하고 파는 돼지고기하고 같이 넣어요.

④ 김치하고 돼지고기를 볶은 후에 물을 넣으면 돼요.

정답 1. ④ 2. ① 3. ③ 4. ③ 5. ④



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~2] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်ဖြည့်ရန် အသင့်တော်ဆုံး အရာကို ရွေးပါ။

1.

저는 음악 듣는 것을 좋아합니다. 운동을 할 때는 신나고 ________ 음악을 듣고 자기 전에는 조용한 음악을 즐겨 듣습니다.

ကျွန်တော်ကတော့ သီချင်းနားထောင်ရတာ ကြိုက်ပါတယ်။ အားကစားလုပ်တဲ့အခါ မြူးကြွပြီး မြန်တဲ့ သီချင်းတွေ နားထောင်လေ့ရှိပြီး မအိပ်ခင်မှာတော့ ခပ်အေးအေး သီချင်းလေးတွေကို ခံစားနားဆင်လေ့ရှိပါတယ်။

① 슬픈  ② 빠른

③ 피곤한  ④ 우울한

2.

저는 일요일마다 테니스를 칩니다. 테니스를 치면서 한국 사람들을 많이 만납니다. 서로 취미가 ________ 쉽게 친해질 수 있습니다.

ကျွန်တော်ကတော့ တနင်္ဂနွေနေ့တိုင်း တင်းနစ်ရိုက်ပါတယ်။ တင်းနစ်ရိုက်ရင်း ကိုရီးယား လူမျိုးတွေ အများကြီး တွေ့ဖြစ်ပါတယ်။ အချင်းချင်း ဝါသနာတူတော့ အလွယ်တကူ ရင်းနှီးမှုရလာပါတယ်။

① 같으면서  ② 같으니까

③ 많으면서  ④ 많으니까

정답 1. ② 2. ②



# 송편을 만드는 체험도 할 수 있어요

ဆုံးဖြောင်း(ကောက်ညှင်းမုန့်) ကိုယ်တိုင် လုပ်ကြည့်လို့ ရပါတယ်။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** ခန့်မှန်းတတ်ရန်၊ အစီအစဉ်အကြောင်း ပြောတတ်စေရန်
- □ **သဒ္ဒါ** -겠-, -는
- □ **ဝေါဟာရ** နှစ်သစ်ကူး၊ ကောက်သစ်စားပွဲ
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** ကိုးရီးယားမှ နေ့ထူးရက်မြတ်များ



## 대화 1 စကားပြော ၁



Track 103



အောက်မှာ ရီဟန်နဲ့ ဂျီဟွန်းတို့ စကားပြောနေတာလေးတွေကို ဖော်ပြထားပါတယ်။ သူတို့ ပြောတာကို နှစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

리한 지훈 씨, 설날에 고향에 잘 다녀왔어요?
ဂျီဟွန်းရေ၊ နှစ်သစ်ကူးမှာ ဇာတိကို ချောချောမွေ့မွေ့ သွားပြီး ပြန်လာခဲ့ရဲ့လား။

지훈 네, 오랜만에 가족들을 봐서 정말 좋았어요. 리한 씨는 설날에 뭐 했어요?
ဟုတ်ကဲ့၊ တော်တော်ကြာမှ မိသားစုတွေနဲ့ ပြန်ဆုံရတာ အရမ်း ပျော်ခဲ့ပါတယ်။ ရီဟန်ရော နှစ်သစ်ကူးမှာ ဘာလုပ်ခဲ့လဲ။

리한 한국 친구 집에 가서 떡국도 먹고 윷놀이도 했어요.
ကိုရီးယား သူငယ်ချင်း အိမ်ကို သွားပြီး ဆန်မုန့်ဟင်းချိုနဲ့ ရိုးရာ ယု ကစားနည်းလည်း ကစားခဲ့ပါတယ်။

지훈 재미있었겠어요.
ပျော်စရာ အရမ်း ကောင်းမှာပဲနော်။

리한 네, 정말 재미있었어요. 그리고 친구 부모님께 세배도 하고 세뱃돈도 받았어요.
ဟုတ်ကဲ့၊ အရမ်း ပျော်စရာကောင်းခဲ့ပါတယ်။ ပြီးတော့ သူငယ်ချင်း မိဘတွေကို ကန်တော့ပြီး မုန့်ဖိုးတွေလည်း ရခဲ့ပါတယ်။

지훈 우와, 정말 특별한 경험을 했네요. 정말 좋았겠어요.
တစ်ကယ် ထူးထူးခြားခြား အတွေ့အကြုံတွေ ရခဲ့တာပဲ။ တော်တော် ကောင်းမှာပဲနော်။

**오랜만 တော်တော်ကြာမှ**
ကိစ္စ တစ်ခုခု မပေါ်ပေါက်တာ အချိန် အတော်အတန် ကြာပြီဆိုတဲ့အခါ သုံးပါတယ်။
- 오랜만에 초등학교 때 친구를 만났어요.
  တော်တော်ကြာမှ မူလတန်းတုန်းက သူငယ်ချင်းကို ပြန်တွေ့ခဲ့ပါတယ်။
- 가: 투안 씨, 오랜만이에요.
  ထွန်အန်းရေ၊ မတွေ့ရတာ ကြာပြီနော်။
  나: 네, 2년 만에 뵙네요.
  ဟုတ်ကဲ့၊ ၂နှစ်ကြာမှ ပြန်တွေ့တာပဲ။

**경험 အတွေ့အကြုံ**
- 이 회사에서 일한 것은 저에게 좋은 경험이었어요.
  ဒီရုံးမှာ အလုပ်လုပ်ခဲ့တာဟာ ကျွန်တော့်အတွက် အရမ်းကောင်းတဲ့ အတွေ့အကြုံ တစ်ခု ဖြစ်ခဲ့ပါတယ်။
- 여행을 하면 여러 가지 좋은 경험을 할 수 있어요.
  ခရီးသွားရင် အတွေ့အကြုံကောင်း မျိုးစုံ ကြုံတွေ့နိုင်ပါတယ်။

သေချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 지훈 씨는 설날에 어디에 갔어요? ဂျီဟွန်း နှစ်သစ်ကူးမှာ ဘယ်ကို သွားခဲ့လဲ။
2. 리한 씨는 설날에 무엇을 했어요? ရီဟန် နှစ်သစ်ကူးမှာ ဘာလုပ်ခဲ့လဲ။

정답 1. 고향 2. 한국 친구 집에 가서 떡국도 먹고 윷놀이도 했어요.





## 어휘 1 ဝေါဟာရ ၁ — 설날 ကိုရီးယား နှစ်သစ်ကူးနေ့



ဒါကတော့ နှစ်သစ်ကူးနဲ့ သက်ဆိုင်တဲ့ အသုံးအနှုန်းတွေပါ။ ဘာတွေရှိလဲဆိုတာ လေ့လာကြည့်ရအောင်။

| | | | |
|---|---|---|---|
|  |  |  |  |
| 한복을 입다<br>ရိုးရာဝတ်စုံ ဝတ်သည် | 세배하다<br>နှစ်ကူး ကန်တော့သည် | 덕담을 하다<br>ဆုပေးသည် | 덕담을 듣다<br>ဆုပေးတာကို နားထောင်သည် |
|  |  |  |  |
| 세뱃돈을 주다<br>နှစ်ကူး မုန့်ဖိုးပေးသည် | 세뱃돈을 받다<br>နှစ်ကူး မုန့်ဖိုးရသည် | 떡국을 먹다<br>ဆန်မုန့်ဟင်းချို သောက်သည် | 윷놀이를 하다<br>ယု ကစားနည်း ကစားသည် |



အပေါ်က ဝေါဟာရတွေကို မကြည့်ဘဲ မေးခွန်းလေးတွေ ဖြေကြည့်ရအောင်။

1. 그림을 보고 알맞은 말을 연결하세요. ပုံကို ကြည့်ပြီး သင့်တော်ရာ အသုံးအနှုန်းနဲ့ မျဉ်းကြောင်းဆွဲ ဆက်သွယ်ပါ။

① • • ㉠ 윷놀이를 하다

② • • ㉡ 세배하다

③ • • ㉢ 한복을 입다

④ • • ㉣ 세뱃돈을 받다

⑤ • • ㉤ 떡국을 먹다

정답 ①-㉢ ②-㉣ ③-㉤ ④-㉡ ⑤-㉠

33 ဆုံးဖြောင်း(ကောက်ညှင်းမုန့်) ကိုယ်တိုင် လုပ်ကြည့်လို့ ရပါတယ်။ 



## 문법 1 သဒ္ဒါ ၁ -겠-




တစ်ခုခုကို ခန့်မှန်းပြောတဲ့အခါ၊ လက်ရှိ ဖြစ်ပျက်နေတာကို ပြန်ပြောပြတဲ့အခါ သုံးပါတယ်။ အတိတ်ကာလက အဖြစ်အပျက်ကို ခန့်မှန်းပြောတဲ့အခါမှာတော့ '-았/었'ကို '-겠-'ရဲ့ အရှေ့မှာ ထည့်ရပါတယ်။

- 가: 설날에 한국 친구 집에 초대를 받았어요. နှစ်သစ်ကူးမှာ ကိုရီးယား သူငယ်ချင်း အိမ်ကို အဖိတ်ခံထားရပါတယ်။
  나: 정말 **좋겠어요**. အရမ်း ပျော်မှာပဲနော်။
- 가: 요즘 일이 많아서 너무 바빠요. အခုတစ်လော အလုပ်တွေ များလို့ တော်တော် မအားပါဘူး။
  나: 일이 많아서 **힘들겠어요**. အလုပ်တွေ များလို့ ပင်ပန်းနေမှာပဲနော်။
- 가: 어제 우리 팀 회식이 있었는데 노래방에도 갔어요.
  မနေ့က ကျွန်တော်တို့ အဖွဲ့ စားပွဲ ရှိတာ ကာရာအိုကေလည်း သွားဆိုဖြစ်ခဲ့ကြတယ်ဗျ။
  나: 그래요? **재미있었겠어요**. ဟုတ်လား ပျော်ခဲ့မှာပဲနော်။



### 비교해 보세요 နှိုင်းယှဉ်ကြည့်ပါ။

**✓ '-겠-' နဲ့ '-(으)ㄹ 거예요'**

'-겠-'နဲ့ '-(으)ㄹ 거예요'ကို အလိုဆန္ဒ သို့မဟုတ် တစ်ခုခုနဲ့ ပတ်သက်တဲ့ အမြင်ကို ဖော်ပြတဲ့အခါ သုံးပါတယ်။ အလိုဆန္ဒကို ဖော်ပြတဲ့အခါ '-겠-'ကို ကတ္တားပုဒ် ကျွန်တော်၊ ကျွန်မ စတာတွေနဲ့သာ တွဲသုံးပြီး '-(으)ㄹ 거예요' ကိုတော့ သူ၊ သူမ စတာတွေနဲ့လည်း သုံးနိုင်ပါတယ်။ ခန့်မှန်းတဲ့ အခါမျိုးမှာတော့ ခန့်မှန်းချက်ရဲ့ အကြောင်းရင်းက ပြောသူရဲ့ အမြင်ကို အခြေခံထားတာဆိုရင် '-겠-'ကို သုံးပြီး '-(으)ㄹ 거예요'ကိုတော့ အကြောင်းရင်းက ဖြစ်ရပ်မှန် အချက်အလက်ကို အခြေခံထားတဲ့အခါ သုံးပါတယ်။

- 바루 씨가 야근을 하겠어요. (X)
  바루 씨가 야근을 **할 거예요**.(O)
- 여기를 누르면 불이 켜지겠어요. (X)
  여기를 누르면 불이 **켜질 거예요**.(O)



'-겠-' ရဲ့ အသုံးကို နားလည်ပြီလား။ ဒါဆိုရင် အဖြေမှန်ကို ရွေးပြီး စကားပြောကို အဆုံးသတ်ကြည့်ပါ။

2. 대화를 읽고 맞는 대답을 고르세요. စကားပြောကို ဖတ်ပြီး သင့်တော်တဲ့ အဖြေကို ရွေးပါ။

1) 가: 요즘 일이 너무 많아요. အခုတစ်လော အလုပ်တွေ အရမ်း များတယ်။
   나: ______________________.

① 바쁘겠어요 ② 바빴겠어요

2) 가: 지난주에 제주도로 여행을 다녀왔어요.
   ပြီးခဲ့တဲ့ အပတ်က ဂျယ်ဂျူကျွန်းကို အလည်သွားပြီး ပြန်လာခဲ့တယ်။
   나: ______________________.

① 정말 재미있겠어요 ② 정말 재미있었겠어요

정답 1) ① 2) ②



## 대화 2 စကားပြော ၂

Track 104



ဟူအောင်းနဲ့ ဆူဖီခါတို့ ကောက်သစ်စားပွဲအကြောင်း ပြောနေကြပါတယ်။ သူတို့ ဘာတွေ ပြောနေကြပါသလဲ။ အရင်ဆုံး စကားပြောကို နှစ်ခေါက် နားထောင်ကြည့်ပါ။

**연휴** ပိတ်ရက်ရှည်
- 연휴에 여행 온 가족들이 많이 있어요?
  ပိတ်ရက်ရှည်မှာ ခရီးသွားကြတဲ့ မိသားစုတွေ များလား။
- 이번 주에는 금요일이 공휴일이라서 사흘 동안 연휴예요.
  ဒီတစ်ပတ်တော့ သောကြာနေ့က ရုံးပိတ်ရက်မို့လို့ သုံးရက်တာ ပိတ်ရက်ရှည်လေ။

흐 엉 수피카 씨, 추석 연휴에 뭐 할 거예요?
ဆူဖီခါရေ၊ ကောက်သစ်စားပွဲ ပိတ်ရက်ရှည်မှာ ဘာလုပ်မှာလဲ။

수피카 글쎄요. 아직 잘 모르겠어요. 흐엉 씨는요?
အခုထိ သေချာ မသိသေးဘူးရှင့်။ ဟူအောင်းကရော။

흐 엉 저는 친구들하고 경복궁에 가려고 해요. 거기에서 고향에 못 가는 사람들을 위해서 여러 가지 행사를 해요.
ကျွန်တော်ကတော့ သူငယ်ချင်းတွေနဲ့ ဂယောင်ဘို့ နန်းတော်ကို သွားမလို့ပါ။ အဲဒီမှာ ဇာတိကို မပြန်နိုင်တဲ့ သူတွေအတွက် ပွဲတွေ အမျိုးမျိုး ရှိတယ်။

**행사** ပွဲ
- 어린이날이 되면 어린이를 위한 여러 가지 행사가 열려요.
  ကလေးများနေ့ ရောက်ရင် ကလေးတွေအတွက် ပွဲမျိုးစုံ ကျင်းပပါတယ်။
- 지난 연말에 우리 회사에서는 직원들을 위해서 여러 행사를 준비했어요.
  ပြီးခဲ့တဲ့ နှစ်ကုန်တုန်းက ကျွန်တော်တို့ ကုမ္ပဏီမှာ ဝန်ထမ်းတွေအတွက် ပွဲအမျိုးမျိုးကို ပြင်ဆင်ခဲ့ပါတယ်။

수피카 그래요? 가면 뭘 할 수 있어요?
ဟုတ်လား။ သွားရင် ဘာလုပ်လို့ရလဲ။

흐 엉 한국의 전통 놀이도 할 수 있고 송편을 만드는 체험도 할 수 있어요. 수피카 씨도 같이 가요.
ကိုရီးယား ရိုးရာ ကစားနည်းတွေ ကစားလို့ ရပြီးတော့ ဆုံဖြောင် လုပ်ကြည့်လို့လည်း ရပါတယ်။ ဆူဖီခါလည်း လိုက်ခဲ့ပါလား။



ဒီတစ်ခါတော့ ကိုယ့်ကိုယ်ကို ဆူဖီခါနဲ့ ဟူအောင်းလို့ သဘောထားပြီး သူတို့ ပြောသလို လိုက်ပြောကြည့်ရအောင်။ သေချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 흐엉 씨는 추석에 뭘 하려고 해요? ဟူအောင်းက ကောက်သစ်စားပွဲမှာ ဘာလုပ်မှာပါလဲ။
2. 경복궁에는 어떤 행사가 있어요? ဂယောင်ဘို့ နန်းတော်မှာ ဘယ်လို ပွဲတွေ ရှိလဲ။

정답 1. 경복궁에 가려고 해요. 2. 한국의 전통 놀이와 송편을 만들 수 있어요.



# 어휘 2 ဝေါဟာရ ၂

## 추석 ကောက်သစ်စားပွဲ

ကောက်သစ်စားပွဲနဲ့ ပတ်သက်တဲ့ အသုံးအနှုန်းတွေ ဘာတွေရှိလဲဆိုတာ လေ့လာကြည့်ရအောင်။




고향에 내려가다
မွေးရပ်မြေကို ပြန်သည်




친척집에 가다
ဆွေမျိုးအိမ်ကို သွားသည်



차례를 지내다
ဘိုးဘေး ကန်တော့သည်



절하다
ကန်တော့သည်



성묘하다
အုတ်ဂူကို သွား၍ ဂါရဝပြုသည်



송편을 만들다
ဆုံးဖြောင်း(ကောက်ညှင်းမုန့်) လုပ်သည်



보름달을 보다
လပြည့်ဝန်းကို ကြည့်သည်



소원을 빌다
ဆုတောင်းသည်



အပေါ်မှာ လေ့လာခဲ့တဲ့ ဝေါဟာရတွေကို ပြန်စဉ်းစားရင်း မေးခွန်းတွေ ဖြေကြည့်ကြရအောင်။

1. 그림에 맞는 표현을 〈보기〉에서 골라 넣으세요.
   အောက်ကပုံနဲ့ လိုက်မယ့် အသုံးအနှုန်းကို ဥပမာ ဝေါဟာရထဲကနေ ရွေးပြီး ထည့်ပါ။




1) 




2) 



3) 



4) 



5) 

6) 



7) 



8) 

보기

| | | | |
|---|---|---|---|
| 차례를 지내다 | 친척집에 가다 | 성묘하다 | 송편을 만들다 |
| 보름달을 보다 | 소원을 빌다 | 절하다 | 고향에 내려가다 |

정답 1) 고향에 내려가다 2) 친척집에 가다 3) 절하다 4) 송편을 만들다 5) 차례를 지내다 6) 성묘하다 7) 보름달을 보다 8) 소원을 빌다

## 문법 2 သဒ္ဒါ ၂ -는




ကြိယာနဲ့ တွဲဖက်ပြီး လက်ရှိ လုပ်ဆောင်/ ဖြစ်ပေါ်နေသော အခြေအနေကို ဖော်ပြသည့် နာမ်ကို အထူးပြုသော ပုံစံအဖြစ် သုံးပါတယ်။ 'ㄹ'အသတ်ပါတဲ့ ကြိယာတွေမှာတော့ 'ㄹ'အသတ်ကို ဖြုတ်ပြီး တွဲပါတယ်။ ဥပမာ)

살다 → 사는

- 가: 한국 사람들은 명절에 보통 뭐 해요? ကိုရီးယားလူမျိုးတွေ နေ့ထူးရက်မြတ်မှာ များသောအားဖြင့် ဘာလုပ်ကြလဲ။
  나: 고향에 **내려가는** 사람이 많아요. ဇာတိကို သွားပြန်လည်ကြတဲ့ သူတွေ များပါတယ်။
- 가: 지금 **듣는** 노래가 뭐예요? အခု နားထောင်နေတဲ့ သီချင်းက ဘာလဲ။
  나: 요즘 한국에서 **유행하는** 노래예요. အခုတစ်လော ကိုရီးယားမှာ ပေါက်နေတဲ့ သီချင်းပါ။
- 가: 바루 씨는 무슨 일을 하세요? ဘာရူ ဘာ အလုပ် လုပ်ပါသလဲ။
  나: 저는 가구를 **만드는** 일을 해요. ကျွန်တော်ကတော့ ပရိဘောဂ ပြုလုပ်တဲ့ အလုပ် လုပ်ပါတယ်။



'-는' ရဲ့ အသုံးကို နားလည်ပြီလား။ ဒါဆိုရင် ဥပမာထဲကနေ မှန်ကန်တဲ့ အသုံးအနှုန်းကို ရွေးပြီး စကားပြောကို အဆုံးသတ်ကြည့်ပါ။

2. 빈칸에 맞는 표현을 <보기>에서 골라 대화를 완성하세요.
ကွက်လပ်ဖြည့်ဖို့ သင့်လျော်တဲ့ အသုံးအနှုန်းကို ဥပမာထဲကနေ ရွေးပြီး ဝါကျကို အဆုံးသတ်ပါ။

| 보기 |
|---|
| 만들다 |
| 다니다 |
| 운동하다 |

1) 가: 안녕하세요. 저는 한국건설에 ____________ 아딧입니다.
   မင်္ဂလာပါ။ ကျွန်တော်ကတော့ ဟန်ဂုဆောက်လုပ်ရေး ရုံးမှာ အလုပ်တက်နေတဲ့ အာဒစ်ပါ။
   나: 반갑습니다. တွေ့ရတာ ဝမ်းသာပါတယ်။

2) 가: 요즘 날씨가 참 따뜻하지요? အခုတစ်လော ရာသီဥတု တစ်ကယ် နွေးလာတယ်နော်။
   나: 네, 그래서 밖에서 ____________ 사람이 많네요.
   ဟုတ်ကဲ့။ အဲဒါကြောင့် အပြင်မှာ အားကစားလုပ်တဲ့ လူတွေ များလာတယ်။

3) 가: 바루 씨는 어떤 일을 하세요? ဘာရူ ဘာ အလုပ် လုပ်ပါသလဲ။
   나: 저는 가구를 ____________ 일을 해요.
   ကျွန်တော်ကတော့ ပရိဘောဂပစ္စည်း လုပ်တဲ့ အလုပ်လုပ်ပါတယ်။

정답 1) 다니는 2) 운동하는 3) 만드는



ထပ်ပြီး လေ့လာရအောင်။ '-는' ကို သုံးပြီး ဝါကျကို အဆုံးသတ်ကြည့်ပါ။

1. 투안이 회사에서 일해요. 그 회사는 시청 근처에 있어요.
   ______________________________________.
2. 리한이 주스를 마셔요. 그 주스는 오렌지 주스예요.
   ______________________________________.

정답 1. 투안이 일하는 회사는 시청 근처에 있어요 2. 리한이 마시는 주스는 오렌지 주스예요



### 유용한 표현 အသုံးဝင်သော အသုံးအနှုန်းများ

이건 한국말로 뭐예요? ဒါကို ကိုရီးယားလို ဘယ်လို ခေါ်လဲ။

가: **이건 한국말로 뭐예요? ဒါကို ကိုရီးယားလို ဘယ်လို ခေါ်လဲ။**
나: 그건 종이라고 해요. ဒါကို ဂျုံင်(စက္ကူ)လို့ ခေါ်ပါတယ်။



## 활동 အသုံးချသင်ခန်းစာများ

다음을 읽고 질문에 답하세요. အောက်ပါ စာပိုဒ်ကို ဖတ်ပြီး မေးခွန်းများကို ဖြေပါ။

지난주 금요일은 설날이었습니다. 저는 설날에 한국 친구 집에 초대를 받아서 친구의 집에 갔습니다. 친구의 할아버지와 할머니는 한복을 입고 계셨습니다. 저는 할아버지와 할머니, 친구의 부모님께 절을 했습니다.

한국에서는 설날에 어른들께 절을 하면서 새해 인사를 드리는데 이것을 '________ ㉠ ________'(이)라고 합니다. 절을 한 후에 가족들이 모여서 같이 떡국을 먹었습니다. 한국에서 처음 먹어 봤는데 정말 맛있었습니다. 그리고 친구의 가족과 함께 윷놀이를 하면서 즐거운 하루를 보냈습니다.

ပြီးခဲ့တဲ့ အပတ် သောကြာနေ့က နှစ်သစ်ကူးနေ့ပါ။ ကျွန်တော်ကတော့ နှစ်သစ်ကူးမှာ ကိုရီးယား သူငယ်ချင်း အိမ်ကို အဖိတ်ခံရလို့ သူငယ်ချင်းရဲ့ အိမ်ကို သွားခဲ့ပါတယ်။ သူငယ်ချင်းရဲ့ အဘိုးနဲ့ အဘွားက ရိုးရာဝတ်စုံကို ဝတ်ထားကြပါတယ်။ ကျွန်တော်ကတော့ အဘိုးနဲ့ အဘွား၊ သူငယ်ချင်းရဲ့မိဘတွေကို ကန်တော့ခဲ့ပါတယ်။ ကိုရီးယားမှာက နှစ်သစ်ကူးဆို လူကြီးတွေကို ကန်တော့ရင်း နှစ်သစ်ဆုမွန်ကောင်း တောင်းလေ့ရှိပြီးတော့ ဒါကို ကန်တော့တယ်လို့ ခေါ်ပါတယ်။ ကန်တော့ပြီးနောက်မှာ  မိသားစုတွေ စုဝေးပြီး အတူ ဆန်မုန့်ဟင်းချို သောက်ကြပါတယ်။ ကိုရီးယားမှာ ပထမဆုံး စားဖူးတာ ဖြစ်ပြီး အရမ်း အရသာရှိခဲ့ပါတယ်။ ပြီးတော့ သူငယ်ချင်း မိသားစုနဲ့ အတူတူ ယု ကစားနည်း ကစားရင်း ပျော်စရာ နေ့လေး တစ်နေ့ ကုန်လွန်ခဲ့ပါတယ်။

1. ㉠에 들어갈 말로 알맞은 것을 고르세요. ㉠ နေရာမှာ ဖြည့်ရမယ့် စကားလုံးကို ရွေးပါ။

   ① 덕담　　② 세배　　③ 성묘　　④ 차례

2. 위의 내용과 같으면 ○, 다르면 x에 표시하세요.
   စာထဲက အကြောင်းအရာနဲ့ တူရင် O မတူရင် X ကို အမှတ်အသားလုပ်ပါ။

   1) 한국에서는 설날에 떡국을 먹습니다.　○　X
   2) 한국에서는 새해 인사를 할 때 절을 합니다.　○　X
   3) 이 사람은 설날에 한국 친구를 집으로 초대했습니다.　○　X

정답 1. ② 2. 1) O 2) O 3) X

# 한국의 명절

## ကိုရီးယား ရိုးရာ နေ့ထူးရက်မြတ်များ

### 설날 ကိုရီးယား နှစ်သစ်ကူး



설날은 음력 1월 1일로 한 해가 시작되는 것을 축하하면서 기념하는 날입니다. 가족들이 모여서 차례를 지내고 어른들께 세배를 합니다. 세배를 하면 어른들이 덕담을 해 주시고 세뱃돈을 주시기도 합니다. 그리고 설날에는 “새해 복 많이 받으세요”라는 인사를 합니다.

ကိုရီးယားနှစ်သစ်ကူးကတော့ ကိုရီးယား လပြက္ခဒိန်ရဲ့ ၁လပိုင်း ၁ရက်နေ့ ဖြစ်ပြီး နှစ်တစ်နှစ် အစပြုတာကို ကြိုဆိုဂုဏ်ပြုတဲ့ အနေနဲ့ အထိမ်းအမှတ်ပြုထား တဲ့နေ့ ဖြစ်ပါတယ်။ မိသားစုတွေ စုဝေးပြီး ကန်တော့ပွဲပေးကာ လူကြီးတွေကိုလည်း ဂါဝရပြုရှိခိုးကန်တော့ကြပါတယ်။ အဲ့ဒီအခါ လူကြီးတွေက ဆုတွေ မုန့်ဖိုးတွေလည်း ပေးလေ့ရှိပါတယ်။ ပြီးတော့ နှစ်ကူးနေ့မှာ "နှစ်သစ်မှာ မင်္ဂလာ အပေါင်းနဲ့ ပြည့်စုံပါစေ"လို့ ဆုမွန်ကောင်းတောင်းလေ့ရှိပါတယ်။

### 정월대보름 ဂျောင်ဝေါလ် လပြည့်



정월대보름은 음력 1월 15일로 새해 첫 보름달이 뜨는 날입니다. 사람들은 다섯 가지 곡식으로 지은 오곡밥과 말린 나물을 요래해서 먹습니다. 그리고 땅콩이나 호두 등 껍질이 딱딱한 견과류를 먹는데, 이를 '부럼'이라고 합니다. 부럼을 깨 먹으면 몸에 부스럼이 생기지 않는다는 이야기가 있습니다.

ဂျောင်ဝေါလ် လပြည့်ကတော့ ကိုရီးယား လပြက္ခဒိန် ၁လပိုင်း ၁၅ရက်ဖြစ်ပြီး နှစ်သစ်ရဲ့ ပထမဆုံး လပြည့်နေ့ ဖြစ်ပါတယ်။ အများစုကတော့ အဲ့ဒီနေ့မှာ ပဲ ၅မျိုးနဲ့ ချက်ထားတဲ့ ထမင်းနဲ့ ဟင်းရွက်ခြောက်တို့ကို ချက်စားကြပါတယ်။ ပြီးတော့ မြေပဲတို့ သစ်ချသီးတို့ အခွံမာသီးတွေလည်း စားကြပြီး ဒါကို 'ဘူရောမ်'လို့ ခေါ်ပါတယ်။ ဘူရောမ်ကို စားရင် ခန္ဓာကိုယ်မှာ အဖုတွေ မပေါက်ဘူးဆိုတဲ့ ဆိုရိုးစကား ရှိပါတယ်။

### 추석 ချူဆော့(ကိုရီးယား ရိုးရာ ကောက်သစ်စားပွဲ)



추석은 음력 8월 15일로 '한가위'라고도 합니다. 추석에도 성묘를 하고 차례를 지내는데, 추석에는 갓 수확한 쌀로 쌀밥을 짓고 송편을 만들어서 먹습니다. 그리고 밤에는 보름달을 보면서 소원을 빕니다. 추석의 대표적인 놀이로는 '강강술래'가 있는데 이는 밤에 달 아래 여성들이 동그랗게 손을 잡고 노래를 부르면서 빙글빙글 도는 놀이입니다.

ချူဆော့ကတော့ ကိုရီးယား လပြက္ခဒိန် ၈လပိုင်း ၁၅ရက်ဖြစ်ပြီး 'ဟန်ဂါဝီ' လို့ လည်း ခေါ်ကြပါတယ်။ ကောက်သစ်စားပွဲတော် ကာလမှာ မိသားစုမျိုးရိုးအုတ်ဂူကို သွားပြီး ဂါရဝပြုတာ ကန်တော့ပွဲပေးတာမျိုး လုပ်ကြပြီး ရိတ်ရိတ်ပြီးချင်း စပါးက ရတဲ့ ဆန်နဲ့ ထမင်းချက်ပြီး ဆုံးဖြောင်း(ကောက်ညှင်းမုန့်) လုပ်စားကြပါတယ်။ ပြီးတော့ လပြည့် ညအခါမှာ ကန်တော့ပွဲပေးတာမျိုး လုပ်ကြပြီး ဆုတောင်းလေ့ရှိပါတယ်။ ကောက်သစ်စား ပွဲရဲ့ အထိမ်းအမှတ် ကစားနည်းအဖြစ် 'ဂန်ဂန်ဆူးလယ်' ဝိုင်းကြီးပတ်ပတ် ဒူဝေ ဝေ ကစားနည်းရှိပြီး ညဘက် လရောင်အောက်မှာ မိန်းမငယ်လေးတွေ စုဝေးကာ လက်တွဲပြီး သီချင်းဆိုရင်း ပတ်ချာလှည့် ကစားရတဲ့ ကစားနည်း ဖြစ်ပါ တယ်။



မေးခွန်းနံပါတ် ၁ကနေ ၃အထိကတော့ စကားပြောကို နားထောင်ပြီး အသင့်တော်ဆုံး ဖြစ်မယ့် အဖြေကို ရွေးပေးရမှာ ဖြစ်ပါတယ်။ သေချာ နားထောင်ပြီး အဖြေမှန်ကို ရွေးပါ။

[1~3] 이야기를 듣고 질문에 알맞은 답을 고르십시오.
စကားပြောကို နားထောင်ပြီး မေးခွန်းနဲ့ သင့်တော်တဲ့ အဖြေကို ရွေးပါ။




1. 남자는 설날 연휴에 무엇을 했습니까?
ယောကျ်ားလေးက နှစ်ကူးပိတ်ရက်မှာ ဘာလုပ်ခဲ့ပါသလဲ။

① 떡국을 먹었습니다. ② 집에 혼자 있었습니다.
③ 세배를 받았습니다. ④ 친구하고 영화를 봤습니다.

2. 한국 사람들이 추석에 하는 일과 관계 없는 것을 고르십시오.
ကိုရီးယား လူမျိုးတွေ ကောက်သစ်စားပွဲမှာ လုပ်တာနဲ့ မသက်ဆိုင်တဲ့ အရာကို ရွေးပါ။

① 고향에 갑니다. ② 세배를 합니다.
③ 차례를 지냅니다. ④ 맛있는 음식을 먹습니다.

3. 두 사람은 무엇에 대해 이야기하고 있습니까?
သူတို့ နှစ်ယောက် ဘာအကြောင်း ပြောနေကြပါသလဲ။

① 명절에 먹는 옷 ② 명절에 하는 인사
③ 명절에 입는 음식 ④ 명절에 하는 놀이



အောက်က ပုစ္ဆာတွေအတွက် စကားပြောကို နားထောင်ပြီး အဖြေမှန်ကို ရွေးပေးရမှာပါ။
နားမထောင်ခင် မေးခွန်းတွေနဲ့ ရွေးဖို့ ပေးထားတဲ့ အဖြေတွေကို အရင် ဖတ်ကြည့်ပါ။

[4~5] 하나의 이야기를 듣고 두 개의 질문에 대답하십시오.
စကားပြော တစ်ခုကို နားထောင်ပြီး မေးခွန်း နှစ်ခုကို ဖြေဆိုပါ။

4. 여자는 왜 추석에 고향에 안 내려갑니까?
မိန်းကလေးက ဘာကြောင့် ကောက်သစ်စားပွဲမှာ ဇာတိကို မပြန်တာလဲ။

① 일을 해야 돼서 ② 연휴가 너무 짧아서
③ 고향이 너무 멀어서 ④ 기차표가 다 팔려서

5. 두 사람은 추석 연휴에 무엇을 할 것입니까?
သူတို့နှစ်ယောက် ကောက်သစ်စားပွဲ ပိတ်ရက်မှာ ဘာလုပ်ကြမှာပါလဲ။

① 집에서 쉴 것입니다. ② 같이 일을 할 것입니다.
③ 콘서트에 갈 것입니다. ④ 영화를 보러 갈 것입니다.

## 듣기 대본 စာသား

1. 여: 투안 씨는 설날 연휴에 뭐 했어요? ထူအန်း နှစ်သစ်ကူး ပိတ်ရက်ရှည်မှာ ဘာလုပ်ခဲ့လဲ။

   남: 친구 집에 가서 어른들께 세배도 하고 떡국도 먹었어요.
   သူငယ်ချင်း အိမ်ကို သွားပြီး လူကြီးတွေကို ကန်တော့ရင်း ဆန်မုန့်ဟင်းချိုလည်း သောက်ခဲ့ပါတယ်။

2. 여: 한국 사람들은 추석에 보통 뭐 해요?
   ကိုရီးယားလူမျိုးတွေက ကောက်သစ်စားပွဲမှာ များသောအားဖြင့် ဘာလုပ်ကြပါလဲ။

   남: 고향에 내려가는 사람들이 많아요. 고향에 가서 가족들과 맛있는 음식도 먹고 차례도 지내요.
   မွေးရပ်မြေကို သွားလည်ကြတဲ့ သူတွေ များပါတယ်။ ဇာတိမှာ မိသားစုတွေနဲ့ အရသာရှိတဲ့ အစားအစာတွေလည်း စားပြီး ဘိုးဘွားဘီဘင်တွေကို ကန်တော့ကြပါတယ်။

3. 여: 명절에 가족들이 만나서 하는 놀이가 있어요?
   ရက်ကြီးရက်မြတ်မှာ မိသားစုတွေ ဆုံပြီး ကစားကြတဲ့ ကစားနည်း ရှိလား။

   남: 네, 설날이나 추석 같은 명절에 가족들이 모여서 윷놀이를 해요.
   ဟုတ်ကဲ့။ နှစ်သစ်ကူးတို့ ကောက်သစ်စားပွဲတို့လို နေ့ထူးနေ့မြတ်တွေမှာ မိသားစုတွေ စုပြီး ယု ကစားနည်းကို ကစားကြ ပါတယ်။

4-5.

여: 미영 씨, 이제 곧 추석인데 언제 고향에 내려가요?
မိယောင်း၊ အခုဆို သိပ်မကြာခင် ကောက်သစ်စားပွဲရက်ဆိုတော့ ဘယ်တော့ မွေးရပ်မြေကို ပြန်မှာလဲ။

남: 이번 추석에는 고향에 안 내려갈 거예요. ဒီတစ်ခေါက် ကောက်သစ်စားပွဲမှာ ဇာတိကို မပြန်တော့ဘူးလားလို့။

여: 왜요? 추석에도 일을 해야 돼요? ဘာဖြစ်လို့လဲ။ ကောက်သစ်စားပွဲရက်လည်း အလုပ် လုပ်ရမှာလား။

남: 아니요, 일은 안 하는데 고향에 가는 기차표가 없어요.
မဟုတ်ပါဘူး။ အလုပ်တော့ မလုပ်ရပေမဲ့ မွေးရပ်မြေကို ပြန်တဲ့ ရထားလက်မှတ်က ဝယ်မရတော့လို့ပါ။

여: 아, 그럼 우리 추석 연휴에 만날까요? အော်၊ ဒါဆို ကျွန်မတို့ ကောက်သစ်စားပွဲ ပိတ်ရက်ရှည်မှာ တွေ့ကြမလား။

남: 좋아요. 같이 영화도 보고 밥도 먹어요. ကောင်းသားပဲ။ အတူတူ ရုပ်ရှင်ကြည့်ရင်း ထမင်းလည်း စားရအောင်။

정답 1. ① 2. ② 3. ④ 4. ④ 5. ④



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန် L-33

1. 대화를 듣고 질문에 알맞은 것을 고르십시오.
   စကားပြောကို နားထောင်ပြီး မေးခွန်းနဲ့ လိုက်ဖက်မယ့် အရာကို ရွေးပါ။

   두 사람은 무엇에 대해 이야기하고 있습니까? သူတို့ နှစ်ယောက် ဘာအကြောင်း ပြောနေကြပါသလဲ။

   ① 명절 계획 ② 회식 시간 ③ 여행 일정 ④ 연휴 기간

## 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

여: 지훈 씨는 이번 명절에 뭐 할 거예요? ဂျီဟွန်း ဒီတစ်ခါ ရက်မြတ်မှာ ဘာလုပ်မှာလဲ။

남: 해마다 고향에 다녀왔는데 이번에는 집에 있으려고요.
နှစ်တိုင်း မွေးရပ်မြေကို သွားပြီးပြန်လာတာ ဒီတစ်ခါတော့ အိမ်မှာပဲ နေမလားလို့ပါ။

여: 그럼 고향에 안 갈 거예요? ဒါဆို ဇာတိကို မပြန်တော့ဘူးပေါ့။

남: 네, 일도 많고 연휴도 짧아서 못 갈 것 같아요.
ဟုတ်ကဲ့။ အလုပ်တွေလည်း များပြီး ပိတ်ရက်လည်း တိုတော့ မသွားဖြစ်လောက်တော့ဘူး။

정답 1. ①



# EPS-TOPIK 읽기 EPS-TOPIK အဖတ် စာမေးပွဲ



မေးခွန်း ၁ကနေ ၃အထိကတော့ စကားပြောရဲ့ ဝါကျထဲက ကွက်လပ်ကို ဖြည့်ဖို့ သင့်တော်တဲ့ စကားလုံးကို ရွေးရမယ့် မေးခွန်းတွေပါ။ အကြောင်းအရာနဲ့ သက်ဆိုင်တဲ့ အရာကို ရွေးပါ။

[1~3] 빈칸에 들어갈 가장 알맞은 것을 고르십시오. ကွက်လပ်ဖြည့်ဖို့ အသင့်တော်ဆုံး စကားလုံးကို ရွေးပါ။

1.

가: 한국의 전통 옷이 한복이지요? 한복은 보통 언제 입어요?
ကိုရီးယားရိုးရာဝတ်စုံက ဟန်ဘို့ မဟုတ်လား။ ဟန်ဘို့ကို များသောအားဖြင့် ဘယ်အချိန် ဝတ်လေ့ရှိလဲ။

나: 설날이나 추석 같은 ________에 주로 입어요.
နှစ်သစ်ကူးတို့ ကောက်သစ်စားပွဲတို့လို နေ့ထူးရက်မြတ်တွေမှာ အများအားဖြင့် ဝတ်လေ့ရှိပါတယ်။

① 생일 ② 명절 ③ 계절 ④ 회의

2.

가: 지훈 씨는 설날 연휴에 뭐 할 거예요? ဂျီဟွန်း နှစ်သစ်ကူး ပိတ်ရက်ရှည်မှာ ဘာလုပ်မှာလဲ။

나: 저는 고향에 ________________. ကျွန်တော်ကတော့ ဇာတိမြေကို ပြန်မလို့ပါ။

① 다닐 거예요 ② 내려갈 거예요 ③ 돌아올 거예요 ④ 이사할 거예요

3.

가: 저는 지난 설 연휴에 친구 집에 가서 떡국도 먹고 세뱃돈도 받았어요.
ကျွန်တော်ကတော့ ပြီးခဲ့တဲ့ နှစ်သစ်ကူး ပိတ်ရက်ရှည်မှာ သူငယ်ချင်း အိမ်ကို သွားပြီး ဆန်မုန့်ဟင်းချိုလည်း သောက်၊ မုန့်ဖိုးလည်း ရခဲ့ပါတယ်။

나: 우와, 정말 ________________. 저는 집에만 있었는데 부러워요.
ဟယ်... တစ်ကယ် ပျော်စရာကောင်းခဲ့မှာပဲနော်။ ကျွန်မကတော့ အိမ်မှာပဲ နေနေခဲ့တာ... အားကျလိုက်တာ။

① 추웠겠어요 ② 속상했겠어요 ③ 재미있었겠어요 ④ 사람이 없었겠어요



အောက်ပါ စာပိုဒ်ကို ဖတ်ပြီး မေးခွန်း နှစ်ခုကို ဖြေရမှာပါ။ အပေါ်မှာ လေ့လာခဲ့တာတွေကို ပြန်စဉ်းစားပြီး မေးခွန်းတွေကို ဖြေကြည့်ရအောင်။

[4~5] 다음 글을 읽고 물음에 답하십시오. အောက်ပါ စာပိုဒ်ကို ဖတ်ပြီး မေးခွန်းများကို ဖြေပါ။

한국의 대표적인 명절은 설날과 추석입니다. 설날은 음력 1월 1일로 한 해의 시작을 축하하는 날입니다. 설날에는 가족이 모여 조상들께 차례를 지내고 어른들께 세배를 합니다. 그리고 떡국도 먹습니다. 추석은 음력 8월 15일로 과일과 곡식을 거둔 것을 감사하는 날입니다. 추석에는 차례를 지내고 송편을 먹습니다. 밤에는 보름달을 보고 소원도 빕니다. 추석에는 과일과 음식이 많아서 '더도 말고 덜도 말고 한가위만 같아라'라는 말도 있습니다.

ကိုရီးယားရဲ့ ထင်ရှားတဲ့ အထိမ်းအမှတ်နေ့တွေကတော့ နှစ်သစ်ကူးနဲ့ ကောက်သစ်စားပွဲတို့ ဖြစ်ပါတယ်။ နှစ်သစ်ကူးကတော့ ကိုရီးယား လပြက္ခဒိန် ၁လပိုင်း ၁ရက်နေ့ ဖြစ်ပြီး နှစ်တစ်နှစ်ရဲ့ အစကို ဂုဏ်ပြုတဲ့ နေ့ဖြစ်ပါတယ်။ နှစ်သစ်ကူးရက်မှာ မိသားစုတွေ စုဝေးပြီး ဘိုးဘွားဘီဘင်တွေကို ကန်တော့ပွဲပေးရင်း လူကြီးတွေကို ကန်တော့ကြပါတယ်။ ပြီးတော့ ဆန်မုန့်ဟင်းချိုလည်း သောက်ကြပါတယ်။ ကောက်သစ်စားပွဲကတော့ ကိုရီးယား လပြက္ခဒိန် ၈လပိုင်း ၁၅ရက်နေ့ဖြစ်ပြီး သစ်သီးတွေ ကောက်ပဲသီးနှံတွေ ရိတ်သိမ်းတာကို ကျေးဇူးတင်တဲ့ နေ့ဖြစ်ပါတယ်။ ကောက်သစ်စားပွဲမှာတော့ ကန်တော့ ပွဲပေးပြီး ဆုံးဖြောင်း(ကောက်ညှင်းမုန့်)ကို စားကြပါတယ်။ ညဘက်မှာတော့ လပြည့်ဝန်းကြီးကို ကြည့်ပြီး ဆုတောင်းလေ့ရှိပါတယ်။ ကောက်သစ်စားပွဲရက်မှာတော့ သစ်သီးတွေ အစားအသောက်တွေ ပေါလွန်းလို့ 'ပိုတယ်လျော့တယ် မရှိဘဲ အမြဲတမ်း ဟန်ဂါဝီ ကောက်သစ်စားပွဲလိုပဲ ဖြစ်ရပါစေ'ဆိုတဲ့ စကားပုံတောင် ရှိတဲ့အထိပါပဲ။

4. 한 해의 시작을 축하하는 날은 언제입니까? နှစ်တစ်နှစ် အစကို ကြိုဆိုဂုဏ်ပြုတဲ့ နေ့က ဘယ်နေ့ဖြစ်ပါသလဲ။

① 설날　② 추석　③ 명절　④ 한가위

5. 읽은 내용과 같은 것을 고르십시오. ဖတ်ထားတဲ့ အကြောင်းအရာနဲ့ တူတဲ့ ဝါကျကို ရွေးပါ။

① 추석은 음력 1월 1일이다.　② 설날에 송편을 만들어서 먹는다.
③ 설날에는 조상들께 차례를 지내지 않는다.　④ 추석에는 과일과 음식을 많이 먹을 수 있다.

정답 1. ② 2. ② 3. ③ 4. ① 5. ④

## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~3] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်ဖြည့်ရန် အသင့်တော်ဆုံး အရာကို ရွေးပါ။

1. 매주 일요일마다 친구와 같이 산에 갑니다. 산을 오를 때는 힘들지만 정상에 ________ 기분이 참 좋아집니다.
အပတ်တိုင်း တနင်္ဂနွေနေ့မှာ သူငယ်ချင်းနဲ့ အတူတူ တောင်တက်သွားလေ့ရှိပါတယ်။ တောင်တက်တဲ့အခါ ပင်ပန်းပေမဲ့ တောင်ထိပ်ရောက်တဲ့အခါမှာတော့ စိတ်ထဲ အရမ်း ကြည်လင်လာပါတယ်။

① 내려오고　② 도착하고
③ 내려오면　④ 도착하면

2. 해외여행을 가려면 먼저 여행 날짜와 장소를 ________ 비행기 표와 호텔을 예약합니다. 그리고 가지고 갈 물건들을 준비합니다.
နိုင်ငံခြား ခရီးသွားမယ်ဆိုရင် အရင်ဆုံး ခရီးသွားမယ့် ရက်နဲ့ နေရာကို သတ်မှတ်ပြီးနောက် လေယာဉ်လက်မှတ်နဲ့ ဟိုတယ်ကို ဘွတ်ကင်လုပ်ရပါတယ်။ ပြီးတော့ ယူသွားမယ့် ပစ္စည်းတွေကို ပြင်ဆင်ရပါတယ်။

① 정한 후에　② 신청한 후에
③ 정하기 전에　④ 신청하기 전에

3. 연휴 때 고향에 ________ 합니다. 그런데 벌써 기차표가 매진되어서 버스를 타고 가야 합니다.
ပိတ်ရက်ရှည်မှာ ဇာတိကို သွားပြီးပြန်လာမလို့ပါ။ ဒါပေမဲ့ ရထားလက်မှတ်တွေ အကုန်ရောင်းကုန်သွားလို့ ဘတ်စ်ကားစီးပြီး သွားရပါမယ်။

① 돌아오면　② 다녀오면
③ 돌아오려고　④ 다녀오려고

정답 1. ④ 2. ① 3. ④




# 아기 옷을 선물하는 게 어때요?

ကလေးဝတ်အကျီ လက်ဆောင်ပေးရင် ဘယ်လိုနေမလဲ။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** အကြံဉာဏ်ပေးရန်၊ အကြိမ်ရေ ရေတွက်နိုင်ရန်
- □ **သဒ္ဒါ** -는 게 어때요, -고 나서
- □ **ဝေါဟာရ** နေ့ထူးရက်မြတ်၊ လက်ထပ်ထိမ်းမြားမှု ထုံးတမ်း
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** မိသားစုပွဲများနှင့် ကိုရီးယား ရိုးရာဓလေ့ ပွဲများ



## 대화 1 စကားပြော ၁






အောက်မှာ မိုနီခါနဲ့ ဆိုဟီတို့ စကားပြောနေတာလေးကို ဖော်ပြထားပါတယ်။ သူတို့ ပြောတာကို နှစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

모니카 소희 씨도 이번 주말에 순영 씨의 아기 돌잔치에 가요?
ဆိုဟီရော ဒီတစ်ပတ် နားရက်မှာ ဆွန်ယောင်းရဲ့ ကလေး တစ်နှစ်ပြည့် မွေးနေ့ပွဲကို သွားမှာလား။

소 희 네, 저도 갈 거예요.
ဟုတ်ကဲ့၊ ကျွန်မလည်း သွားမလို့ပါ။

모니카 돌잔치에 가면 뭐 해요?
တစ်နှစ်ပြည့် မွေးနေ့ပွဲကို သွားရင် ဘာတွေ လုပ်လဲဟင်။

소 희 가족과 친구들이 아기의 첫 번째 생일을 축하하고 밥도 먹어요.
မိသားစုနဲ့ သူငယ်ချင်းတွေက ကလေးရဲ့ ပထမဆုံး အကြိမ် မွေးနေ့ကို ဂုဏ်ပြုကြပြီး ထမင်းလည်း စားကြပါတယ်။

모니카 그런데 아기한테 무슨 선물을 하는 게 좋아요?
ဒါနဲ့ ကလေးကို ဘယ်လို လက်ဆောင်မျိုး ပေးရင် ကောင်းမလဲ။

소 희 아기 옷이나 인형을 많이 선물해요. 저는 인형을 샀으니까 모니카 씨는 옷을 선물하는 게 어때요?
ကလေးအကျီတို့ အရုပ်တို့ အများဆုံး လက်ဆောင်ပေးကြပါတယ်။ ကျွန်မက အရုပ် ဝယ်ပြီးပြီဆိုတော့ မိုနီခါက အကျီ လက်ဆောင်ပေးရင် ဘယ်လိုနေမလဲ။

모니카 그게 좋겠네요. 고마워요.
အဲ့ဒါ ကောင်းမယ်ထင်တယ်နော်။ ကျေးဇူးပါပဲ။

> **번째**
> နေ့ရက် အစီအစဉ် (သို့) အဆင့်၊ အပတ်စဉ်ကို ရေတွက်သောအခါ သုံးသည်။
> · 다음 달 첫 번째 토요일에 만나요.
> နောက်လ ပထမ အပတ် စနေနေ့မှာတွေ့ရအောင်။
> · 한국 방문은 이번이 두 번째예요.
> ကိုရီးယား အလည်သွားတာ ဒီတစ်ခါနဲ့ဆို နှစ်ကြိမ်မြောက်ပါ။

> **선물 လက်ဆောင်**
> · 모니카 씨의 생일 선물로 꽃을 준비했어요.
> မိုနီခါရဲ့ မွေးနေ့ လက်ဆောင်အဖြစ် ပန်း ယူလာခဲ့ပါတယ်။
> · 어린이날에 제 조카에게 장난감 선물을 할 거예요.
> ကလေးများနေ့မှာ ကျွန်တော့်တူမလေးကို အရုပ် လက်ဆောင်ပေးမလို့ပါ။



သေချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 이번 주말은 무슨 날이에요? ဒီတစ်ပတ် နားရက်က ဘာနေ့ပါလဲ။
2. 두 사람은 무슨 선물을 준비할 거예요? သူတို့နှစ်ယောက် ဘာလက်ဆောင် ပြင်သွားကြမှာလဲ။

정답 1. 순영 씨의 아기 돌잔치 2. 인형과 옷








## 어휘 1 ဝေါဟာရ ၁   특별한 날 နေ့ထူးနေ့မြတ်



ဒါကတော့ ကိုရီးယားရဲ့ နေ့ထူးနေ့မြတ်တွေနဲ့ ပတ်သက်တဲ့ ဝေါဟာရတွေပါ။ ဘာတွေရှိလဲဆိုတာ လေ့လာကြည့်ရအောင်။



생일
မွေးနေ့




백일
ရက်တစ်ရာပြည့်




돌
တစ်နှစ်ပြည့် မွေးနေ့



집들이
အိမ်တက်ပွဲ




어버이날
မိဘများနေ့




스승의 날
ဆရာများနေ့




어린이날
ကလေးများနေ့



결혼기념일
မင်္ဂလာနှစ်ပတ်လည်နေ့




환갑
အသက် ၆၀ပြည့် မွေးနေ့




칠순
အသက် ၇၀ပြည့် မွေးနေ့







အပေါ်က ဝေါဟာရတွေကို မကြည့်ဘဲ မေးခွန်းလေးတွေ ဖြေကြည့်ရအောင်။

1. 그림을 보고 알맞은 말을 연결하세요. ပုံကို ကြည့်ပြီး သင့်တော်ရာ အသုံးအနှုန်းနဲ့ မျဉ်းကြောင်းဆွဲ ဆက်သွယ်ပါ။

① ② ③ ④ ⑤

㉠ 생일   ㉡ 돌   ㉢ 어버이날   ㉣ 결혼기념일   ㉤ 집들이

정답 ①㉡ ②㉤ ③㉣ ④㉢ ⑤㉠

## 문법 1 သဒ္ဒါ ၁ -는 게 어때요




ကြိယာနဲ့ တွဲပြီး တစ်ခုခု ညွှန်းပေးတာ၊ အကြံဉာဏ်ပေးတာမျိုးတွေမှာ သုံးပါတယ်။

· 가: 주말에 친구 집들이가 있는데 무슨 선물이 좋을까요?
  နားရက်မှာ သူငယ်ချင်း အိမ်တက် ရှိတာ ဘာ လက်ဆောင်မျိုး ဝယ်သွားရင် ကောင်းမလဲ။
  나: 세제나 휴지를 **사는 게 어때요**? ဆပ်ပြာမှုန့်တို့ တစ်ရှူးလိပ်တို့ ဝယ်ရင် ဘယ်လို နေမလဲ။
· 가: 지금 밥을 먹을까요? အခု ထမင်း စားကြမလား။
  나: 영화를 본 후에 밥을 **먹는 게 어때요**? ရုပ်ရှင်ကြည့်ပြီးမှ စားတာ မကောင်းဘူးလား။

### 대조적 정보 နှိုင်းယှဉ်ချက်

'-는 게 어때요?' က မြန်မာစကားမှာ တစ်ခုခုကို 'လုပ်ပါလား'လို့ အကြံပေးတိုက်တွန်းတဲ့ ပုံစံနဲ့လည်း သုံးလို့ရသလို 'လုပ်လိုက်ရင်ကော?'ဆိုပြီး သဘောထားမေးမြန်းတဲ့ သဘောနဲ့လည်း သုံးလို့ ရပါတယ်။ ကိုရီးယားလို တိုက်ရိုက်ကတော့ 'တဲ့အရာက ဘယ်လိုလဲ' ဖြစ်ပါတယ်။

· 다음에는 우리 집에서 **모이는 게 어때요**? နောက်တစ်ခါကျရင် ကျွန်တော်တို့ အိမ်မှာ စုကြမလား။
· 일찍 밥을 **먹는 게 어때요**? ထမင်း စောစော စားလိုက်ကြမလား။(စားလိုက်ရင်ကော?)



'-는 게 어때요?' ရဲ့ အသုံးကို နားလည်ပြီလား။ ဒါဆိုရင် ဒီ အသုံးအနှုန်းကို အသုံးပြုပြီး စကားပြောကို အဆုံးသတ်ကြည့်ပါ။

2. 그림을 보고 '-는 게 어때요?'를 사용해서 대화를 완성하세요.
   ပုံကို ကြည့်ပြီး '-는 게 어때요?' ကို သုံး၍ ဝါကျကို အဆုံးသတ်ပါ။

1) 
가: 수진 씨가 집들이를 하는데 무슨 선물을 하면 좋을까요?
ဆုဂျင်းတို့ အိမ်မှာ အိမ်တက်လုပ်တာ ဘာ လက်ဆောင် ပေးရင် ကောင်းမလဲ။
나: ______________________?

2) 
가: 다음 주 토요일이 모니카 씨 생일인데 뭘 살까요?
နောက်အပတ် စနေနေ့ မိုနီခါ မွေးနေ့ဆိုတော့ ဘာ ဝယ်သွားရင် ကောင်းမလဲ။
나: ______________________?

정답 1) 휴지를 선물하는 게 어때요 2) 티셔츠를 선물하는 게 어때요



ထပ်ပြီး လေ့လာရအောင်။ '-는 게 어때요?' ကို သုံးပြီး ဝါကျကို အဆုံးသတ်ကြည့်ပါ။

1. 가: 목이 좀 아파요.
   나: 따뜻한 물을 ______________?
2. 가: 주말에 어디로 여행을 갈까요?
   나: 제주도에 ______________?
3. 가: 어디에서 만날까요?
   나: 시내에서 ______________?
4. 가: 저는 공포 영화를 싫어해요.
   나: 그럼, 다른 영화를 ______________?

정답 1. 마시는 게 어때요 2. 가는 게 어때요 3. 만나는 게 어때요 4. 보는 게 어때요



## 대화 2 စကားပြော ၂

Track 107



မီယောင်းနဲ့ လီလီတို့ ကိုရီးယားရိုးရာ လက်ထပ်ထိမ်းမြားတဲ့ ဓလေ့အကြောင်း ပြောနေကြပါ တယ်။ သူတို့ သူတို့ ဘာတွေ ပြောနေကြပါသလဲ။ အရင်ဆုံး စကားပြောကို နှစ်ခေါက် နားထောင်ကြည့်ပါ။

미영 신랑하고 수진 씨가 **참** 잘 **어울리지요**?
သတို့သားနဲ့ ဆူဂျင်တို့ အရမ်းကို လိုက်ဖက်တယ် မဟုတ်လား။

리리 네, 정말 잘 어울려요. 그런데 한국에서는 결혼할 때 한복을 안 입어요?
ဟုတ်တယ်၊ တစ်ကယ် လိုက်ဖက်ပါတယ်။ ဒါပေမဲ့ ကိုရီးယားမှာ မင်္ဂလာပွဲကျင်းပတဲ့အခါ ရိုးရာဝတ်စုံ မဝတ်ဘူးလား။

미영 결혼식이 **끝나고 나서** 폐백을 드리는데 그때 한복을 입어요.
မင်္ဂလာပွဲ ပြီးရင် ဖဲဘက် ရှိတယ်လေ... အဲဒီအချိန်ကျမှ ရိုးရာဝတ်စုံ ဝတ်ကြပါတယ်။

리리 폐백이 뭐예요?
ဖဲဘက် ဆိုတာ ဘာလဲ။

미영 결혼할 때 신랑 부모님과 친척들께 하는 인사예요.
လက်ထပ်တဲ့အခါ သတို့သား မိဘတွေနဲ့ ဆွေမျိုးတွေကို နှုတ်ဆက်ဂါရဝပြုတာကို ပြောတာပါ။

리리 아, 그렇군요. 한국의 전통 혼례도 보고 싶어요.
သြော်၊ ဒီလိုကိုး။ ကိုရီးယား ရိုးရာ မင်္ဂလာပွဲလည်း မြင်ဖူးချင်လိုက်တာ။

> **참** အရမ်း၊ အမှန်ကို၊ တကယ့်ကို
> · 오늘은 날씨가 참 좋네요. ဒီနေ့တော့ ရာသီဥတု အရမ်း သာယာလိုက်တာ။
> · 투안 씨는 일을 참 잘해요. ထူအန်းက အလုပ် အရမ်း တော်တယ်။

> **어울리다** လိုက်ဖက်သည်
> · 가: 민수 씨하고 미영 씨가 결혼한다면서요? မင်ဆူနဲ့ မီယောင်းတို့ လက်ထပ်ကြတော့မယ်ဆို။
> 나: 네, 저도 들었어요. 두 사람이 정말 잘 어울리는 것 같아요. ဟုတ်ကဲ့။ ကျွန်တော်လည်း ကြားတယ်။ နှစ်ယောက်သား အရမ်း လိုက်တယ်နော်။



ဒီတစ်ခါတော့ ကိုယ့်ကိုယ်ကို လီလီနဲ့ မီယောင်းလို့ သဘောထားပြီး သူတို့ ပြောသလို လိုက်ပြောကြည့်ရအောင်။ သေချာနားထောင် သေချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 미영 씨와 리리 씨는 지금 어디에 있어요? မီယောင်းနဲ့ လီလီ အခု ဘယ်မှာ ရှိနေတာလဲ။
2. 폐백이 뭐예요? ဖဲဘက် ဆိုတာ ဘာလဲ။

정답 1. 수진 씨의 결혼식 2. 신부가 신랑 부모님과 친척들께 하는 인사

## 어휘 2 ဝေါဟာရ ၂ 결혼 문화 လက်ထပ်ထိမ်းမြားမှု ဓလေ့ထုံးတမ်း



လက်ထပ်ထိမ်းမြားတဲ့ ဓလေ့ထုံးတမ်းနဲ့ ပတ်သက်တဲ့ အသုံးအနှုန်းတွေ ဘာတွေရှိလဲဆိုတာ လေ့လာကြည့်ရအောင်။



결혼식
မင်္ဂလာဆောင်




청첩장
မင်္ဂလာဆောင် ဖိတ်စာ



축의금
မင်္ဂလာ လက်ဖွဲ့ငွေ



신랑
သတို့သား



신부
သတို့သမီး



주례
ဘိသိက်သွန်းခြင်း



하객
မင်္ဂလာပွဲလာ ဧည့်သည်များ



사진 촬영을 하다
ဓာတ်ပုံရိုက်သည်



피로연을 하다
ဧည့်ခံပွဲ ကျင်းပသည်



폐백을 드리다
ဂါရဝပြုသည်





အပေါ်မှာ လေ့လာခဲ့တဲ့ ဝေါဟာရတွေကို ပြန်စဉ်းစားရင်း မေးခွန်းတွေ ဖြေကြည့်ကြရအောင်။

1. 그림에 맞는 표현을 〈보기〉에서 골라 문장을 완성하세요.
ပုံနဲ့ လိုက်ဖက်တဲ့ အသုံးအနှုန်းကို ဥပမာထဲကနေ ရွေးပြီး ဝါကျကို အဆုံးသတ်ပါ။

1) 제 한국 친구한테서 ___________을 받았어요.

2) 그래서 저는 지난주 토요일에 친구의 ___________에 갔어요.

3)  선물 대신 ___________을 준비했어요.

4) 결혼식이 시작되고 먼저 ___________이 입장했어요.

5) 그리고 ___________가 입장했는데 정말 아름다웠어요.

보기
결혼식
청첩장
신부
축의금
신랑

정답 1) 청첩장 2) 결혼식 3) 축의금 4) 신랑 5) 신부

## 문법 2 သဒ္ဒါ ၂ -고 나서




ကြိယာနဲ့ တွဲဖက်ပြီး အပြုအမူ တစ်ခု ပြီးတဲ့ အချိန်မှာ နောက်တစ်ခုကို ဆက်လုပ်တာပဲ ဖြစ်ဖြစ် အခြား အခြေအနေတစ်ခု ဖြစ်ပေါ်လာတာကို ဖော်ညွှန်းပါတယ်။

· 가: 미영 씨, 언제 밥 먹을 거예요? မိယောင်းရေ၊ ထမင်း ဘယ်တော့ စားမှာလဲ။
  나: 이 일을 **끝내고 나서** 먹으러 갈 거예요. ဒီ အလုပ် ပြီးရင် စားဖို့ သွားမှာပါ။
· 가: 모니카 씨, 당근하고 양파는 어떻게 할까요? မိုနီခါရေ၊ မုန်လာဥနီနဲ့ ကြက်သွန်နီကို ဘယ်လို လုပ်ရမလဲ။
  나: 고기를 **삶고 나서** 볶으세요. အသားကို ပြုတ်ပြီးမှ ကြော်ပါ။



'-고 나서' ရဲ့ အသုံးကို နားလည်ပြီလား။ ဒါဆိုရင် ဒီ အသုံးအနှုန်းကို အသုံးပြုပြီး စကားပြောကို အဆုံးသတ်ကြည့်ပါ။

2. 그림을 보고 '-고 나서'를 사용해서 대화를 완성하세요.
ပုံကို ကြည့်ပြီး ဥပမာထဲက အတိုင်း '-고 나서' ကို သုံးပြီး ဝါကျကို အဆုံးသတ်ပါ။

1) 

가: 언제 폐백을 드려요? ဘယ်အချိန်မှာ ဖဲဘက်ကို လုပ်တတ်ပါသလဲ။
나: ________________ 폐백을 드려요.

2) 

가: 언제 밥 먹으러 갈까요? ဘယ်တော့ ထမင်းစားဖို့ သွားကြမလဲ။
나: ________________ 갑시다.

정답 1) 결혼식을 하고 나서 2) 사진을 찍고 나서



ထပ်ပြီး လေ့လာရအောင်။ '-고 나서' ကို သုံးပြီး ဝါကျကို အဆုံးသတ်ကြည့်ပါ။

1. 아침을 ________________________________.
2. 장을 ________________________________.

정답 1. 먹고 나서 회사에 가요 2. 보고 나서 요리해요



## 활동 အသုံးချသင်ခန်းစာများ

〈보기〉처럼 이야기해 보세요. ဥပမာမှာ ပြထားသလို စကားပြောကြည့်ပါ။

보기

다음 주 토요일 နောက်အပတ် စနေနေ့

수진 씨 아기 돌
ဆုဂျင်း သားလေး တစ်နှစ်ပြည့်မွေးနေ့

가: 다음 주 토요일이 수진 씨 아기 돌인데 무슨 선물을 하면 좋을까요?
နောက်အပတ် စနေနေ့မှာ ဆုဂျင်းရဲ့ ကလေး တစ်နှစ်ပြည့်ကို ဘယ်လို လက်ဆောင်မျိုး ပေးရင် ကောင်းမလဲ။

나: 아기 옷을 선물하는 게 어때요?
ကလေးဝတ်အင်္ကျီ လက်ဆောင်ပေးရင် ဘယ်လိုနေမလဲ။

1) 5월 15일

스승의 날

2) 내일

친구 생일

3) 다음 주 일요일

친구 결혼식

4) 이번 주 토요일

반장님 집들이

### 유용한 표현 အသုံးဝင်သော အသုံးအနှုန်းများ

일할 맛이 나요. အလုပ် လုပ်ရတာ လုပ်ပျော်တယ်။

가: 상여금을 받아서 기분이 좋네요. ဆုကြေးငွေရလို့ စိတ်ထဲ အရမ်း ပျော်မိပါတယ်။
나: 맞아요, **일할 맛이 나요**. ဟုတ်တယ်။ **အလုပ် လုပ်ရတာ လုပ်ပျော်တယ်လေ။**

# 한국인의 경조사
## ကိုရီးယား နိုင်ငံရဲ့ ရိုးရာပွဲများနှင့် ဓလေ့များ

**돌** တစ်နှစ်ပြည့် မွေးနေ့

아기가 태어난 후 1년이 되면 돌잔치를 합니다. 아기의 부모는 친척과 친구들을 초대해서 같이 밥을 먹는데 이때 '돌잡이'를 합니다. '돌잡이'는 아기의 미래를 알아보기 위해 여러 가지 물건을 놓고 아기가 잡게 하는 것입니다.

ကလေး မွေးပြီး တစ်နှစ်ပြည့်တဲ့ အချိန်မှာ တစ်နှစ်ပြည့်မွေးနေ့ပွဲကို ကျင်းပပါတယ်။ ကလေးရဲ့ မိဘတွေက ဆွေမျိုးတွေနဲ့ သူငယ်ချင်းတွေကို ဖိတ်ကြားပြီး အတူတူ ထမင်းစားကြပြီး 'ဒိုးလ်ဂျာဘီ'ကို လုပ်ပါတယ်။ ဒိုးလ်ဂျာဘီဆိုတာက ကလေးရဲ့ အနာဂတ်ကို ခန့်မှန်းဖို့ အတွက် ပစ္စည်း မျိုးစုံကို ချထားပြီးတော့ ကလေးကို ရွေးပြီး ကိုင်ခိုင်းတဲ့ အလေ့အထပါ။




**결혼** လက်ထပ်ပွဲ

한국인의 결혼식에는 전통 혼례와 현대적인 결혼식이 있는데 요즘은 결혼식장이나 호텔에서 현대적인 결혼식을 많이 합니다. 그렇지만 전통적인 모습도 많이 남아 있는데, 결혼식이 끝나고 나서 신랑 부모님과 친척들께 드리는 인사인 폐백이 대표적입니다.

ကိုရီးယားရဲ့ လက်ထပ်ပွဲမှာ ရိုးရာ လက်ထပ်ပွဲနဲ့ အနောက်တိုင်း လက်ထပ်ပွဲ ဆိုပြီး ရှိပြီးတော့ အခုတစ်လောမှာတော့ ခန်းမတို့ ဟိုတယ်တို့မှာ အနောက်တိုင်း မင်္ဂလာပွဲတွေကို ပိုပြီး ကျင်းပလာပါတယ်။ ဒါပေမဲ့ ရိုးရာ မင်္ဂလာပွဲ အလေ့အထတွေလည်း အများကြီး ကျန်ရှိနေပါသေးတယ်။ မင်္ဂလာပွဲပြီးချိန်မှာ သတို့သားရဲ့ မိဘတွေနဲ့ ဆွေမျိုးတွေကို ဂါရဝပြုတဲ့ ဖဲဘက်ပွဲက အထင်ရှားဆုံးပါ။



**제사** ကွယ်လွန်သူ ဘိုးဘေးဘီဘင်များကို ကန်တော့ပွဲပေးခြင်း

어른이 돌아가시면 매년 돌아가신 날에 가족들이 모여 제사를 지냅니다. 요즘은 많이 간소화 되었으나 제사상에는 전, 나물, 과일, 고기 등 정성스럽게 만든 음식들을 올립니다. 명절 아침에 드리는 제사는 차례라고 합니다.

လူကြီးတွေ ကွယ်လွန်သွားတဲ့ အခါမှာ နှစ်တိုင်း ကွယ်လွန်တဲ့ နေ့မှာ မိသားစုတွေ စုဝေးပြီး ကန်တော့ပွဲ ပေးကြပါတယ်။ အခုတစ်လောတော့ တဖြည်းဖြည်း ရိုးရိုးရှင်းရှင်း ပိုလုပ်လာကြပေမဲ့ ကန်တော့ပွဲမှာ အကြော်၊ အသီးအရွက်၊ သစ်သီး၊ အသား စတဲ့ သေချာ ချက်ပြုတ်ထားတဲ့ အစားအစာများကို ပြင်ဆင်ရပါတယ်။ နေ့ထူးရက်မြတ်တွေမှာ ကန်တော့ပွဲ ပေးတာကိုတော့ 'ချာရယ်'လို့ ခေါ်ပါတယ်။



**장례** ဈာပန

장례식장에 갈 때에는 검은색 옷을 입고 갑니다. 장례식장에서는 돌아가신 분에 대한 묵념을 하거나 절을 하고 돌아가신 분의 가족들에게 인사를 합니다. 보통 한국에서는 돌아가신 날로부터 3일이나 5일 동안 장을 치릅니다.

ဈာပန အခမ်းအနားကို သွားတဲ့ အခါမှာ အနက်ရောင် အင်္ကျီကို ဝတ်ပြီး သွားရပါတယ်။ အသုဘမှာ ဆုံးသွားတဲ့ သူကို အလေးပြုတာတို့ ဂါရဝပြုတာတို့ လုပ်ရပြီး ကျန်ရစ်သူ မိသားစုတွေကို နှုတ်ဆက် ဂါရဝပြုရပါတယ်။ များသောအားဖြင့် ကိုရီးယားမှာ ကွယ်လွန်တဲ့ နေ့ကနေ ၃ရက် ဒါမှမဟုတ် ၅ရက် အတွင်း ဈာပနကို ပြုလုပ်ပါတယ်။





မေးခွန်း နံပါတ် ၁ကနေ ၃အထိကို နားထောင်ပြီး သင့်တော်တဲ့ အဖြေကို ရွေးပေးရမှာပါ။
သေချာ နားထောင်ပြီး မှန်ရာကို ရွေးပါ။

[1~3] 질문을 듣고 알맞은 대답을 고르십시오.
မေးခွန်းကို နားထောင်ပြီး သင့်တော်ရာ အဖြေကို ရွေးပါ။

Track 108

1. ① 감사합니다. ② 미안합니다.
③ 괜찮습니다. ④ 축하합니다.

2. ① 지난주에 결혼을 했지요?
② 옷을 선물하는 게 어때요?
③ 이런 선물을 줘서 고마워요.
④ 제 생일은 다음 주 토요일이에요.

3. ① 아기가 참 예쁘네요.
② 돌잔치가 참 재미있어요.
③ 금반지를 선물하는 게 좋아요.
④ 아기 생일을 축하하고 같이 밥을 먹어요.



အောက်က ပုစ္ဆာတွေအတွက် မေးခွန်းကို နားထောင်ပြီး အဖြေမှန်ကို ရွေးပေးရမှာပါ။ စကား
ပြောကို နားမထောင်ခင် ရွေးဖို့ ပေးထားတာတွေကို အရင် ဖတ်ကြည့်ပါ။

[4~5] 하나의 이야기를 듣고 두 개의 질문에 대답하십시오.
စကားပြော တစ်ခုကို နားထောင်ပြီး မေးခွန်း နှစ်ခုကို ဖြေဆိုပါ။

4. 두 사람은 어디에 가려고 합니까? သူတို့ နှစ်ယောက် ဘယ်ကို သွားကြမှာလဲ။
① 집들이 ② 돌잔치
③ 장례식 ④ 결혼식

5. 남자는 무슨 색 옷을 입을 것입니까? ယောကျ်ားလေးက ဘာအရောင် အင်္ကျီကို ဝတ်မှာပါလဲ။
① 빨간색 ② 까만색
③ 하얀색 ④ 파란색

## 듣기 대본 စာသား

1. 여: 지훈 씨, 정말 멋있네요. 결혼 축하해요.
   ဂျိဟွန်းရေ၊ အရမ်း ကြည့်ကောင်းတယ်။ မင်္ဂလာပွဲ ဂုဏ်ယူပါတယ်နော်။
2. 남: 다음 주 토요일이 친구 생일인데 무슨 선물을 하면 좋을까요?
   နောက်အပတ် စနေနေ့က သူငယ်ချင်း မွေးနေ့ဆိုတော့ ဘယ်လို လက်ဆောင်မျိုး ပေးရင် ကောင်းမလဲ။
3. 여: 건우 씨, 한국에서는 돌잔치 때 뭐 해요?
   ဂေါ်နူရေ၊ ကိုရီးယားမှာ တစ်နှစ်ပြည့်မွေးနေ့ကို ဘာလုပ်တတ်လဲ။

4-5.

여: 소식 들었어요? 현석 씨 아버지가 돌아가셨어요.
သတင်း ကြားပြီးပြီလား။ ဟယောန်ဆော့တို့ အဖေ ဆုံးသွားတယ်တဲ့။

남: 정말이요? 현석 씨가 많이 힘들겠네요.
တစ်ကယ်လား။ ဟယောန်ဆော့တော့ တော်တော် စိတ်သောကရောက်နေတော့မှာပဲ။

여: 오늘 저녁에 리한 씨하고 가 보려고 하는데 같이 갈래요?
ဒီနေ့ ညနေ ရီဟန်နဲ့ သွားမလားလို့ အတူတူ လိုက်ဦးမလား။

남: 네, 오늘 저녁에 같이 가요. ဟုတ်ကဲ့။ ဒီနေ့ ညနေ အတူတူ သွားရအောင်။

여: 그런데 장례식장에 갈 때는 까만색 옷을 입고 가야 돼요.
ဒါနဲ့ ဈာပနကို သွားတဲ့အခါ အနက်ရောင် အင်္ကျီ ဝတ်သွားရမယ်နော်။

남: 그럼 집에 가서 까만색 옷을 입고 올게요. ဒါဆို အိမ်ကို သွားပြီး အနက်ရောင် အင်္ကျီ ဝတ်ပြီး လာခဲ့ပါ့မယ်။

정답 1. ① 2. ② 3. ④ 4. ③ 5. ②



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန် 

1. 대화를 듣고 질문에 알맞은 것을 고르십시오.
   စကားပြောကို နားထောင်ပြီး မေးခွန်းနဲ့ သင့်လျော်မယ့် အဖြေကို ရွေးပါ။

   남자는 왜 전화를 했습니까?
   ယောက်ျားလေးက ဘာကြောင့် ဖုန်းဆက်ခဲ့တာလဲ။

   ① 한국어를 공부하고 싶어서
   ② 주말에 한국어시험을 보려고
   ③ 한국어 수업에 늦을 것 같아서
   ④ 한국어능력시험을 신청하려고

## 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

여: 여보세요? 근로자복지센터입니다.
ဟယ်လို။လုပ်သားပံ့ပိုးကူညီရေးစင်တာကပါရှင်။

남: 한국어능력시험 중급 준비 과정을 들으려고 하는데 수업이 언제 있어요?
ကိုရီးယားအရည်အချင်းစစ်စာမေးပွဲ ကြားအဆင့် ပြင်ဆင်တဲ့ သင်တန်းတက်မလားလို့ပါ… အတန်း ဘယ်အချိန်တွေမှာ ရှိပါသလဲခင်ဗျာ။

여: 네, 토요일 오후 2시부터 5시까지 수업이 있습니다.
ဟုတ်ကဲ့။ စနေနေ့ နေ့လယ် ၂နာရီကနေ ၅နာရီအထိ အတန်းရှိပါတယ်ရှင်။

정답 1. ①



# EPS-TOPIK 읽기 EPS-TOPIK အဖတ် စာမေးပွဲ



မေးခွန်းနံပါတ် ၁ကနေ ၃အထိကတော့ ကွက်လပ်ဖြည့်ဖို့ သင့်တော်မယ့် အရာကို ရွေးပေးရမှာပါ။ အကြောင်းအရာနဲ့ ဆီလျော်ရာကို ရွေးပါ။

[1~3] 빈칸에 들어갈 가장 알맞은 것을 고르십시오. ကွက်လပ်ဖြည့်ဖို့ အသင့်တော်ဆုံး အရာကို ရွေးပါ။

1.

한국에서는 아기의 첫 번째 생일을 ______________(이)라고 합니다. 이를 기념하기 위해 가족과 친척들이 모여 같이 밥을 먹고 축하를 해 줍니다.

ကိုရီးယားမှာက ကလေးရဲ့ ပထမဆုံး မွေးနေ့ကို ဒိုးလ်(တစ်နှစ်ပြည့်မွေးနေ့)လို့ ခေါ်ပါတယ်။ ဒါကို အထိမ်းအမှတ်အဖြစ် မိသားစုနဲ့ ဆွေမျိုးတွေ စုဝေး အတူ ထမင်းစားပြီး ဂုဏ်ပြုပေးကြပါတယ်။

① 돌 ② 백일 ③ 집들이 ④ 결혼기념일

2.

가: 진영 씨 소식 들었어요? 진영 씨가 다음 달에 결혼해요.

ဂျင်ယောင်း သတင်း ကြားပြီးပြီလား။ ဂျင်ယောင်း နောက်လဆို လက်ထပ်တော့မှာတဲ့။

나: 네, 저도 어제 ____________을 받았어요. 남자 친구를 사귄 지 얼마 안 됐는데 벌써 결혼을 한다니 깜짝 놀랐어요.

ဟုတ်ကဲ့။ ကျွန်တော်လည်း မနေ့က ဖိတ်စာ ရပြီးပါပြီ။ ကောင်လေးနဲ့ တွဲတာ သိပ်တောင် မကြာသေးဘူး လက်ထပ်တော့မယ်ဆိုတော့ အရမ်း လန့်သွားတာ။

① 선물 ② 피로연 ③ 청첩장 ④ 축의금

3.

한국의 결혼은 전통 혼례와 서양식 결혼식이 있습니다. 요즘에는 보통 웨딩드레스를 입고 서양식 결혼식을 많이 하지만 전통 혼례의 풍습도 아직 남아 있습니다. 결혼식이 끝난 후에 신랑 부모님과 친척들에게 인사를 드리는데 이것을 ____________(이)라고 합니다.

ကိုရီးယားရဲ့ မင်္ဂလာပွဲမှာ ရိုးရာအရ လက်ထပ်တာနဲ့ အနောက်တိုင်းလို လက်ထပ်တာဆိုပြီး ရှိပါတယ်။ အခုတစ်လောမှာတော့ များသောအားဖြင့် မင်္ဂလာဆောင်ဂါဝန် ဝတ်ပြီး အနောက်တိုင်းလို မင်္ဂလာဆောင်ကြပေမဲ့ ရိုးရာအလေ့အထတွေလည်း အခုထိ ကျန်နေပါသေးတယ်။ မင်္ဂလာပွဲ အပြီးမှာ သတို့သား မိဘတွေကို ဂါရဝပြုနှုတ်ဆက်တာ ရှိပြီးတော့ ဒါကို ဖဲဘက်လို့ ခေါ်ပါတယ်။

① 함 ② 맞선 ③ 폐백 ④ 상견례



အောက်ပါ ပုစ္ဆာက စာပိုဒ်တစ်ခုကို ဖတ်ပြီး မေးခွန်းနှစ်ခုကို ဖြေဆိုရမှာပါ။ အပေါ်မှာ လေ့လာခဲ့တာတွေကို ပြန်စဉ်းစားပြီး မေးခွန်းတွေကို ဖြေကြည့်ရအောင်။

[4~5] 다음 글을 읽고 물음에 답하십시오. အောက်ပါ စာပိုဒ်ကို ဖတ်ပြီး မေးခွန်းကို ဖြေဆိုပါ။

새로운 집에 이사를 가면 가족이나 친구를 초대해서 ______________을/를 합니다. 초대를 받아서 갈 때에는 선물을 사 가는데 보통 휴지나 세제를 많이 선물합니다. 휴지는 일이 잘 되라는 의미가 있고 세제는 빨리 부자가 되라는 의미가 있습니다. 요즘은 부부가 함께 쓸 수 있는 커피 잔이나 화분같은 것을 선물하기도 합니다.

အိမ်သစ်ကို အိမ်ပြောင်းပြီးတဲ့အခါ မိသားစုတွေ သူငယ်ချင်းတွေကို ဖိတ်ပြီး အိမ်တက်လုပ်ပါတယ်။ အဖိတ်ခံရတဲ့အခါမှာတော့ လက်ဆောင် ဝယ်သွားရလေ့ ရှိပြီး များသောအားဖြင့်တော့ တစ်ရှူးလိပ်တို့၊ ဆပ်ပြာမှုန့်တို့ လက်ဆောင်ပေးလေ့ရှိပါတယ်။ တစ်ရှူးလိပ်ကတော့ အလုပ်မှန်သမျှ အဆင်ပြေချောမွေ့ပါစေဆိုတဲ့ အဓိပ္ပာယ် ရပြီး ဆပ်ပြာမှုန့်ကတော့ မြန်မြန်သူ ဌေးဖြစ်ပါစေလို့ အဓိပ္ပာယ်ဆောင်ပါတယ်။ အခုတစ်လောတော့ လင်မယား အတူတူ သုံးလို့ ရတဲ့ ကော်ဖီခွက်တို့ ပန်းအိုး တို့လိုမျိုး လက်ဆောင်ပေးတဲ့ အခါလည်း ရှိပါတယ်။

4. 빈칸에 들어갈 말로 알맞은 것을 고르십시오.
ကွက်လပ်ဖြည့်ဖို့ သင့်တော်ရာ စကားလုံးကို ရွေးပါ။

① 돌잔치　② 집들이　③ 결혼식　④ 생일 파티

5. 세제를 선물하는 것은 어떤 의미입니까? ဆပ်ပြာမှုန့်ကို လက်ဆောင်ပေးတာဟာ ဘယ်လို အဓိပ္ပာယ်ရပါသလဲ။

① 일이 잘 되기를 바랍니다.　② 건강하게 살기를 바랍니다.
③ 빨리 부자가 되기를 바랍니다.　④ 새 집에서 오래 살기를 바랍니다.

정답 1. ① 2. ③ 3. ③ 4. ② 5. ③

## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~3] 빈칸에 들어갈 가장 알맞은 것을 고르십시오. ကွက်လပ်ဖြည့်ဖို့ အသင့်တော်ဆုံး အရာကို ရွေးပါ။

1. 저는 ＿＿＿＿＿에 운동을 합니다. 토요일에는 친구들과 축구를 하고 일요일 아침에는 수영을 합니다.
ကျွန်တော်ကတော့ နားရက်မှာ အားကစားလုပ်ပါတယ်။ စနေနေ့မှာတော့ သူငယ်ချင်းတွေနဲ့ ဘောလုံးကန်ပြီး တနင်္ဂနွေနေ့ မနက်မှာတော့ ရေကူးပါတယ်။

① 연휴　② 휴가
③ 오후　④ 주말

2. 8월 15일에 한국어능력시험(EPS-TOPIK)이 있습니다. 시험을 신청하실 분들은 6월 30일까지 사무실에 직접 오셔서 응시 원서를 ＿＿＿＿＿＿ 합니다.
ဂလပိုင်း ၁၅ရက်နေ့မှာ ကိုရီးယားအရည်အချင်းစစ်စာမေးပွဲ ရှိပါတယ်။ စာမေးပွဲ လျှောက်လွှာတင်မယ့် သူတွေကတော့ ၆လပိုင်း ၃၀ရက်နေ့အထိ ရုံးခန်းကို ကိုယ်တိုင် လာပြီး လျှောက်လွှာတင်ရပါမယ်။

① 보관해야　② 보관할까
③ 접수해야　④ 접수할까

3. 이번 주부터 회사에 다니기 시작했습니다. 동료들이 모두 친절하고 일도 많이 ＿＿＿＿＿＿ 회사 생활이 힘들지 않을 것 같습니다.
ဒီအပတ်ကနေစပြီး ရုံးစတက်ခဲ့ပါတယ်။ လုပ်ဖော်ကိုင်ဖက်တွေ အကုန် ဖော်ရွေကြပြီး အလုပ်တွေလည်း တော်တော် ကူညီပေးကြလို့ ရုံးတက်ရတာ သိပ်ပင်ပန်းလောက်မယ် မထင်ပါဘူး။

① 도와줘도　② 도와줘서
③ 물어줘도　④ 물어줘서

정답 1. ④ 2. ③ 3. ②




# 한국 드라마가 재미있잖아요

ကိုရီးယားကားတွေက စိတ်ဝင်စားစရာကောင်းတယ် မဟုတ်လား။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** အကြောင်းရင်းကို ရှင်းပြတတ်စေရန်၊ ခန့်မှန်းတတ်စေရန်
- □ **သဒ္ဒါ** -잖아요, -는/(으)ㄴ 것 같다
- □ **ဝေါဟာရ** ကိုရီးယားယဉ်ကျေးမှု ဂယက်၊ စီးပွားရေးနှင့် စက်မှုလုပ်ငန်း
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** ကိုရီးယားယဉ်ကျေးမှု ဂယက် ခရီး



## 대화 1 စကားပြော ၁






အောက်မှာ ဆူဖီခါနဲ့ ဟူအောင်းတို့ စကားပြောနေတာလေးကို ဖော်ပြထားပါတယ်။ အရင်ဆုံး သူတို့ ပြောတာကို နှစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

수피카 지금 드라마가 시작돼요. 흐엉 씨, 빨리 오세요.
အခု ဇာတ်လမ်းတွဲ စလာနေပြီ။ ဟူအောင်းရေ၊ မြန်မြန်လာ။

흐 엉 오, 김수현 씨 정말 멋있지 않아요? 우리 고향 친구들도 아주 좋아해요.
အိုး… ဂင်ဆူးဟယောန် တစ်ကယ် မချောလွန်းဘူးလား။ ကျွန်တော်တို့ ဇာတိက သူငယ်ချင်းတွေလည်း အရမ်း သဘောကျကြတယ်။

수피카 흐엉 씨 고향에서도 한국 드라마가 인기가 있어요?
ဟူအောင်းတို့ဆီမှာလည်း ကိုရီးယားကားတွေ နာမည်ကြီးလား။

흐 엉 그럼요. 한국 드라마가 재미있잖아요. 수피카 씨는 한국 연예인 중에 누구를 제일 좋아해요?
ဒါပေါ့။ ကိုရီးယားကားတွေက စိတ်ဝင်စားစရာကောင်းတယ်လေ။

수피카 저는 빅뱅을 제일 좋아해요. 멋있잖아요.
ကျွန်မကတော့ ဘစ်ဘမ်းကို အကြိုက်ဆုံးပဲ။ အရမ်း ချောတယ် မဟုတ်လား။

> **-지 않아요?**
> မိမိထင်တာ အမှန်ဖြစ်ကြောင်း တစ်ဖက်သားနှင့် အဖော်ညီသည့်အခါ သုံးသည်။
> - 가: 이 드라마 참 재미있지 않아요?
>   ဒီ ဇာတ်လမ်းတွဲ အရမ်း စိတ်ဝင်စားစရာ ကောင်းတယ်မဟုတ်လား။
>   나: 네, 재미있어요.
>   ဟုတ်ကဲ့၊ စိတ်ဝင်စားစရာ ကောင်းပါတယ်။
> - 가: 김치찌개가 맵지 않아요?
>   ဂင်ချီဟင်းရည်က စပ်တယ်မဟုတ်လား။
>   나: 아니요, 안 매워요.
>   ဟင့်အင်း၊ မစပ်ပါဘူး။

> **인기 နာမည်ကြီးမှု၊ ရေပန်းစားမှု**
> - 민수 씨는 여자들에게 인기가 많아요.
>   မင်ဆူက မိန်းကလေးတွေကြား သိပ် ရေပန်းစားတယ်။
> - 이 영화는 남자보다 여자에게 더 인기가 있어요.
>   ဒီရုပ်ရှင်က ယောကျ်ားလေးတွေထက် မိန်းကလေးတွေကြားမှာ ပိုနာမည်ကြီးတယ်။



သချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 두 사람은 무엇을 보고 있어요? သူတို့နှစ်ယောက် ဘာတွေ ကြည့်နေကြတာလဲ။
2. 수피카 씨는 한국 연예인 중에 누구를 제일 좋아해요?
   ဆူဖီခါက ကိုရီးယား အနုပညာသည်တွေထဲက ဘယ်သူ့ကို အကြိုက်ဆုံးလဲ။

정답 1. 드라마 2. 빅뱅





## 어휘 1 ဝေါဟာရ ၁ 한류 ကိုရီးယား ရေစီးကြောင်း(ဂယက်)

ဒါကတော့ ကိုရီးယား ယဉ်ကျေးမှုနဲ့ ပတ်သက်တဲ့ စကားလုံးတွေပါ။ ဘာတွေရှိလဲဆိုတာ လေ့လာကြည့်ရအောင်။

**한류** ကိုရီးယား ရေစီးကြောင်း (ဂယက်)

- 케이팝(K-pop) ကေပေ့ါပ်
- 드라마 တီဗီဇာတ်လမ်းတွဲ
- 예능프로그램 ဖျော်ဖြေရေး အစီအစဉ်များ
- 영화 ရုပ်ရှင်
- 음악프로그램 ဂီတအစီအစဉ်

**연예인** အနုပညာသည်များ

- 가수 အဆိုတော်
- 영화배우 ရုပ်ရှင် သရုပ်ဆောင်
- 아이돌 ကေပေ့ါပ် အဆိုတော် အဖွဲ့



အပေါ်က ဝေါဟာရတွေကို မကြည့်ဘဲ မေးခွန်းလေးတွေ ဖြေကြည့်ရအောင်။

1. 그림을 보고 알맞은 말을 연결하세요. ပုံကို ကြည့်ပြီး သင့်တော်ရာ စကားလုံးနဲ့ မျဉ်းကြောင်းဆွဲ ဆက်သွယ်ပါ။




정답 ①㉠ ②㉢ ③㉡ ④㉣

## 문법 1 သဒ္ဒါ ၁ –잖아요




ကြိယာနဲ့ တွဲဖက်ပြီး ပြောသူရော နားထောင်သူပါ သိပြီးသား အကြောင်းတစ်ခုကို ပြောတဲ့ အခါမှာ သုံးပါတယ်။
နာမ်နဲ့ တွဲသုံးတဲ့ အခါမှာတော့ 'နာမ် + (이)잖아요' ကို သုံးပါတယ်။

· 가: 수피카 씨의 친구들도 한국 가수를 좋아해요?
  ဆူဖီခါရဲ့ သူငယ်ချင်းတွေလည်း ကိုရီးယား အဆိုတော်တွေ ကြိုက်လား။
  나: 그럼요. 노래도 잘하고 **멋있잖아요**. ဒါပေါ့။ သီချင်းလည်း အဆိုကောင်းပြီး အရမ်း ချောတယ် မဟုတ်လား။
· 가: 주말에 쇼핑하러 백화점에 갈까요? နားရက်မှာ ရှော့ပင်ထွက်ဖို့ ကုန်တိုက်ကို သွားကြမလား။
  나: 다음 주말에 가는 게 어때요? 다음 주말부터 세일 **기간이잖아요.**
  နောက်အပတ်မှ သွားတာ ဘယ်လိုနေမလဲ။ နောက် အပတ်က စပြီး စျေးချမှာ မဟုတ်လား။



'–잖아요' ရဲ့ အသုံးကို နားလည်ပြီးလား။ ဒါဆိုရင် စကားပြောကို ဖတ်ပြီး သင့်တော်ရာ စကားလုံးကို ရွေးပါ။

2. 대화를 읽고 맞는 대답을 고르세요. စကားပြောကို ဖတ်ပြီး အဖြေမှန်ကို ရွေးပါ။

1)
가: 모니카 씨, 이 사과 어디에서 샀어요? မိုနီခါရေ ဒီ ပန်းသီး ဘယ်ကနေ ဝယ်လာတာလဲ။
나: 시장에서 샀어요. ______________________.
ဈေးထဲက ဝယ်ခဲ့တာလေ၊ ဈေးထဲမှာ ဈေးတော်တယ် မဟုတ်လား။

① 시장이 싸잖아요 ② 시장이 비싸잖아요

2)
가: 투안 씨, 왜 우산을 가지고 왔어요? ထူအန်းရေ ဘာလို့ ထီးယူလာခဲ့တာလဲ။
나: 밖을 보세요. ______________________. အပြင်ကို ကြည့်ပါဦး။ မိုးရွာနေတယ်လေ။

① 비가 오잖아요 ② 날씨가 좋잖아요

정답 1) ① 2) ①



ထပ်ပြီး လေ့လာရအောင်။ '–잖아요' ကို သုံးပြီး ဝါကျကို အဆုံးသတ်ကြည့်ပါ။

1. 가: 이 식당에 자주 오네요.
   나: 음식이 ______________________.
2. 가: 투안 씨는 한국어를 참 잘하지요?
   나: 네, 열심히 ______________________.
3. 가: 왜 채소만 먹어요?
   나: 건강에 ______________________.
4. 가: 상우 씨가 인기가 많네요.
   나: 친절하고 ______________________.

정답 1. 맛있잖아요 2. 공부하잖아요 3. 좋잖아요 4. 멋있잖아요




**입에 잘 맞아요.** အစော် ခံတွင်းတွေ့ပါတယ်။

가: 한국 음식이 매워서 먹기 힘들지요? ကိုရီးယား အစားအစာတွေက စပ်လို့ စားရ ခက်တယ် မဟုတ်လား။
나: 아뇨, **입에 잘 맞아요**. မဟုတ်တာဗျာ။ **အစော် ခံတွင်းတွေ့ပါတယ်။**



## 대화 2 စကားပြော ၂

Track 110



ရီဟာန်နဲ့ ထူအန်းတို့ ကိုရီးယား ဖုန်းတွေ အကြောင်း ပြောနေကြပါတယ်။ သူတို့ ဘာတွေ ပြောနေကြပါသလဲ။ အရင်ဆုံး စကားပြောကို နှစ်ခေါက် နားထောင်ကြည့်ရအောင်။

리한 투안 씨, 스마트폰 새로 샀어요?
ထူအန်းရေ၊ ဖုန်း အသစ် ဝယ်လိုက်တာလား။

투안 네, 삼성전자에서 나온 신제품이에요.
ဟုတ်ကဲ့၊ ဆမ်ဆောင်းက ထွက်တဲ့ ပစ္စည်း အသစ်ပါ။

리한 저도 휴대폰을 바꿔야 되는데 그거 어때요?
ကျွန်တော်လည်း ဖုန်း လဲရမှာ အဲ့ဒါ ဘယ်လိုနေလဲဗျ။

투안 화면도 크고 편리한 기능도 많은 것 같아요.
စခရင်လည်း ကြီးပြီး အလွယ်တကူ သုံးလို့ရတဲ့ ဖန်ရှင်တွေလည်း များသလိုပဲ။

리한 한번 봐도 돼요?
ခဏလောက် ကြည့်လို့ ရမလား။

투안 네, 요즘 한국 휴대폰이 우리 나라에도 많이 수입되는 것 같아요. 제 친구들도 많이 써요.
ဟုတ်ကဲ့၊ အခုတစ်လော ကိုရီးယား ဖုန်းတွေ ကျွန်တော်တို့ နိုင်ငံကိုလည်း အများကြီး သွင်းလာကြသလိုပဲ။ ကျွန်တော့် သူငယ်ချင်းတွေလည်း အများကြီး သုံးကြတယ်။

리한 휴대폰이 한국의 대표적인 수출품이잖아요.
လက်ကိုင်ဖုန်းကတော့ ကိုရီးယားရဲ့ ကိုယ်စားပြု ပြည်ပ တင်ပို့ကုန် ပစ္စည်းပဲ မဟုတ်လား။

**새로 အသစ်**
① 지금까지와는 달리 새롭게 또는 새것으로
အခုထိ ရှိလာတဲ့ အရာတွေနဲ့ မတူပဲ အသစ်ဖြစ်သော
② 지금까지 없던 것이 처음으로
အခုအချိန်အထိ တစ်ခါမှ မရှိဘူးတဲ့အရာ ပထမဦးဆုံး
· 컴퓨터가 고장이 나서 새로 컴퓨터를 샀어요.
ကွန်ပျူတာ ပျက်သွားလို့ ကွန်ပျူတာ အသစ် ဝယ်လိုက်တယ်။
· 이 집은 새로 지어서 깨끗해요.
ဒီ အိမ်က အသစ် ဆောက်ထားတာမို့ သန့်တယ်။

**대표적인 ကိုယ်စားပြု**
နယ်ပယ်တစ်ခု သို့မဟုတ် အဖွဲ့အစည်း တစ်ခု၏ စရိုက်လက္ခဏာကို ကိုယ်စားပြု ဖော်ပြသော အရာ
· 한국의 대표적인 관광지는 제주도예요.
ကိုရီးယားရဲ့ ကိုယ်စားပြု လည်ပတ်စရာ နေရာကတော့ ဂျယ်ဂျူကျွန်းပါ။
· 비빔밥은 한국의 대표적인 음식이에요.
ထမင်းသုပ်ကတော့ ကိုရီးယားရဲ့ ကိုယ်စားပြု အစားအစာပါ။

ဒီ တစ်ခါတော့ ကိုယ့်ကိုယ်ကို ထူအန်းနဲ့ ရီဟာန်လို့ သဘောထားပြီး သူတို့ ပြောသလို လိုက်ပြောကြည့်ရအောင်။ သေချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 투안 씨가 새로 산 물건은 어때요? ထူအန်း အသစ် ဝယ်လိုက်တဲ့ ပစ္စည်းက ဘယ်လိုနေလဲ။
2. 한국의 대표적인 수출품은 뭐예요? ကိုရီးယားရဲ့ ကိုယ်စားပြု ပြည်ပတင်ပို့ကုန် ပစ္စည်းက ဘာလဲ။

정답 1. 화면도 크고 기능도 많아요. 2. 휴대폰

## 어휘 2 ဝေါဟာရ ၂ — 경제 및 산업 စီးပွားရေးနှင့် စက်မှုလုပ်ငန်း

စီးပွားရေး၊ စက်မှုလုပ်ငန်းနဲ့ ပတ်သက်တဲ့ အသုံးအနှုန်းတွေ ဘာတွေရှိလဲဆိုတာ လေ့လာကြည့်ရအောင်။

수출하다
ပြည်ပသို့ တင်ပို့သည်

수입하다
ပြည်ပမှ တင်သွင်းသည်

ပြည်ပပို့ကုန်ပစ္စည်း

수입품
ပြည်တွင်းသွင်းကုန်ပစ္စည်း

선진국
ဖွံ့ဖြိုးပြီး နိုင်ငံ

개발도상국
ဖွံ့ဖြိုးဆဲ နိုင်ငံ

무역
ကုန်သွယ်မှု

경제 발전
စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု



အပေါ်မှာ လေ့လာခဲ့တဲ့ ဝေါဟာရတွေကို ပြန်စဉ်းစားရင်း မေးခွန်းတွေ ဖြေကြည့်ကြရအောင်။




1. 그림에 맞는 표현을 <보기>에서 골라 넣으세요.
ပုံနဲ့ ကိုက်ညီမယ့် အသုံးအနှုန်းကို ဥပမာထဲကနေ ရွေးပြီး ထည့်ပါ။

1) ____ 2) ____ 3) ____

4) ____ 5) ____ 6) ____

보기: 수출하다 선진국 수입품 개발도상국 수출품 수입하다

정답 1) 수출하다 2) 수출품 3) 선진국 4) 수입하다 5) 수입품 6) 개발도상국

## 문법 2 သဒ္ဒါ ၂ -는/(으)ㄴ 것 같다




ကြိယာမျိုးစုံနဲ့ တွဲဖက်ပြီး အဖြစ်အပျက် တစ်ခုကို ခန့်မှန်းတဲ့ အခါမျိုး၊ ကိုယ့် အထင်အမြင်ကို ညင်သာစွာ ဖော်ပြချင်တဲ့ အခါမှာ သုံးပါတယ်။

| 동사 (ကြိယာ) | 형용사 (နာမဝိသေသန) | | 명사 (နာမ်) |
|---|---|---|---|
| -는 것 같다 | 자음 (ဗျည်း) → -은 것 같다 | 모음 (သရ) → -ㄴ 것 같다 | 인 것 같다 |
| 가다 → 가는 것 같다<br>먹다 → 먹는 것 같다<br>있다 → 있는 것 같다 | 크다 → 큰 것 같다<br>작다 → 작은 것 같다 | | 학생 → 학생인 것 같다<br>의사 → 의사인 것 같다 |

· 사람들이 우산을 쓰고 있어요. 밖에 비가 **오는 것 같아요**.
  လူတွေ ထီးဆောင်းနေကြတယ်။ အပြင်မှာ မိုးရွာနေတယ် ထင်တယ်။
· 가: 모니카 씨, 화장품을 사야 하는데 어떤 게 좋아요?
  မိုနီခါရေ၊ မိတ်ကပ် ဝယ်စရာရှိတာ ဘယ်လို ဟာ ကောင်းမလဲ။
  나: 이거 한번 써 보세요. **싸고 좋은 것 같아요**.
  ဒါလေး တစ်ခါလောက် သုံးကြည့်ပါလား။ ဈေးတော်ပြီး ကောင်းတယ် ထင်တယ်။



'-는/(으)ㄴ 것 같다' ရဲ့ အသုံးကို နားလည်ပြီးလား။ ဒါဆိုရင် စကားပြောကို ဖတ်ပြီး သင့်တော်ရာ စကားလုံးကို ရွေးပါ။

2. 대화를 읽고 맞는 대답을 고르세요. စကားပြောကို ဖတ်ပြီး မှန်ကန်တဲ့ အဖြေကို ရွေးပါ။

1) 가: 모니카 씨는 항상 주말에 친구들을 만나요. မိုနီခါက အမြဲ နားရက်မှာ သူငယ်ချင်းတွေနဲ့ တွေ့ပါတယ်။
나: ______________________________.

① 친구가 아주 많은 것 같아요
② 친구가 한 명도 없는 것 같아요

2) 가: 방가 씨가 한국어 실력이 많이 늘었어요. ဘန်ဂါက ကိုရီးယားစကားပြော အရမ်း တိုးတက်လာတယ်။
나: ______________________________.

① 요즘 한국어 공부를 안 하는 것 같아요
② 요즘 한국어를 열심히 공부하는 것 같아요

정답 1) ① 2) ②



### 유용한 표현 အသုံးဝင်သော အသုံးအနှုန်းများ

눈코 뜰 새 없이 바빠요. ယားလို့တောင် မကုတ်အားပါဘူး။ (အရမ်း အလုပ်များနေတယ်။)

가: 요즘도 일이 많아요? အခုတစ်လော အလုပ်တွေ များလား။
나: 네, **눈코 뜰 새 없이 바빠요**. ဟုတ်ကဲ့။ **ယားလို့ မကုတ်အားပါဘူး။**



## 활동 အသုံးချသင်ခန်းစာများ

한류 열풍과 수출의 관계에 대한 신문 기사입니다. 잘 읽고 질문에 답하세요.
ကိုရီးယား ရေစီးကြောင်းနဲ့ ထုတ်ကုန်တို့ ကြားက ဆက်စပ်မှု အကြောင်း သတင်းဆောင်းပါး ဖြစ်ပါတယ်။ သေချာ ဖတ်ပြီး မေးခွန်းများကို ဖြေပါ။

NEWS TIMES

# 화장품 수출과 한류 열풍

LG경제연구원이 발표한 보고서에 따르면 한국 문화에 관심이 높을수록 화장품, 의류, 음료, 전자제품, 자동차 등의 상품의 수출이 늘어나는 것으로 나타났다. 미국의 경우 한류에 대한 인터넷 검색이 많아질수록 화장품의 수출도 크게 증가한 것을 알 수 있다. 또한 드라마에 나온 한류 스타들이 화장품 모델을 하면서 수출도 크게 늘었다. 특히 중국과 아시아 지역에서는 최근 5년간 매년 30%씩 꾸준히 수출이 증가한 것으로 나타났다.



검색량은 K-pop과 드라마 검색량의 합(분기별 추이)

မိတ်ကပ် ပြည်ပတင်ပို့မှုနဲ့ ကိုရီးယား ရေစီးကြောင်း

LG စီးပွားရေး သုတေသန အဖွဲ့ကနေ ထုတ်ပြန်တဲ့ စာတမ်းအရဆိုရင် ကိုရီးယားယဉ်ကျေးမှုကို စိတ်ဝင်စားမှုနှုန်း မြင့်တက်လာတာနဲ့အမျှ မိတ်ကပ်၊ အဝတ်အထည်၊ အချိုရည်၊ လျှပ်စစ်ပစ္စည်း၊ ကား စတဲ့ ပစ္စည်းတွေရဲ့ ပြည်ပတင်ပို့မှုနှုန်းများလည်း တိုးတက်လာတာ တွေ့ရပါတယ်။ အမေရိကန်မှာဆိုရင် ကိုရီးယား ရေစီးကြောင်းနဲ့ ပတ်သက်တဲ့ အင်တာနက်မှာ ရှာဖွေလာမှုတွေ များလာတာနဲ့အမျှ မိတ်ကပ်ပစ္စည်းတွေရဲ့ ပြည်ပတင်ပို့မှုနှုန်းတွေ မြင့်မားလာတာကို သိနိုင်ပါတယ်။ ထို့အပြင် ရုပ်ရှင်မှာ ပါတဲ့ သရုပ်ဆောင်တွေ မိတ်ကပ် ကြော်ငြာရိုက်တာကြောင့်လည်း ပို့ကုန်နှုန်း မြင့်လာပါတယ်။ အထူးသဖြင့် တရုတ်နဲ့ အာရှဒေသများမှာ ၅နှစ်တာအတွင်း ၃၀ရာခိုင်နှုန်းစီ မှန်မှန် တိုးတက်လာတာကို တွေ့ရှိရပါတယ်။

1. 읽은 내용과 같으면 ○, 다르면 X에 표시하세요.
   ဖတ်ထားတဲ့ အကြောင်းအရာနဲ့ တူရင် O, မတူရင် X ကို ရွေးပါ။

   1) 중국과 아시아에서는 최근 화장품 수출이 줄어들고 있다. ○ X

   2) 한국 문화에 대한 관심 때문에 화장품을 사는 사람들이 늘었다. ○ X

   3) 수출이 늘어난 것은 한류 스타들이 화장품 모델을 하고 있기 때문이다. ○ X

정답 1) X 2) O 3) O



## 문화 ယဉ်ကျေးမှု

# 한류 여행

### ကိုရီးယား ရေစီးကြောင်း ခရီး



한류 열풍으로 인해 한국으로 여행을 오는 외국인 관광객의 수도 늘어났습니다. 2000년대 초반에 방영된 〈겨울연가〉가 큰 사랑을 받고 일본과 중국으로 수출되면서 〈겨울연가〉의 촬영지인 '남이섬'은 이제 아시아의 여행지가 되었고 최근에 방영된 〈별에서 온 그대〉가 중국에서 큰 인기를 끌면서 드라마 촬영지인 거제도, 인천, 가평 등의 여행지가 새로운 관광명소로 떠올랐습니다. 관광지 외에 주인공이 커피를 마시던 카페나 치킨과 맥주를 먹던 치킨 전문점 등을 여행 코스로 한 '별그대 테마 여행' 상품도 등장했습니다.



ကိုရီးယား ရေစီးကြောင်း ဂယက်ကြောင့် ကိုရီးယားကို အလည်လာတဲ့ နိုင်ငံခြားသား ခရီးသွားတွေ ပမာဏလည်း များလာပါတယ်။ ၂၀၀၀ခုနှစ် အစပိုင်းတွေမှာ ပြခဲ့တဲ့ 〈ဟေမာန်ဆောင်း၏ ချစ်သံစဉ်〉 ရုပ်ရှင် ပေါက်သွားပြီးတဲ့နောက် ဂျပန်နဲ့ တရုတ်ပြည်မှာအထိ ပြသခဲ့တာကြောင့် ဇာတ်ကား ရိုက်ကွင်း ဖြစ်တဲ့ နာမီကျွန်းက အခုဆို အာရှရဲ့ လည်ပတ်စရာ နေရာ တစ်ခု ဖြစ်လာပြီး မကြာသေးခင်က ပြသခဲ့တဲ့ 〈ကြယ်စင်ချစ်သူ〉 ကလည်း တရုတ်ပြည်မှာ အရမ်း ပေါက်ခဲ့တာကြောင့် ရိုက်ကွင်းဖြစ်တဲ့ ဂေါ်ဂျယ်ကျွန်း၊ အင်ချွန်နဲ့ ဂါဖြောင်းဟာလည်း လည်ပတ်စရာ နေရာ အသစ် တစ်ခု ဖြစ်လာပါတယ်။ ဒီ့အပြင် သရုပ်ဆောင်တွေ သောက်တဲ့ ကော်ဖီတို့၊ ကြက်ကြော်တို့၊ ဘီယာဆိုင်တွေကိုလည်း လည်ပတ်စရာ နေရာအဖြစ် ဖန်တီးထားတဲ့ <ကြယ်စင်ချစ်သူ ဇာတ်ဝင်ခန်းခရီး>အစီအစဉ်တွေလည်း ပေါ်ပေါက်လာခဲ့ပါတယ်။



해외 한류 팬들은 한류 스타들을 보면서 그들이 입고 나오는 옷이나 화장품, 가방, 휴대폰 등에 큰 관심을 보여 한국 백화점이나 동대문, 명동 등을 찾는 외국인 관광객도 많아졌습니다. 여행사들은 드라마나 영화 촬영지를 볼 수 있는 여행 상품을 선보이거나 K-pop 스타 공연을 볼 수 있는 여행 상품을 내 놓는 등 다양한 상품을 개발하고 있습니다.

ပြည်ပက ကိုရီးယားယဉ်ကျေးမှု ဖန်တွေက ကိုရီးယားစတားတွေ ဝတ်ထားတဲ့ အင်္ကျီတို့၊ မိတ်ကပ်တို့၊ အိတ်၊ ဖုန်း စတာတွေကို စိတ်ဝင်စားမှု များလာပြီး ကိုရီးယား ကုန်တိုက်တွေ၊ ဒုံဒယ်မွန်ဈေး၊ မြောင်းဒုံး စတဲ့ နေရာတွေကို သွားကြတဲ့ နိုင်ငံခြားခရီးသွားတွေလည်း များလာပါတယ်။ ခရီးသွားလုပ်ငန်းတွေကလည်း ရုပ်ရှင်ထဲမှာ ပါတဲ့ နေရာတွေကို သွားတာတို့၊ ကေပေ့ါ်စတားတွေရဲ့ စတိတ်ရှိုးတွေကို ကြည့်တာတို့ စတာတွေ ပါဝင်တဲ့ ခရီးသွား အစီအစဉ်တွေလည်း အများအပြား ပေါ်ပေါက်လာပါတယ်။



မေးခွန်းနံပါတ် ၁ကနေ ၃အထိကတော့ မေးခွန်းကို နားထောင်ပြီး သင့်တော်တဲ့ အဖြေကို ရွေးပေးရမှာပါ။ သေချာ နားထောင်ပြီး အဖြေမှန်ကို ရွေးပါ။

[1~3] 질문을 듣고 알맞은 대답을 고르십시오.
မေးခွန်းကို နားထောင်ပြီး အဖြေမှန်ကို ရွေးပါ။




1. ① 저는 드라마를 봐요.
   ② 음악을 자주 들었어요.
   ③ 저는 빅뱅을 좋아해요.
   ④ 영화에서 볼 수 있어요.

2. ① 석유를 많이 수입해요.
   ② 휴대폰하고 텔레비전이에요.
   ③ 저는 컴퓨터 게임을 많이 해요.
   ④ 요즘 경제가 안 좋아진 것 같아요.

3. ① 네, 재미있잖아요.
   ② 네, 콘서트를 많이 봤어요.
   ③ 아니요, 그래서 매일 봐요.
   ④ 아니요, 예능 프로그램을 좋아해요.



အောက်က ပုစ္ဆာတွေအတွက် မေးခွန်းကို နားထောင်ပြီး အဖြေမှန်ကို ရွေးပေးရမှာပါ။ စကားပြောကို နားမထောင်ခင် ရွေးဖို့ ပေးထားတာတွေကို အရင် ဖတ်ကြည့်ပါ။

[4~5] 하나의 이야기를 듣고 두 개의 질문에 대답하십시오.
စကားပြော တစ်ခုကို နားထောင်ပြီး မေးခွန်း နှစ်ခုကို ဖြေပါ။

4. 두 사람은 무엇에 대해 이야기하고 있습니까?
   သူတို့ နှစ်ယောက် ဘာအကြောင်း ပြောနေကြတာပါလဲ။

   ① 한국어 ② 한국 노래
   ③ 한국 영화 ④ 한국 드라마

5. 두 사람은 지금 무엇을 할 것입니까?
   သူတို့ နှစ်ယောက် အခု ဘာလုပ်ကြမှာလဲ။

   ① 콘서트에 갈 것입니다. ② 쇼핑을 할 것입니다.
   ③ 텔레비전을 볼 것입니다. ④ 영화를 보러 갈 것입니다.

### 듣기 대본 စာသား

1. 여: 리한 씨는 한국 연예인 중에 누구를 좋아해요?
   ရီဟန်က ကိုရီးယား အနုပညာရှင်တွေထဲက ဘယ်သူ့ကို ကြိုက်တာလဲ။
2. 남: 한국의 대표적인 수출품은 뭐예요?
   ကိုရီးယားရဲ့ ကိုယ်စားပြု ပြည်ပပို့ကုန်ပစ္စည်းက ဘာလဲ။
3. 여: 투안 씨는 한국의 예능 프로그램을 참 좋아하네요.
   ထူအန်းက ကိုရီးယားရဲ့ ဖျော်ဖြေရေး အစီအစဉ်တွေ တစ်ကယ် ကြိုက်တာပဲ။

4-5.

여: 투안 씨, 이제 곧 제가 좋아하는 음악 프로그램이 시작되는데 같이 볼래요?
ထူအန်းရေ၊ အခု တစ်အောင့်နေရင် ကျွန်မ ကြိုက်တဲ့ သီချင်း အစီအစဉ် စတော့မှာ၊ အတူတူ ကြည့်ပါလား။

남: 네, 좋아요. ဟုတ်ကဲ့၊ ကောင်းသားပဲ။

여: 투안 씨도 한국 노래를 좋아해요? ထူအန်းရော ကိုရီးယားသီချင်းတွေ ကြိုက်လား။

남: 그럼요. 한국 노래를 자주 들어요. ဒါပေါ့။ ကိုရီးယား သီချင်းတွေ မကြာမကြာ နားထောင်ပါတယ်။

여: 그럼 우리 토요일에 같이 콘서트 보러 갈래요?
ဒါဆို ကျွန်မတို့ စနေနေ့ကျရင် အတူတူ စတိတ်ရှိုး သွားကြည့်ကြမလား။

남: 좋아요. 저도 콘서트에 가 보고 싶었어요. ကောင်းပြီလေ။ ကျွန်တော်လည်း စတိတ်ရှိုး ရောက်ဖူးချင်နေတာ။

정답 1. ③ 2. ② 3. ① 4. ② 5. ③



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန် L-35

1. 다음을 듣고 질문에 알맞은 것을 고르십시오.
   အောက်ပါတို့ကို နားထောင်ပြီး မေးခွန်းနှင့် ကိုက်ညီတာကို ရွေးပါ။

   여자는 요즘 무엇을 배우고 있습니까?
   မိန်းကလေးက အခုတစ်လော ဘာကို လေ့လာနေပါသလဲ။

   ① 태권도 ② 테니스 ③ 한국 노래 ④ 한국 요리

### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

여: 저는 베트남 사람입니다. 한국 노래가 좋아서 2년 전에 한국에 오게 되었습니다. 한국에 온 후 태권도를 배우기 시작했습니다. 저는 운동을 잘 못하지만 태권도는 아주 재미있습니다. 요즘은 한국 요리를 배우고 있습니다. 김치찌개와 불고기를 잘 만듭니다.

ကျွန်မ ဗီယက်နမ်လူမျိုးပါ။ ကိုရီးယားသီချင်းတွေ ကြိုက်လို့ လွန်ခဲ့တဲ့ ၂နှစ်လောက်က ကိုရီးယားကို လာခဲ့ပါတယ်။ ကိုရီးယားကို ရောက်ပြီး နောက်ပိုင်း တိုက်ကွမ်ဒို စသင်ခဲ့ပါတယ်။ ကျွန်မက အားကစား သိပ်မလုပ်နိုင်ပေမဲ့ တိုက်ကွမ်ဒိုကတော့ အရမ်း ပျော်စရာကောင်းပါတယ်။ အခုတစ်လောမှာတော့ ကိုရီးယားဟင်းချက်နည်းတွေ လေ့လာနေပါတယ်။ ဂင်ချီဟင်းရည်နဲ့ အသားကင် ကောင်းကောင်း ချက်တတ်နေပါပြီ

정답 1. ④



မေးခွန်း နံပါတ် ၁ကတော့ စာပိုဒ်ကို ဖတ်ပြီး မှန်တဲ့ ခေါင်းစဉ်ကို ရွေးပေးရမှာ ဖြစ်ပြီး ၂နဲ့ ၃ ကတော့ စာပိုဒ်ကို ဖတ်ပြီး တူတဲ့ အကြောင်းအရာကို ရွေးပေးရမှာပါ။ သေချာ ဖတ်ပြီး အဖြေမှန်ကို ရွေးပါ။

[1~3] 다음 질문에 답하십시오. အောက်ပါ မေးခွန်းများကို ဖြေဆိုပါ။

1. 다음은 무엇에 대한 글입니까? ဘာအကြောင်း ရေးထားတဲ့ စာဖြစ်ပါသလဲ။

   한국은 1950년에 한국전쟁이 끝난 후 세계에서 가장 가난한 나라였습니다. 그렇지만 1960년대 경제를 개발했고 이후 경제가 크게 발전했습니다.
   တောင်ကိုရီးယားဟာဆိုရင် ၁၉၅၀ခုနှစ်မှာ ကိုရီးယားစစ်ပွဲ ပြီးတဲ့အချိန်တုန်းက ကမ္ဘာပေါ်မှာ အဆင်းရဲဆုံး နိုင်ငံ ဖြစ်ခဲ့တာပါ။ ဒါပေမဲ့ ၁၉၆၀ခုနှစ် စီးပွားရေးကို မြှင့်တင်လာပြီးနောက်ပိုင်း စီးပွားရေး မြင့်မားတိုးတက် ပြောင်းလဲလာခဲ့ပါတယ်။

   ① 무역　② 수출품　③ 수입품　④ 경제 발전

2. 이 사람에 대한 설명으로 맞는 것을 고르십시오. ဒီလူနဲ့ ပတ်သက်တဲ့ ရှင်းပြချက်အဖြစ် သင့်တော်ရာကို ရွေးပါ။

   저는 한국 노래를 좋아해서 한국에 왔습니다. 처음 텔레비전에서 우연히 한국 아이돌이 나오는 콘서트를 봤는데 춤도 잘 추고 노래도 잘하는 모습에 반했습니다. 그래서 한국 노래를 듣고 이해하고 싶어서 한국어를 공부하기 시작했습니다.
   ကျွန်တော်ကတော့ ကိုရီးယားသီချင်းတွေကို ကြိုက်လို့ ကိုရီးယားကို လာခဲ့တာပါ။ အစကတော့ တီဗီမှာ မမျှော်လင့်ဘဲ ကေပေါ့ပ်ရှိုးကို ကြည့်မိရာကနေ အကလည်းတော်၊ အဆိုလည်း တော်လို့ အရမ်း ကြွေခဲ့တာပါ။ အဲဒါကြောင့် ကိုရီးယားသီချင်းကို နားထောင်ရင် နားလည်ချင်လို့ ကိုရီးစာကို စပြီး လေ့လာဖြစ်ခဲ့တာပါ။

   ① 지금 고향에 있습니다.　② 한국 노래를 좋아합니다.
   ③ 한국어를 할 수 없습니다.　④ 한국 노래를 자주 안 듣습니다.

3. 한국의 수출에 대한 설명으로 맞는 것을 고르십시오.
   ကိုရီးယားရဲ့ ပို့ကုန်အကြောင်း ရှင်းပြချက်နဲ့ ကိုက်ညီရာကို ရွေးပါ။

   한국의 경제는 수출 중심입니다. 1980년대 이전에는 단순한 조립 제품을 수출했지만 1990년대 이후 자동차와 기계 등을 수출했고 2000년대부터는 휴대전화나 컴퓨터와 같은 전자제품의 수출이 늘었습니다.
   ကိုရီးယားရဲ့ စီးပွားရေးက ပြည်ပပို့ကုန်ပေါ်မှာ မူတည်နေပါတယ်။ ၁၉၈၀ခုနှစ် မတိုင်မီကတော့ ရိုးရိုး ပစ္စည်းတွေပဲ တင်ပို့ခဲ့ပေမဲ့ ၁၉၉၀ခုနှစ် နောက်ပိုင်းမှာတော့ ကားနဲ့ စက်ပစ္စည်းတွေကို တင်ပို့ခဲ့ပြီး ၂၀၀၀ခုနှစ်က စလို့ ဖုန်း၊ ကွန်ပျူတာလို လျှပ်စစ်ပစ္စည်းတွေရဲ့ တင်ပို့မှုနှုန်းတွေ မြင့်တက်လာပါတယ်။

   ① 한국은 수입을 많이 합니다.
   ② 1980년대에는 수출을 전혀 안 했습니다.
   ③ 1990년대에 조립 제품을 많이 수출했습니다.
   ④ 2000년대의 대표적인 수출품은 휴대전화입니다.



အောက်ပါ မေးခွန်းတွေအတွက် စာပိုဒ်ကို ဖတ်ပြီး မေးခွန်းတွေကို ဖြေပေးရမှာပါ။ အရင် လေ့လာခဲ့တာတွေကို ပြန်စဉ်းစားပြီး မေးခွန်းတွေကို ဖြေကြည့်ရအောင်။

[4~5] 다음 글을 읽고 물음에 답하십시오. အောက်ပါ စာပိုဒ်ကို ဖတ်ပြီး မေးခွန်းများကို ဖြေဆိုပါ။

1990년대부터 중국과 동남아를 중심으로 인기를 얻기 시작한 한국의 대중문화를 한류라고 합니다. 최근에는 아이돌을 중심으로 한 K-pop이 아시아는 물론 유럽과 미국에서까지 큰 인기를 얻고 있고 배우들과 가수들이 외국에 나가서 활동하는 경우도 늘고 있습니다. 한류로 인해 한국의 음식이나 한국어에 대한 관심도 같이 높아져서 관광 수입도 크게 늘어나고 있습니다.

၁၉၉၀ခုနှစ်ကနေ စပြီး တရုတ်ပြည်နဲ့ အရှေ့တောင်အာရှမှာ ရေပန်းစားလာတဲ့ ကိုရီးယဉ်ကျေးမှုကို ဟာလျူ (ကိုရီးယား ရေစီးကြောင်း)လို့ ခေါ်ပါတယ်။ ခုနောက်ပိုင်းတော့ ကေပေါ့ပ်အဖွဲ့တွေကနေတစ်ဆင့် ကေပေါ့ပ်သီချင်းတွေဟာ အာရှအပြင် ဥရောပနဲ့ အမေရိကန် နိုင်ငံတွေအထိ ကျော်ကြားလျက်ရှိပြီး သရုပ်ဆောင်တွေ၊အဆိုတော်တွေ ပြည်ပနိုင်ငံတွေကို သွားရောက် အလုပ်လုပ်ကိုင်နေကြတာမျိုးလည်း များလာပါတယ်။ ကိုရီးယား ရေစီးကြောင်း ဂယက်ကနေတစ်ဆင့် ကိုရီးယား အစားအစာတွေ၊ ကိုရီးယားနိုင်ငံနဲ့ ပတ်သက်တာတွေကိုလည်း စိတ်ဝင်စားမှု များလာတဲ့အတွက် ခရီးသွား ဝင်ငွေတွေ အဆပေါင်းများစွာ တိုးပွားလျက်ရှိပါတယ်။

4. 한류에 대한 설명으로 맞는 것을 고르십시오.
   ကိုရီးယား ရေစီးကြောင်း ဂယက်နဲ့ ပတ်သက်ပြီး ရှင်းပြထားတာနဲ့ တူတာကို ရွေးပါ။

   ① 최근에 시작되었다. ② 동남아의 대중문화이다.
   ③ 유럽과 미국에서도 인기가 있다. ④ 외국에서 활동하는 배우는 전혀 없다.

5. 한류의 영향으로 맞는 것은 무엇입니까?
   ကိုရီးယား ရေစီးကြောင်း ဂယက်ကြောင့် ဘယ်လို အရာတွေမှာ ထင်ဟပ်မှုတွေ ရှိလာပါလဲ။

   ① 한국어를 배우는 사람이 없다. ② 음악보다 드라마가 인기가 있다.
   ③ 한국 음식에 대한 관심이 많아졌다. ④ 한국으로 여행 오는 사람은 많지 않다.

정답 1. ④ 2. ② 3. ④ 4. ③ 5. ③



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~3] 빈칸에 들어갈 가장 알맞은 것을 고르십시오. ကွက်လပ်ဖြည့်ဖို့ အသင့်တော်ဆုံး အရာကို ရွေးပါ။

1. 일반 쓰레기와 음식물 쓰레기는 ________ 버려야 합니다. 같은 봉투에 담아서 버리면 안 됩니다.
   ရိုးရိုးအမှိုက်နဲ့ စားကြွင်းစားကျန်အမှိုက်တွေကို သပ်သပ်စီ ပစ်ရပါတယ်။ တစ်အိတ်ထဲ ထည့်ပြီး ပစ်လို့ မရပါဘူး။

   ① 몰래 ② 이미 ③ 함께 ④ 따로

2. 요즘 컴퓨터를 배우고 있습니다. 자격증을 ________ 회사를 옮기고 싶습니다.
   အခုတစ်လော ကွန်ပျူတာ သင်နေပါတယ်။ သင်တန်းဆင်းလက်မှတ် ရရင် ရုံးပြောင်းချင်ပါတယ်။

   ① 사면 ② 따면 ③ 들으면 ④ 신청하면

3. 자동차를 수리하는 공장에서 일하고 싶어서 ________ 자격증을 따려고 합니다.
   ကားပြင်တဲ့ စက်ရုံမှာ အလုပ်လုပ်ချင်လို့ စက်ပြင်လက်မှတ် ရအောင် ယူမယ် စိတ်ကူးနေပါတယ်။

   ① 정비사 ② 요리사 ③ 미용사 ④ 상담사

정답 1. ④ 2. ② 3. ①




# 단정한 모습이 좋아 보여요
သပ်ရပ်သော အသွင်အပြင်က ကြည့်ကောင်းတယ်။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** ဝတ်စုံ ရှင်းပြခြင်း၊ အကြံဉာဏ်ပေးခြင်း
- □ **သဒ္ဒါ** -아/어 보이다, -게
- □ **ဝေါဟာရနှင့် အသုံးများ** အဝတ်အစား၊ ကိုယ်ဟန်အမူအရာ
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** အလုပ်ခွင်ဝတ်စုံ



## 대화 1 စကားပြော ၁






ရီဟန်နှင့်ထူအန်းတို့ အလုပ်ဝတ်စုံအကြောင်း ပြောနေကြတယ်။ အရင်ဆုံး သူတို့ ပြောနေတာကို နှစ်ခါလောက် နားထောင်ပြီး လိုက်ဆို ကြည့်ပါ။

투안 리한 씨, 새 작업복이 잘 어울리네요.
ရီဟန်၊ အလုပ်ဝတ်စုံအသစ်နဲ့ အရမ်းလိုက်တယ်နော်။

리한 그래요? 저는 지퍼를 목까지 올려야 해서 좀 불편한데, 투안 씨는 괜찮아요?
ဟုတ်လား၊ ကျွန်တော်ကတော့ ဇစ်ကို လည်ပင်းအထိ တင်ရတာမို့ နည်းနည်းမွန်းကြပ်တယ်။ ထူအန်းကော အဆင်ပြေလား။

투안 좀 그렇기는 한데, 이렇게 해야 작업할 때 안전하니까요.
နည်းနည်း၊ ဟုတ်တော့ဟုတ်ပေမဲ့ ဒီလိုမျိုး ဝတ်မှအလုပ်လုပ်တဲ့အခါ အန္တရာယ်ကင်းတာကြောင့်လေ။

반장 투안 씨 말이 맞아요. 그리고 지금 두 사람 단정한 모습이 좋아 보여요. 처음이라 좀 불편하겠지만 익숙해지면 괜찮을 거예요.
ထူအန်း ပြောတာမှန်တယ်။ နောက်ပြီး အခု နှစ်ယောက်စလုံးရဲ့ သပ်ရပ်သောပုံစံက ကြည့်ကောင်းတယ်။ အစပိုင်းမို့လို့ နည်းနည်းမွန်းကြပ်ပေမဲ့ ကျင့်သားရလာရင် အဆင်ပြေသွားမှာပါ။

> **그렇기는 한데**
> **ဟုတ်တော့ဟုတ်ပေမဲ့**
> တစ်ခြားသူရဲ့ စကားကို ထောက်ခံရင်း ကိုယ့်ရဲ့ အမြင်ကိုလည်း တင်ပြချင်တဲ့ အခါမှာ သုံးသော အသုံးဖြစ်တယ်။
> · 가: 운동화가 정말 예뻐요.
> ဖိနပ်ကင်းဗတ်က တကယ် လှတာပဲ။
> 나: 그렇긴 한데, 너무 비싸서 못 사요.
> ဟုတ်တော့ ဟုတ်ပေမဲ့ အရမ်းဈေးကြီးလို့ မဝယ်နိုင်ဘူး။

> **-아/어지다**
> လာတယ်။ ပြောင်းလဲလာခြင်းကို ပြောတဲ့အခါသုံးတယ်။ နာမဝိသေသနနဲ့တွဲတယ်။
> · 친구들을 만나서 기분이 좋아졌어요.
> သူငယ်ချင်းတွေနဲ့ တွေ့ပြီးစိတ်ပျော်လာတယ်။
> · 날씨가 점점 추워지니까 감기 조심하세요.
> ရာသီဥတုကနည်းနည်းအေးလာလို့ ဖျားတာနာတာသတိထားပါ။



သချာနားထောင်ပြီး လိုက်ဆိုပြီးရင် အောက်က မေးခွန်းတွေ ဖြေကြည့်ကြရအောင်။

1. 투안 씨와 리한 씨는 무슨 옷을 입고 있어요? ထူအန်းနဲ့ ရီဟန်က ဘာဝတ်စုံဝတ်နေလဲ။
2. 리한 씨는 왜 새 작업복을 불편해 해요? ရီဟန်ကဘာကြောင့် ဝတ်စုံအသစ်ကို မနှစ်သက်တာလဲ။

정답 1. 두 사람은 새 작업복을 입고 있어요. 2. 지퍼를 목까지 올려야 해서요.





## 어휘 1 ဝေါဟာရ ၁ — 복장 အဝတ်အစား



ကုမ္ပဏီမှာ ဘယ်လိုအဝတ်အစားဝတ်ရလဲ။ အဝတ်အစားနဲ့ ပတ်သက်တဲ့ ဝေါဟာရတွေ ရှာကြည့်ရအောင်။



작업복
အလုပ်ခွင်ဝတ်စုံ





유니폼
ယူနီဖောင်း

단정하다
သပ်ရပ်သည်။



깔끔하다
သေသပ်သည်။

- 작업장에서는 **작업복**을 입어야 해요.
  အလုပ်ခွင်မှာတော့ အလုပ်ဝတ်စုံကို ဝတ်ရမယ်။
- **유니폼**을 입으니까 단정해 보여요.
  ယူနီဖောင်း ဝတ်လိုက်တော့ သပ်သပ်ရပ်ရပ် ဖြစ်သွားတယ်။
- 직장에서는 **단정하고 깔끔한** 옷차림을 해야 해요.
  အလုပ်ထဲမှာတော့ သပ်ရပ်ပြီးသေသပ်သောအဝတ်အစားကိုဝတ်ရတယ်။



단추를 잠그다
ကြယ်သီးတပ်သည်။



단추를 풀다
ကြယ်သီးဖြုတ်သည်။



지퍼를 올리다
ဇစ်ဆွဲသည်။



지퍼를 내리다
ဇစ်ဖွင့်သည်။



넥타이를 매다
နက်ခ်တိုင်စည်းသည်။



넥타이를 풀다
နက်ခ်တိုင်ဖြုတ်သည်။



အပေါ်ကဝေါဟာရတွေကို မကြည့်ဘဲအောက်ပါစာကြောင်းများကိုဖြည့်စွက်ပါ။

1. 그림을 보고 알맞은 말을 연결하세요. ပုံကို ကြည့်ပြီး ကိုက်ညီတဲ့ ဝေါဟာရနှင့် ဆက်ပေးပါ။

① 
② 
③ 
④ 
⑤ 

㉠ 넥타이를 풀다 ㉡ 지퍼를 내리다 ㉢ 넥타이를 매다 ㉣ 단추를 풀다 ㉤ 단추를 잠그다

정답 ①-㉣ ②-㉢ ③-㉡ ④-㉤ ⑤-㉠



## 문법 1 သဒ္ဒါ ၁ -아/어 보이다




ဖြစ်ခြင်းပြ/ဂုဏ်ရည်ပြကြိယာတို့နဲ့ တွဲဆက်ပြီး 'အဲလိုပုံပေါ်တယ်' လို့ ပြောချင်တဲ့အခါ သုံးပါတယ်။

| ㅏ, ㅗ → -아 보이다 | ㅓ, ㅜ, ㅣ စသည်ဖြင့် → -어 보이다 | 하다 → 해 보이다 |
|---|---|---|
| 작다 → 작**아 보이다** | 맛있다 → 맛있**어 보이다** | 불편하다 → 불편**해 보이다** |

· 가: 이반 씨, 아주 **바빠 보여요.** ထူအန်း၊ အရမ်းအလုပ်များတဲ့ ပုံပဲ။
  나: 네, 오늘 일 좀 많아요. ဟုတ်ကဲ့၊ ဒီနေ့ အလုပ်နည်းနည်းများတယ်။
· 가: 이 빵 좀 드셔 보세요. 제가 만들었어요. ဒီပေါင်မုန့်နည်းနည်း စားကြည့်ပါ။
  나: 정말 **맛있어 보여요.** တကယ်အရသာရှိမယ့် ပုံပဲ။
· 가: 좀 **불편해 보이는데** 괜찮아요? နည်းနည်းမွန်းကြပ်တဲ့ ပုံပေါက်နေတယ်၊ အဆင်ပြေရဲ့လား။
  나: 넥타이를 풀어야겠어요. နက်ခ်တိုင်ဖြုတ်မှပဲ။

※ နောက်ပြီး အချို့သော ဂုဏ်ရည်ပြကြိယာတွေနဲ့ '-게 보이다' နဲ့ တွဲသုံးရင်လည်း အတူတူပဲဖြစ်ပါတယ်။
· 그 옷을 입으니까 **날씬해 보여요.** ဒီအကျီဝတ်လိုက်တာ ပိန်တယ်ထင်ရတယ်။
  (= 그 옷을 입으니까 **날씬하게 보여요.**) (= ဒီအကျီဝတ်လိုက်တာ ပိန်တယ်ထင်ရတယ်။)



'-아/어 보이다' အသုံးကိုနားလည်သွားပြီးလား။ အပေါ်က အသုံးအနှုန်းတွေကို သုံးပြီး ကွက်လပ်ဖြည့်ပါ။

2. '-아/어 보이다'를 사용해서 대화를 완성하세요. '-아/어 보이다' ကို သုံးပြီး စကားပြောကို ဖြည့်စွက်ပါ။

1) 가: 리한 씨, 단추를 좀 푸는 게 어때요? ________________. [답답하다]
   ရီဟန်၊ ကြယ်သီး နည်းနည်း ဖြုတ်လိုက်ပါလား။ မွန်းကြပ်နေသလိုပဲ။
   나: 그래요? 전 별로 불편하지 않아요. 괜찮아요.
   ဟုတ်လား၊ ကျွန်တော်တော့ သိပ်ပြီး မမွန်းကြပ်ပါဘူး။ အဆင်ပြေပါတယ်။

2) 가: 넥타이를 매니까 아주 ________________. [단정하다]
   နက်ခ်တိုင် စည်းလိုက်တော့ အရမ်း သန့်ပြန့်သွားတယ်။
   나: 그래요? 감사합니다.
   ဟုတ်လား၊ ကျေးဇူးတင်ပါတယ်။

3) 가: 지훈 씨가 오늘 ________________. [피곤하다]
   ဂျီဟွန်း ဒီနေ့ ပင်ပန်းနေသလိုပဲ။
   나: 어제 늦게까지 일을 해서 그런 것 같아요.
   မနေ့က နောက်ကျတဲ့အထိ အလုပ်လုပ်ခဲ့လို့ အဲလိုဖြစ်တာထင်တယ်။

정답 1) 답답해 보여요 2) 단정해 보여요 3) 피곤해 보여요



### 유용한 표현 အသုံးဝင်သော အသုံးအနှုန်းများ

**한잔할까요? တစ်ခွက်လောက်သောက်မလား။**

가: 오늘 저녁에 **한잔할까요?** ဒီနေ့ညနေကျ **တစ်ခွက်လောက်သောက်မလား။**
나: 좋아요. 어디에서 만날까요? ကောင်းပြီလေ၊ ဘယ်မှာတွေ့မလဲ။



## 대화 2 စကားပြော ၂

Track 113



စက်ရုံမှူးက ရီဟာန်ရဲ့ အပြုအမူနဲ့ ပတ်သက်ပြီး ခေါ်ပြီး သတိပေးတယ်။ စက်ရုံမှူးက ရီဟာန်ကို ဘာတွေပြောလဲ။ အရင်ဆုံး သူတို့ ပြောနေတာကို နှစ်ခေါက် နားထောင်ကြည့်ပါ။

공장장　리한 씨, 잠깐 나 좀 봐요.
ရီဟာန်၊ ငါနဲ့ ခဏလောက် စကားပြောရအောင်။

리 한　네? 무슨 일이신데요?
ဟုတ်ကဲ့၊ ဘာကိစ္စများလဲ မသိဘူး။

공장장　리한 씨, 요즘 일이 많아서 힘든 건 알겠어요. 그래도 기계를 발로 툭툭 차고, 작업장에서 크게 떠드는 건 정말 예의가 없는 행동이잖아요.
ရီဟာန်၊ အခုတလော အလုပ်များပြီး ပင်ပန်းတာ သိတယ်။ ဒါပေမဲ့လည်း စက်တွေကို ခြေထောက်နဲ့ တဒုန်းဒုန်းကန်တယ်။ အလုပ်ခွင်ထဲမှာ အသံကျယ်ကျယ်နဲ့ စကားပြောတာတွေဟာ တကယ်ယဉ်ကျေးမှု မရှိတဲ့အပြုအမူဆိုတာ သိတယ်မဟုတ်လား။။

> **그래도 ဒါပေမဲ့လည်း**
> · 이 책은 너무 비싸요. 그래도 한국어 공부를 하려면 꼭 필요한 책이에요.
> ဒီ စာအုပ် ဈေးအရမ်းကြီးတယ်။ ဒါပေမဲ့လည်း ကိုရီးယားစာ လေ့လာချင်ရင်တော့ မဖြစ်မနေ လိုအပ်တဲ့ စာအုပ်ဖြစ်ပါတယ်။
> · 피곤하고 힘들어요. 그래도 오늘까지 일을 끝내야 해요.
> ပင်ပန်းပြီး အားကုန်နေပြီ။ ဒါပေမဲ့လည်း ဒီနေ့ အတွင်း အလုပ်တွေကို အပြီးသတ်ရမယ်။

> **-잖아요 မဟုတ်လား။**
> ပြောသူကောနားထောင်သူကော သိနေတဲ့ အနေအထားကိုပြောတဲ့အခါ သုံးတယ်။
> · 가: 리한 씨는 언제 고향에서 돌아와요?
> ရီဟာန်က ဘယ်တော့ မွေးရပ်မြေကနေ ပြန်လာမှာလဲ။
> 나: 내일 오잖아요.
> မနက်ဖြန် ပြန်လာမှာ မဟုတ်လား။
> · 가: 왜 이렇게 길이 복잡해요?
> ဘာကြောင့် ဒီလိုမျိုး လမ်းတွေ ပိတ်တာလဲ။
> 나: 지금 퇴근 시간이잖아요.
> အခု အလုပ်ဆင်းချိန် မဟုတ်ပါလား။

리 한　죄송해요. 저도 모르게 짜증이 나서 그랬어요.
တောင်းပန်ပါတယ်။ ကျွန်တော်တောင် မသိလိုက်ဘဲ စိတ်ကတိုလာပြီး အဲဒီလိုဖြစ်သွားတယ်။

공장장　요즘 다들 그럴 거예요. 서로 조금씩만 배려합시다.
အခုတလော အကုန်လုံး အဲဒီလိုပါပဲ။ အပြန်အလှန် နည်းနည်းစီ နားလည်မှုလေးတွေ ထားရအောင်။

အခု စက်ရုံမှူးနဲ့ ရီဟာန်ရဲ့ နေရာမှာဝင်ပြီး စကားပြောတွေကို လိုက်ပြောမယ်။ သေချာနားထောင်ပြီး လိုက်ဆိုပြီးရင် အောက်က မေးခွန်းတွေ ဖြေကြည့်ကြရအောင်။

1. 리한 씨는 무슨 행동을 했어요? ရီဟာန်က ဘယ်လိုအပြုအမူကိုလုပ်ခဲ့လဲ။
2. 리한 씨는 왜 이런 행동을 했어요? ရီဟာန်က ဘာကြောင့် ဒီလို အပြုအမူကို လုပ်ခဲ့တာလဲ။

정답 1. 기계를 발로 툭툭 차고, 작업장에서 크게 떠들었어요. 2. 짜증이 나서 그랬어요.



## 어휘 2 စကားပြော ၂ 태도 ကိုယ်ဟန်အမူအရာ

လူအများအပြား ရှိသောနေရာ၊ အလုပ်ခွင်နေရာတွင် ဘယ်လိုပြုမူသင့်သလဲ။
ကိုယ်ဟန်အပြုအမူနဲ့ ပတ်သက်ပြီး ဝေါဟာရတွေရှာကြည့်ရအောင်။


예의가 있다
ယဉ်ကျေးသည်။



예의가 없다
ယဉ်ကျေးမှုမရှိ၊ ရိုင်းပျသည်။



반말을 하다
သူငယ်ချင်းပြော ပြောသည်။



존댓말을 하다
လေးစားစွာပြောသည်။


존중하다
အလေးအနက်ထားသည်။


배려하다
စာနာနားလည်သည်။


칭찬하다
ချီးကျူးသည်။


함부로 하다
လက်လွှတ်စပယ်လုပ်သည်။


피해를 주다
နစ်နာအောင် လုပ်သည်။


불쾌하다
စိတ်အနှောင့်အယှက်ဖြစ်သည်။


무시하다
လျစ်လျူရှုသည်။



အပေါ်က ဝေါဟာရတွေကို မကြည့်ဘဲ အောက်ပါ စာကြောင်းများကို ဖြည့်စွက်ပါ။

1. 빈칸에 맞는 표현을 〈보기〉에서 골라 문장을 완성하세요.
ကွက်လပ်ထဲ ဖြည့်ရန် သင့်တော်သော အသုံးကို (ဥပမာ)ထဲက ရွေးပြီး စာကြောင်းကို ဖြည့်စွက်ပါ။

[직장에서 지켜야 할 것]

1) 직장에서 일이 많을 때는 서로 ________________ 주세요.
2) 신입 사원에게도 반말 말고 ________________ 주세요.
3) 동료의 의견을 ________________ 주세요.
4) 일을 할 때는 옆 사람에게 ________________ 마세요.
5) 다른 사람의 물건을 ________________ 안 돼요.

보기

존중하다 피해를 주다 함부로 하다 존댓말을 하다 배려하다

정답 1) 배려해 2) 존댓말을 해 3) 존중해 4) 피해를 주지 5) 함부로 하면



# 문법 2 သဒ္ဒါ ၂ -게




'-게' ကို ဖြစ်ခြင်းပြ/ဂုဏ်ရည်ပြကြိယာနဲ့ တွဲလိုက်ခြင်းဖြင့် ကြိယာဝိသေသန ဖြစ်သွားစေပါတယ်။

- 가: **불쾌하게** 해서 미안해요. စိတ်အနှောင့်အယှက်ဖြစ်အောင် လုပ်မိတဲ့အတွက် တောင်းပန်ပါတယ်။
  나: 괜찮아요. 신경 쓰지 마세요. ရပါတယ်။ အာရုံမထားပါနဲ့။
- 초대해 줘서 고마워요. **맛있게** 잘 먹었어요. ဖိတ်ကြားပေးတဲ့အတွက် ကျေးဇူးတင်ပါတယ်။ အရသာရှိရှိ သုံးဆောင်ခဲ့ပါတယ်။
- 직장에서는 예의 **있게** 행동해야 해요. အလုပ်ခွင်ထဲမှာတော့ ယဉ်ကျေးစွာ ပြုမူနေထိုင်ရမယ်။
- 여기는 공공장소니까 그렇게 **크게** 떠들면 안 돼요.

ဒီနေရာက အများပိုင်နေရာဖြစ်တဲ့အတွက် ဒီလိုမျိုး အသံကျယ်လောင်စွာ ပြောဆိုလို့ မရပါဘူး။

※ ဖြစ်ခြင်းပြ/ဂုဏ်ရည်ပြကြိယာမှာ '-게' ပေါင်းပြီး ကြိယာဝိသေသနပြုလုပ်ပြီး ပြောနိုင်တာမျိုး ရှိသလို အဲဒီလိုမျိုး လုပ်စရာမလိုတဲ့ မူလကတည်းက ကြိယာဝိသေသန ပုံစံအတိုင်း ရှိနေသော စကားလုံးများလည်း ရှိပါတယ်။

ဥပမာ) '많이 (အများကြီး)', '멀리 (အဝေးကြီး)', '일찍 (စောစော)', '조금 (နည်းနည်း)', '빨리 (မြန်မြန်)', '천천히 (ဖြေးဖြေး)', '높이 (မြင့်မြင့် အမြင့်)'



## 대조적 정보 နှိုင်းယှဉ်ချက်

ကြိယာကို '-게' နဲ့ တွဲပြီး ကြိယာဝိသေသန ပြုတာဟာ မြန်မာစကားမှာ ကြိယာကို (စွာ)နဲ့ ပေါင်းတာနဲ့ တူပါတယ်။ (စွာ)က စကားပြောပုံစံမှာ မသုံးဘူးဆိုတဲ့အချက်က ကိုရီးယားနဲ့ ကွာပါတယ်။

- 예쁘(다) : 예쁘게, 크(다) : 크게, 작(다) : 작게
  ချစ်စရာကောင်းသည်(ချစ်စရာကောင်းလှစွာ), ကြီးမားသည်(ကြီးမားစွာ), သေးငယ်သည်(သေးငယ်စွာ)
- 아름답(다) : 아름답게, 깨끗하(다) : 깨끗하게, 조용하(다) : 조용하게
  လှပသည်(လှပစွာ), သန့်ရှင်းသည်(သန့်ရှင်းစွာ), တိတ်ဆိတ်သည်(တိတ်ဆိတ်စွာ)



'-게' အသုံးကို နားလည်သွားပြီဆိုရင် အောက်ပါ စကားပြောများအတွက် သင့်တော်သော အသုံးကို ရွေးပါ။

2. 대화를 읽고 맞는 대답을 고르세요. စကားပြောကို ဖတ်ပြီး အဖြေမှန်ကို ရွေးပါ။

1)
가: 나이가 같은 사람한테 반말을 하면 안 돼요?
သက်တူရွယ်တူများနှင့် သူငယ်ချင်းပြော ပြောတဲ့ အသုံးကို သုံးလို့ရလား။
나: 아직 친하지 않으면 다른 사람을 ________ 할 수 있어요.
မရင်းနှီးသေးရင် တစ်ဖက်သူကို စိတ်အနှောင့်အယှက်ဖြစ်အောင် လုပ်သလိုဖြစ်တတ်တယ်။

① 불편하고　　② 불편하게

2)
가: 직장에서 ________ 생활하려면 서로 배려하는 게 좋아요.
အလုပ်ထဲမှာ စိတ်ပျော်ရွှင်စွာ ကျင်လည်ချင်ရင် အချင်းချင်း စာနာနားလည်ပေးတာ ကောင်းတယ်။
나: 맞아요. 피해를 주면 안 돼요. မှန်တယ်၊ အနှောင့်အယှက်ပေးမိသလိုဖြစ်ရင် မကောင်းဘူး။

① 즐겁게　　② 즐겁고

3)
가: 이게 더 ________ 의자니까 여기에 앉으세요.
ဒီဟာ ပိုပြီး သက်တောင့်သက်သာရှိသော ကုလားထိုင်မို့လို့ ဒီမှာ ထိုင်ပါ။
나: 네, 고마워요. ဟုတ်ကဲ့၊ ကျေးဇူးတင်ပါတယ်။

① 편한　　② 편하게

정답 1) ② 2) ① 3) ①

## 활동 အသုံးချသင်ခန်းစာများ

### 직장 예절에 관한 O, X 퀴즈입니다. 잘 읽고 질문에 답하세요.
အောက်ပါ အမှားအမှန် မေးခွန်းများကတော့ လုပ်ငန်းခွင်တွင်း ထားရှိရမည့် ယဉ်ကျေးမှုနဲ့ပတ်သက်သော မေးခွန်းများပဲဖြစ်ပါတယ်။ သေချာ ဖတ်ပြီး မေးခွန်းများ ဖြေပါ။

1. 맞으면 O, 틀리면 X에 표시하세요. မှန်ရင် O, မှားရင် X မှာအမှတ်အသားလုပ်ပေးပါ။

| | | |
|---|---|---|
| 1. 직장에서는 단정하고 깔끔하게 옷을 입어야 합니다.<br>အလုပ်မှာတော့ သပ်ရပ်ပြီး သေသပ်စွာ အဝတ်အစား ဝတ်ရတယ်။ | ○ | X |
| 2. 작업을 할 때는 작업복의 단추를 풀어야 합니다.<br>အလုပ်လုပ်တဲ့အခါမှာတော့ အလုပ်ဝတ်စုံရဲ့ကြယ်သီးကို ဖြုတ်ထားရမယ်။ | ○ | X |
| 3. 작업장에서는 신발끈을 묶었는지 확인하는 것이 좋습니다.<br>အလုပ်ခွင်ထဲမှာတော့ ဖိနပ်ကြိုးကို စည်းပြီးပြီလား စစ်တာကောင်းတယ်။ | ○ | X |
| 4. 예의가 있다는 것은 다른 사람을 배려하는 것입니다.<br>ယဉ်ကျေးမှု ရှိတယ်ဆိုတာက တစ်ပါးသူကို စာနာနားလည်ပေးခြင်းဖြစ်တယ်။ | ○ | X |
| 5. 일할 때는 다른 사람을 무시하는 것이 좋습니다.<br>အလုပ်လုပ်တဲ့အခါ တစ်ခြားသူကို လျစ်လျူရှုတာ ကောင်းတယ်။ | ○ | X |
| 6. 윗사람에게는 존댓말을 해야 합니다.<br>အထက်လူကြီးကို ယဉ်ကျေးသော စကားအသုံးနဲ့ပြောရတယ်။ | ○ | X |
| 7. 친한 동료와는 반말을 해도 됩니다.<br>ရင်းနှီးသော လုပ်ဖော်ကိုင်ဖက်နဲ့ဆိုရင်တော့ သူငယ်ချင်းပြော ပြောသော စကားအသုံးကို သုံးလည်း ရတယ်။ | ○ | X |
| 8. 아랫사람에게도 예의있게 행동해야 합니다.<br>လက်အောက်ငယ်သားကိုလည်း ယဉ်ကျေးစွာ ပြုမူဆက်ဆံရမယ်။ | ○ | X |
| 9. 친한 동료에게 함부로 해도 됩니다.<br>ရင်းနှီးသော လုပ်ဖော်ကိုင်ဖက်ကို လက်လွှတ်စပါယ် ပြောလည်း ရတယ်။ | ○ | X |
| 10. 다른 사람을 불쾌하게 하는 행동은 하지 말아야 합니다.<br>တစ်ခြားသူတွေကို စိတ်အနှောင့်အယှက်ဖြစ်စေသော အပြုအမူကို မလုပ်ရဘူး။ | ○ | X |

2. 정답을 보고, 여러분의 점수를 계산해 보세요. 문제 당 1점이에요.
အဖြေမှန်ကို ကြည့်ပြီး၊ သင်တို့ရဲ့ အမှတ်ကို တွက်ကြည့်ပါ။ မေးခွန်း တစ်ခုကို တစ်မှတ်ပါ။

| | |
|---|---|
| 나의 점수 မိမိ၏အမှတ် | |

정답 1. ○ 2. X 3. ○ 4. ○ 5. X 6. ○ 7. ○ 8. ○ 9. X 10. ○

3. 여러분은 어떤 사람이에요? 알아보세요. သင်တို့ကော ဘယ်လိုလူမျိုးလဲ။ စမ်းကြည့်ပါ။

| | | |
|---|---|---|
| 8점 이상<br>၈မှတ်အထက် | | 직장에서의 예절을 잘 알고 있군요!<br>လုပ်ငန်းခွင်ယဉ်ကျေးမှု သဘောတရားကိုကောင်းကောင်းသိသားပဲ။ |
| 4-7점<br>၄-၇မှတ | | 직장 예절에 대해 조금 더 생각해 보세요.<br>လုပ်ငန်းခွင် ယဉ်ကျေးမှု သဘောတရားကို နည်းနည်း ပိုပြီး စဉ်းစားကြည့်ပါ။ |
| 3점 이하<br>၃မှတ်အောက် | | 직장 예절에 대해 다시 공부하세요.<br>လုပ်ငန်းခွင် ယဉ်ကျေးမှု သဘောတရားကို ပြန်လေ့လာပါ။ |

# 작업 현장의 복장
လုပ်ငန်းခွင် ဝတ်စုံ



농업
စိုက်ပျိုးရေးလုပ်ငန်း



어업
ငါးမွေးမြူရေးလုပ်ငန်း



제조업(용접)
ကုန်ထုတ်လုပ်ငန်း(ဝရိန်)



제조업(밀링 작업)
ကုန်ထုတ်လုပ်ငန်း(သံဖြတ်တောက်)



건설업
ဆောက်လုပ်ရေးလုပ်ငန်း



유통업(제품 포장)
ဖြန့်ချီရေးလုပ်ငန်း(ပစ္စည်းထုတ်ပိုး)









မေးခွန်း နံပါတ်၁ နဲ့ ၂ ကတော့ ပုံကိုကြည့်ပြီး မှန်တဲ့ စကားလုံးကိုရွေးပေးရမှာပါ။ သေချာနားထောင်ပြီး အဖြေမှန်ကို ရွေးပါ။ သူတို့ ဘာဝတ်ထားလဲ သေချာကြည့်ပါ။



[1~2] 다음 그림을 보고 알맞은 대답을 고르십시오.
အောက်ပါ ပုံကို ကြည့်ပြီး အဖြေမှန်ကို ရွေးပါ။

Track 114

1. ① ② ③ ④

2 ① ② ③ ④



မေးခွန်းနံပါတ် ၃ နှင့် ၄ကတော့ အဖြေမှန်ရွေး ပုစ္ဆာဖြစ်ပါတယ်။နံပါတ် ၅ကတော့ ယောကျ်ားလေးက စကားအဆုံးမှာ ပြုလုပ်မည့် အပြုအမူကို ရွေးရမယ့် မေးခွန်းဖြစ်ပါတယ်။ စကားပြောကို နားမထောင်ခင်ရွေးဖို့ ပေးထားတာတွေကို အရင် ဖတ်ကြည့်ပါ။

[3~4] 질문을 듣고 알맞은 대답을 고르십시오.
မေးခွန်းကို နားထောင်ပြီး သင့်တော်မယ့် အဖြေကို ရွေးပါ။

3. ① 얼른 지퍼를 올릴게요. ② 빨리 옷을 가져올게요.
③ 금방 작업복을 입을게요. ④ 제가 신발을 빌려줄게요.

4. ① 제가 하겠습니다. ② 나중에 다시 올게요.
③ 앞으로는 조심할게요. ④ 그럼, 다음에 뵙겠습니다.

5. 이야기를 듣고 질문에 알맞은 대답을 고르십시오.
အကြောင်းအရာကို နားထောင်ပြီးမေးခွန်းနဲ့ ကိုက်ညီသောအဖြေကိုရွေးပါ။

남자가 이어서 할 행동으로 맞는 것을 고르십시오.
ယောကျ်ားလေးက ဆက်လက်ပြီး လုပ်ဆောင်မယ့် အပြုအမူအနေနဲ့ မှန်တာကို ရွေးပါ။

① 작업복을 산다.
② 작업복을 벗는다.
③ 작업복 단추를 푼다.
④ 작업복 단추를 잠근다.

### 듣기 대본 စာသား

1. ① 여: 작업복을 입었네요. အလုပ်ဝတ်စုံကို ဝတ်ထားတာပဲ။
   ② 여: 작업을 시작했네요. လုပ်ငန်း စခဲ့တယ်။
   ③ 여: 작업을 하고 있네요. အလုပ် လုပ်နေတယ်။
   ④ 여: 작업장에 들어갔네요. အလုပ်ခွင်သို့ ဝင်သွားခဲ့တယ်။
2. ① 남: 단추를 잠그고 있어요. ကြယ်သီးကိုတပ်ထားတယ်။
   ② 남: 지퍼를 올리고 있어요. ဇစ်ဆွဲထားတယ်။
   ③ 남: 유니폼을 입고 있어요. ယူနီဖောင်းကို ဝတ်ထားတယ်။
   ④ 남: 넥타이를 매고 있어요. နက်ခ်တိုင်ကို စည်းထားတယ်။
3. 여: 잠깐만요. 작업을 할 때는 작업복의 지퍼를 꼭 올려야 해요.
   ခဏလေး၊ အလုပ်လုပ်တဲ့ အခါမှာတော့ အလုပ်ဝတ်စုံရဲ့ဇစ်ကို သေချာ ပိတ်ထားရပါမယ်။
4. 남: 그렇게 크게 이야기하면 다른 사람들에게 피해를 줄 수 있어요.
   ဒီလိုမျိုးကျယ်လောင်စွာ စကားပြောရင် တစ်ခြားသူတွေကို အနှောင့်အယှက်ဖြစ်စေနိုင်တယ်။
5. 여: 투안 씨, 왜 작업복 단추를 안 잠갔어요?
   ထူအန်းက ဘာကြောင့်အလုပ်ဝတ်စုံ ကြယ်သီးမတပ်ထားတာလဲ။
   남: 너무 더워서 좀 풀었어요. အရမ်းအိုက်လို့ ခဏ ဖြုတ်ထားတာပါ။
   여: 더워도 작업복 단추를 풀면 안 돼요. 그러면 위험하니까 얼른 잠그세요.
   အိုက်လည်း အလုပ်ဝတ်စုံကြယ်သီးဖြုတ်ထားလို့ မရဘူး။ အဲဒီလိုဆို အန္တရာယ်များတဲ့အတွက် မြန်မြန်တပ်ထားပါ။

정답 1. ① 2. ④ 3. ① 4. ③ 5. ④



### 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်




1. 대화를 듣고 질문에 알맞은 것을 고르십시오.
   စကားပြောကို နားထောင်ပြီး မေးခွန်းနဲ့ ကိုက်ညီတာကို ရွေးပါ။

   남자는 왜 작업복을 바꾸고 싶어 합니까?
   ယောကျ်ားလေးက ဘာကြောင့် အလုပ်ဝတ်စုံကို လဲချင်တာလဲ။

   ① 작업복이 커서 ② 사이즈가 없어서 ③ 작업복이 찢어져서 ④ 작업복이 오래돼서

### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

남: 반장님, 일하다가 작업복이 찢어졌어요. ဆရာ၊ အလုပ်လုပ်ရင်းနဲ့ အလုပ်ဝတ်စုံ ပြဲသွားတယ်။
여: 그래요? 내가 새 걸로 신청해 놓을게요.
   ဟုတ်လား။ ငါ အသစ်တစ်စုံ လျှောက်ထားလိုက်မယ်။
남: 이왕이면 조금 큰 사이즈로 신청해 주시면 좋겠습니다.
   လျှောက်လက်စနဲ့ နည်းနည်း ဆိုဒ်အကြီး လျှောက်ပေးစေချင်ပါတယ်။
여: 알겠어요. 사이즈가 어떻게 되지요? သိပါပြီ၊ ဆိုဒ်က ဘယ်လောက်လဲ။

정답 1. ③



မေးခွန်း ၁ နဲ့ ၂ ကတော့ ပုံကို အကောင်းဆုံး ပုံဖော်ပေးနိုင်သော အသုံးကို ရွေးပေးရမှာပါ။
သင်ထားသော အသုံးတွေကို စဉ်းစားပြီး ကြိုးစားဖြေကြည့်ပါ။

[1~2] 다음 그림을 보고 맞는 문장을 고르십시오. အောက်ပါ ပုံကို ကြည့်ပြီး မှန်သော စာကြောင်းကို ရွေးပါ။

1. 

① 단추를 풀고 있습니다. ② 넥타이를 풀고 있습니다.
③ 신발끈을 묶고 있습니다. ④ 지퍼를 내리고 있습니다.

2. 


① 반말을 합니다. ② 크게 말합니다.
③ 천천히 말합니다. ④ 존댓말을 합니다.



အောက်ပါ မေးခွန်းတွေကတော့ အလုပ်နေရာအလိုက် ဝတ်စုံတွေနဲ့ ပတ်သက်တာတွေပါ။
သင်ထားတာတွေကို အသုံးချပြီး ကွက်လပ်ဖြည့်ပါ။

[3~4] 빈칸에 들어갈 가장 알맞은 것을 고르십시오. ကွက်လပ်မှာ ဖြည့်ရန် အသင့်တော်ဆုံးကို ရွေးပါ။

3. 직장에서는 항상 ________ 옷을 입어야 합니다.
အလုပ်ခွင်ထဲမှာတော့ အမြဲတမ်း သပ်ရပ်စွာ အဝတ်အစားကို ဝတ်ရပါမယ်။

① 단정하게 ② 불쾌하게 ③ 조용하게 ④ 재미있게

4. 작업복을 입을 때는 지퍼를 목까지 ________ 합니다.
အလုပ်ဝတ်စုံကို ဝတ်တဲ့အခါ ဇစ်ကို လည်ပင်းအထိ ဆွဲတင်ရပါမယ်။

① 묶어야 ② 올려야 ③ 입어야 ④ 풀어야

5. 다음 글을 읽고 물음에 답하십시오. စာပိုဒ်ကို ဖတ်ပြီး မေးခွန်းများ ဖြေပါ။

직장 생활을 할 때는 단정한 옷차림을 해야 합니다. 사무직은 양복이나 정장을 입고 넥타이를 맵니다. 생산직에서도 근무복이나 작업복을 입고 점퍼의 지퍼는 꼭 올립니다. 단정하고 깔끔한 옷차림은 가장 기본적인 직장 예절입니다.
အလုပ်ခွင် ဝင်တဲ့အခါ သပ်ရပ်သော ဝတ်စားဆင်ယင်မှုကို လုပ်ရမယ်။ ရုံးအလုပ်ကတော့ အနောက်တိုင်းဝတ်စုံကို ဝတ်ပြီး နက်ခ်တိုင် စည်းရတယ်။ ကုန်ထုတ်လုပ်မှု အပိုင်းမှာတော့ အလုပ်ဝတ်စုံ၊ ယူနီဖောင်းကို ဝတ်ပြီး အင်္ကျီရဲ့ ဇစ်ကို သေချာ ပိတ်ရတယ်။ သပ်ရပ်ပြီး သေသပ်သော ဝတ်စားဆင်ယင်မှုကတော့ အခြေခံအကျဆုံးသော လုပ်ငန်းခွင် ယဉ်ကျေးမှုပဲ ဖြစ်ပါတယ်။

글의 내용과 맞지 않는 것은 무엇입니까? စာပိုဒ်ရဲ့ အကြောင်းအရာနဲ့ မညီတာက ဘာလဲ။

① 옷차림은 직장 예절입니다. ② 단정한 옷차림을 해야 합니다.
③ 생산직 직원은 정장을 주로 입습니다. ④ 사무직 직원은 양복을 입고 넥타이를 맵니다.

정답 1. ② 2. ④ 3. ① 4. ② 5. ③



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

1. 다음 표지를 맞게 설명한 것을 고르십시오.
အောက်ပါ ပုံနဲ့ကိုက်ညီအောင် ရှင်းပြထားတဲ့ ဟာကို ရွေးပါ။



① 안전모를 쓰십시오.
② 안전화를 신으십시오.
③ 안전복을 입으십시오.
④ 안전 장갑을 착용하십시오.

[2~3] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်မှာ ဖြည့်ရန် အသင့်တော်ဆုံးကို ရွေးပါ။

2.

스트레스를 받거나 잠을 잘 못 자면 두통이 생길 수 있습니다. 그래서 쌓인 스트레스는 꼭 ________합니다.
စိတ်ဖိစီးမှု များတာပဲဖြစ်ဖြစ် အိပ်လို့မပျော်ရင် ခေါင်းကိုက်တတ်တယ်။ ဒါကြောင့် ပုံနေတဲ့ စိတ်ဖိစီးမှုကို မဖြစ်မနေ ဖြေဖျောက်ရပါမယ်။

① 받고 ② 풀고 ③ 받아야 ④ 풀어야

3.

어젯밤에 갑자기 배가 너무 아팠습니다. 그래서 같이 사는 친구와 급하게 ________로 갔습니다.
မနေ့ညက ရုတ်တရက် အရမ်းနေမကောင်းဖြစ်ခဲ့တယ်။ ဒါကြောင့် အတူနေတဲ့ သူငယ်ချင်းနဲ့ အမြန် အရေးပေါ်ကို သွားခဲ့တယ်။

① 상담실 ② 사무실 ③ 응급실 ④ 휴게실

정답 1. ② 2. ④ 3. ③



## 발음 အသံထွက်




### သေချာ နားထောင်ပြီး လိုက်ဆိုပါ။

**နှစ်လုံးတွဲအသတ်ရဲ့ အနောက်မှာ ဗျည်းမဲ့စကားလုံး ရှိရင် အသတ်နှစ်လုံးထဲက ပထမတစ်လုံးက အသတ်သံဖြစ်ပြီး ဒုတိယတစ်လုံးက ဗျည်းမဲ့နေရာကို ဝင်ရပါတယ်။**

(1) 앉아요, 닭에, 값이
(2) 짧아서, 읽어요, 넓어요
(3) 시장은 물건 값이 싸요. / 한국어 책을 읽어요.




# 출입문을 꼭 닫읍시다
အဝင်အထွက်တံခါးကို သေချာ ပိတ်ကြရအောင်။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** အဆောင်တွင်း သတိပြုရမည့် အချက်များအသိပေးခြင်း
- □ **သဒ္ဒါ** -(으)ㅂ시다, -는 동안
- □ **ဝေါဟာရနှင့် အသုံးများ** အဆောင်အဲယားကွန်း၊ဘွိုင်လာ
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** ကိုရီးယား လူနေမှုဓလေ့



## 대화 1 စကားပြော ၁






အဆောင်တွင်း သတိပြုရမည့် အချက်များဖြစ်ပါတယ်။ နှစ်ခေါက်နားထောင်ပြီး လိုက်ဆိုပါ။

〈기숙사 생활 규칙〉
<အဆောင်စည်းမျဉ်းစည်းကမ်းများ။>

다음 기숙사 규칙을 잘 지켜 주세요.
အောက်ပါ အဆောင်စည်းမျဉ်းများကို သေချာစွာ လိုက်နာပါ။

1. 방을 깨끗하게 청소합시다.
   အခန်းကို သန့်ရှင်းစွာ သန့်ရှင်းရေးလုပ်ကြစို့။
2. 복도나 계단을 깨끗하게 사용합시다.
   လူသွားလမ်းနဲ့ လှေကားကို သန့်ရှင်းစွာ အသုံးပြုကြစို့။
3. 세탁실과 샤워실을 사용한 후에는 잘 정리합시다.
   အဝတ်လျှော်ခန်းနှင့် ရေချိုးခန်းကို အသုံးပြုပြီးနောက် သေချာ ပြန်ရှင်းလင်းကြစို့။
4. 큰 소리로 떠들지 맙시다.
   အသံကျယ်ကြီးနဲ့ စကားပြောခြင်းမှ ရှောင်ကြဉ်ကြစို့။
5. 기숙사에 외부인을 데리고 오지 맙시다.
   အဆောင်သို့ အပြင်လူခေါ်လာခြင်း မပြုကြရအောင်။
6. 방에서 조리 기구를 사용하지 맙시다.
   အခန်းမှာ ချက်ပြုတ်သော ပစ္စည်းများ အသုံးမပြုကြရအောင်။
7. 외출할 때는 출입문을 꼭 닫읍시다.
   အပြင်ထွက်တဲ့အခါ အဝင်အထွက်တံခါးကို သေချာ ပိတ်ရအောင်။
8. 기숙사 시설물이 파손되면 즉시 관리인에게 보고합시다.
   အဆောင်တွင်း ပစ္စည်းများ ပျက်စီးခဲ့လျှင် ချက်ချင်း ထိန်းသိမ်းရေးမှူးကို အကြောင်းကြားကြစို့။

**데리고 오다 / 데려오다**
ခေါ်လာသည်။
· 내일 생일 파티에 친구를 데리고 와도 돼요?
မနက်ဖြန် မွေးနေ့ ပါတီကို သူငယ်ချင်း ခေါ်လာလို့ ရလား။
· 교실에 강아지를 데리고 오면 안 돼요.
စာသင်ခန်းသို့ ခွေးလေးကို ခေါ်လာလို့ မရပါ။



**즉시** ချက်ချင်း။
ကိစ္စတစ်ခု ဖြစ်ဖြစ်ချင်း အချိန်
· 공항에 도착하면 즉시 저한테 연락해 주세요.
လေဆိပ်သို့ ရောက်ရင် ချက်ချင်း ငါ့ဆီကို ဆက်သွယ်ပါ။



သေချာနားထောင် လိုက်ဆိုပြီးပြီဆိုရင် အောက်က မေးခွန်းတွေ ဖြေကြည့်ကြရအောင်။

1. 기숙사에 외부인을 데리고 와도 돼요? အဆောင်သို့ အပြင်လူ ခေါ်လာလို့ ရလား။
2. 기숙사 시설물이 파손되면 누구에게 보고해요?
   အဆောင်တွင်းရှိ ပစ္စည်းများ ပျက်စီးခဲ့လျှင် ဘယ်သူ့ကို အကြောင်းကြားရမလဲ။

정답 1. 아니요, 외부인을 데리고 오면 안 돼요. 2. 관리인에게 보고해요.




## 어휘 1 ဝေါဟာရ ၁ 기숙사 အဆောင်



အဆောင်တွင် ရှိတတ်သော ပစ္စည်းများကို ရှာဖွေလေ့လာကြည့်ရအောင်။

| | | | |
|---|---|---|---|
|  |  |  |  |
| 방<br>အခန်း | 복도<br>လူသွားလမ်းစင်္ကြံ | 계단<br>လှေကား | 출입문<br>ဝင်ထွက်တံခါး |

- 기숙사 **방** 안에는 침대와 책상이 있어요. အဆောင်ခန်းအတွင်းမှာတော့ ကုတင်နှင့်စားပွဲရှိတယ်။
- **복도**에서 큰 소리로 떠들면 안 돼요. လူသွားလမ်း စင်္ကြံမှာ အသံကျယ်ကျယ်နဲ့ စကား မပြောရပါဘူး။

| | | | |
|---|---|---|---|
|  |  |  |  |
| 세탁실<br>အဝတ်လျှော်ခန်း | 샤워실<br>ရေချိုးခန်း | 룸메이트<br>အခန်းဖော် | 관리인<br>ထိန်းသိမ်းရေးမှူး |



- **세탁실**에서 옷을 빨 수 있어요. အဝတ်လျှော်ခန်းမှာ အဝတ်လျှော်လို့ ရလား။
- **샤워실**을 깨끗하게 사용하세요. ရေချိုးခန်းကို သန့်ရှင်းစွာ အသုံးပြုပါ။



အပေါ်ကဝေါဟာရတွေကို မကြည့်ဘဲ အောက်ပါ ကွက်လပ်များဖြည့်ပါ။

1. 그림에 맞는 표현을 〈보기〉에서 골라 넣으세요.
   ပုံနဲ့ ကိုက်ညီသော အသုံးကို (ဥပမာ) ထဲက ရွေးထည့်ပါ။

1) ________ 2) ________ 3) ________ 4) ________ 5) ________ 6) ________

**보기**
방
복도
계단
출입문
세탁실
샤워실

정답 1) 방 2) 세탁실 3) 계단 4) 출입문 5) 복도 6) 샤워실

## 문법 1 သဒ္ဒါ ၁ −(으)ㅂ시다




အသက်အရွယ်တူ သူငယ်ချင်း အချင်းချင်း တစ်စုံတစ်ခုကို အတူတူ လုပ်ဆောင်ရန် တိုင်ပင်နှိုးဆော်တဲ့အခါမှာ သုံးသော အသုံးဖြစ်သည်။ ကြိယာနောက်မှာ လိုက်ပြီး မိမိထက် အသက်ကြီးသော၊ ရာထူးကြီးသော သူများနှင့် စကားပြောသည့်အခါ သုံးရန်မသင့်ပါ။

| 자음 (ဗျည်း) → **−읍시다** | 모음 (သရ), 자음 (ဗျည်း) 'ㄹ' → **−ㅂ시다** |
|---|---|
| 먹다 → 먹**읍시다**<br>닫다 → 닫**읍시다** | 하다 → **합시다**<br>가다 → **갑시다**<br>만들다 → **만듭시다** |

- 가: 버스가 안 오네요. 택시를 탈까요? ဘတ်စကားက မလာဘူးနော်။ တက္ကစီစီးရင်ကောင်းမလား။
  나: 아니요, 조금 더 **기다립시다**. ဟင့်အင်း။ နည်းနည်း ထပ်စောင့်ကြည့်ရအောင်။
- 가: 기숙사 대청소 언제 할까요? အဆောင် သန့်ရှင်းရေး ဘယ်တော့ လုပ်မလဲ။
  나: 이번 주말에 쉬니까 이번 주에 **합시다**.
  ဒီအပတ် စနေ၊ တနင်္ဂနွေ ပိတ်ရက်မှာ နားတဲ့အတွက် ဒီအပတ်ထဲမှာ လုပ်ရအောင်။
- 외출할 때는 출입문을 꼭 **닫읍시다**. အပြင်ထွက်တဲ့အခါ အဝင်အထွက်တံခါးကို သေချာ ပိတ်ကြရအောင်။



'−(으)ㅂ시다' အသုံးကို နားလည်ပြီလား။ အောက်ပါ စာကြောင်းတွေကို ဖတ်ပြီး အမှား၊ အမှန် မေးခွန်းလေးတွေ ဖြေကြည့်ပါ။

2. 문장을 읽고 맞으면 ○, 틀리면 X에 표시하세요.
   စာကြောင်းကို ဖတ်ပြီး မှန်ရင် O, မှားရင် X မှာ အမှတ်အသားလုပ်ပေးပါ။

1) 복도에 물건을 두지 맙시다. ○ X

2) 오늘 계단을 청소하려고 합시다. ○ X

3) 제가 먼저 샤워실을 사용합시다. ○ X

4) 기숙사에 친구를 데리고 오지 맙시다. ○ X

5) 시설물이 파손되면 관리인에게 이야기합시다. ○ X

정답 1) O 2) X 3) X 4) O 5) O

### 유용한 표현 အသုံးဝင်သော အသုံးအနှုန်းများ

**한턱내세요. တစ်ဝိုင်းကျွေးရမယ်နော်။**

가: 반장님, 승진 축하해요. **한턱내세요.** ဆရာရေ။ ရာထူးတိုးတာ ဂုဏ်ယူပါတယ်။ **တစ်ဝိုင်းကျွေးရမယ်နော်။**
나: 고마워요. 그럴게요. ကျေးဇူးပဲဗျာ။ ကျွေးပါ့မယ်။



## 대화 2 စကားပြော ၂

Track 116



ရီဟာန်က အဆောင်ထိန်းသိမ်းရေးမှူးကို လျှပ်စစ် အပူပေးစက် အသုံးပြုပုံနဲ့ ပတ်သက်ပြီး မေးနေတယ်။

리 한 아저씨, 휴게실이 좀 추운데 전기난로를 켜도 돼요?
ဦးလေးကြီး၊ နားနေခန်းက နည်းနည်းအေးနေလို့ လျှပ်စစ် အပူပေးစက် ဖွင့်လို့ ရလား။

관리인 그럼요. 켜도 되죠. 휴게실에 있는 동안 잘 사용하고 나갈 때는 꼭 스위치를 끄고 플러그도 뽑아 놓으세요.
ဒါပေါ့၊ ဖွင့်လို့ ရတာပေါ့။ နားနေခန်းမှာ ရှိနေတုန်း သေချာ အသုံးပြုပြီး ပြန်ထွက်သွားတဲ့အခါမှာတော့ ခလုတ်ကို ဆက်ဆက် ပိတ်ပြီး ပလပ်ပါ ဖြုတ်ထားခဲ့ပါ။

리 한 네, 그럴게요.
ဟုတ်ကဲ့၊ အဲဒီလို လုပ်ပါ့မယ်။

관리인 지난번에는 아무도 없는데 난로가 켜 있어서 깜짝 놀랐어요.
ပြီးခဲ့တဲ့ တစ်ခေါက်က ဘယ်သူမှလည်း မရှိဘဲ အပူပေးစက်ကြီးက ပွင့်နေတော့ ရုတ်တရက် လန့်သွားတာပဲ။

리 한 그래요? 큰일 **날 뻔했네요**. 제가 다른 친구들한테도 **신경 쓰라고** 얘기할게요.
ဟုတ်လား၊ ပြဿနာ အကြီးကြီး တက်တော့မလို ဖြစ်သွားတာပဲ။ ကျွန်တော်လည်း တစ်ခြားသူငယ်ချင်းတွေကို ဂရုစိုက်ဖို့ ပြောလိုက်ပါ့မယ်။

**-(으)ㄹ 뻔했다**
**တော့မလို့ ဖြစ်သွားတယ်။**

တစ်စုံတစ်ခု ဖြစ်ကာနီး အနေအထားကို ရောက်သွားတာကို ပြောချင်တဲ့အခါ သုံးတယ်။

- 늦잠을 자서 회사에 지각할 뻔했어요.
  အိပ်ယာထ နောက်ကျပြီး အလုပ်နောက်ကျတော့မလို့ ဖြစ်သွားတယ်။
- 아침에 버스를 놓칠 뻔했어요.
  မနက်က ဘတ်စ်ကား လွတ်တော့မလို့ ဖြစ်သွားတယ်။

**신경(을) 쓰다**
**အာရုံစိုက်သည်၊ ဂရုစိုက်သည်။**

- 가: 외출할 때는 전기난로를 꼭 끄세요.
  အပြင်ထွက်တဲ့အခါ လျှပ်စစ် အပူပေးစက်ကို ဆက်ဆက် ပိတ်ပါ။
  나: 네, 신경 쓸게요.
  ဟုတ်ကဲ့၊ ဂရုပြုပါ့မယ်။
- 면접을 볼 때는 옷차림에 신경 써야 해요.
  အင်တာဗျူး ဖြေတဲ့အခါ အဝတ်အစားကို အာရုံစိုက်ရတယ်။



ဒီတစ်ခါ ရီဟာန်နဲ့ ဝန်ထမ်းတို့ရဲ့ စကားကို လိုက်ပြောပါ။ သေချာနားထောင်ပြီး လိုက်ဆိုပြီးရင် အောက်က မေးခွန်းတွေ ဖြေကြည့်ကြရအောင်။

1. 휴게실 전기난로를 켜도 돼요?
   နားနေခန်းလျှပ်စစ်အပူပေးစက်ကို ဖွင့်လို့ ရလား။
2. 휴게실에서 나갈 때는 전기난로를 어떻게 해야 해요?
   နားနေခန်းမှ ထွက်သွားတဲ့အခါ လျှပ်စစ် အပူပေးစက်ကို ဘယ်လိုလုပ်ခဲ့ရမလဲ။

정답 1. 네, 켜도 돼요. 2. 스위치를 끄고 플러그를 뽑아 놓아야 해요.



## 어휘 2 စကားပြော ၂

### 냉난방기 အဲယားကွန်းနှင့် အပူပေးစက်



အဲယားကွန်းနှင့် အပူပေးစက် အမျိုးအစားများကို ရှာဖွေလေ့လာကြည့်ရအောင်။



냉방
လေအေးပေးစက်



에어컨
အဲယားကွန်း



선풍기
ပန်ကာ



난방
ဟီတာ၊အပူပေးစက်



전기난로
လျှပ်စစ်အပူပေးစက်၊ဟီတာစက်



전기장판
လျှပ်စစ် အပူပေး အိပ်ရာခင်း၊ဟီတာဖျာ




스위치를 켜다
ခလုတ်ဖွင့်သည်။




스위치를 끄다
ခလုတ်ပိတ်သည်။



플러그를 꽂다
ပလပ်တပ်သည်။

플러그를 뽑다
ပလပ်ဖြုတ်သည်။



အပေါ်ကဝေါဟာရတွေကို မကြည့်ဘဲအောက်ပါ စာကြောင်းများကိုဖြည့်စွက်ပါ။

1. 그림에 맞는 표현을 〈보기〉에서 골라 넣으세요.
ပုံနဲ့ ကိုက်ညီသော အသုံးကို(ဥပမာ)ထဲမှ ရွေးထည့်ပါ။




정답 1) 에어컨 2) 스위치 3) 플러그 4) 선풍기 5) 전기난로



## 문법 2 သဒ္ဒါ ၂ -는 동안




ကြိယာရဲ့လှုပ်ရှားမှုကို လုပ်နေတဲ့အချိန်ကာလအတွင်းကို ဖော်ပြရာမှာ သုံးတယ်။ သူ့ကို '-에' နဲ့လည်း အတူ တွဲသုံးနိုင်တယ်။ ရှေ့က စာကြောင်းနဲ့ နောက်ကစာကြောင်းရဲ့ အကြောင်းအရာ လုံးဝ မတူလည်း ရတယ်။ သူ့ကို အချိန်ပြနာမ်နဲ့လည်း တွဲသုံးနိုင်တယ်။

· 가: 이반 씨를 **기다리는 동안** 같이 커피를 마실까요?
  ရီဟန်ကို စောင့်နေတဲ့အချိန်တွင်းမှာ အတူ ကော်ဖီသောက်မလား။
  나: 그럽시다. အဲလိုလုပ်ရအောင်။
· 가: 냉방을 **하는 동안** 창문을 열면 안 돼요.
  လေအေးပေးစက် ဖွင့်ထားတဲ့ အချိန်မှာ ပြတင်းပေါက် တံခါးတွေ ဖွင့်ထားလို့ မရဘူး။
  나: 지금 창문을 닫을게요. အခုပဲပြတင်းပေါက် ပိတ်လိုက်ပါ့မယ်။
· 가: 밖에 나가 **있는 동안에** 전기장판을 꼭 끄세요.
  အပြင်သွားနေတော့ အချိန်အတွင်းမှာ လျှပ်စစ်အိပ်ရာခင်းကို သေချာပိတ်ပါ။
  나: 네, 알겠습니다. ဟုတ်ကဲ့၊ သိပါပြီ။



### 비교해 보세요 နှိုင်းယှဉ်ကြည့်ပါ။

✓ **'-는 동안' နဲ့ '-(으)ㄹ 때'**

'-는 동안' နဲ့ (ကြိယာ) '-(으)ㄹ 때' ကတော့ အရှေ့က ကံ ပြုသူက ဘယ်လို အပြုအမူကို လုပ်နေသော အချိန်မှာ နောက်က အပြုအမူက ဖြစ်ပေါ်တာကို ဖော်ပြတယ်။
'-는 동안' ကတော့ နာမဝိသေသနနဲ့ မပေါင်းပေမဲ့ '-(으)ㄹ 때' ကတော့ နာမဝိသေသနနဲ့ ပေါင်းနိုင်တယ်။
နောက်ပြီး '-는 동안' ကတော့ ကိစ္စ တစ်ခုခု ဖြစ်ပေါ်နေသော အချိန် တစ်ခုလုံးကို ဖော်ပြပေမဲ့ '-(으)ㄹ 때' ကတော့ ကိစ္စ တစ်ခုခု ဖြစ်ပေါ်သော အဲဒီ အချိန်ကို ဖော်ပြတယ်။

· 힘드는 동안에는 쉬세요. (X)
· **힘들 때는** 쉬세요. (O)



'-는 동안' ကို နားလည်ပြီလား။ စကားပြောကို ဖတ်ပြီး အဖြေမှန်ကို ရွေးပါ။

2. 대화를 읽고 맞는 대답을 고르세요. စကားပြောကို ဖတ်ပြီး အဖြေမှန်ကို ရွေးပါ။

1) 가: 선풍기를 켜고 자면 안 돼요. ပန်ကာကို ဖွင့်ပြီး အိပ်လို့မရဘူး။
   나: ____________________.

① 네, 다 사용하면 스위치를 꼭 끄세요　② 네, 자는 동안에는 사용하지 않을게요

2) 가: 전기장판 좀 빌려줄 수 있어요? လျှပ်စစ်အပူပေးအိပ်ရာခင်း ခဏငှားပေးလို့ရမလား။
   나: ____________________.

① 그럼요. 제가 고향에 있는 동안 빌려줬어요　② 그럼요. 제가 고향에 가 있는 동안 사용하세요

정답 1) ② 2) ②



## 활동 အသုံးချသင်ခန်းစာများ

휴게실에 있는 공지문입니다. 잘 읽고 질문에 답하세요.
နားနေခန်းမှာ ရှိသော အသိပေးစာ ဖြစ်ပါတယ်။ သေချာ ဖတ်ပြီး မေးခွန်းကို ဖြေပါ။

**〈휴게실을 사용하는 동안 꼭 지켜주세요.〉**
<နားနေခန်း အသုံးပြုနေချိန်မှာ သေချာလိုက်နာပေးပါ။>

1. 휴게실은 공공장소입니다. 다른 사람을 배려합시다.
   နားနေခန်းကတော့ အများပိုင်နေရာဖြစ်ပါတယ်။ တစ်ပါးသူကို စာနာနားလည်ပေးရအောင်။
2. 휴게실은 금연 구역입니다. 담배는 흡연실에서 피웁시다.
   နားနေခန်းကတော့ ဆေးလိပ်မသောက်ရ နယ်မြေဖြစ်ပါတယ်။ ဆေးလိပ်ကို ဆေးလိပ်သောက်ခန်းမှာပဲ သောက်ကြရအောင်။
3. 휴게실은 식당이 아닙니다. 냄새나는 음식물은 식당에서 드세요.
   နားနေခန်းကစားသောက်ခန်းမဟုတ်ပါ။ အနံ့ထွက်သော အစားအသောက်ကိုတော့ စားသောက်ခန်းမှာ စားပါ။
4. 휴게실에서 나갈 때 아무도 없으면 플러그를 뽑고 나갑시다.
   နားနေခန်းမှ ထွက်သွားတဲ့အခါ ဘယ်သူမှမရှိတော့ရင် ပလပ်ကိုဖြုတ်ပြီးမှထွက်သွားပါ။

이용 시간 : 오전 10시 ~ 오후 10시
အသုံးပြုချိန် - မနက် ၁၀နာရီမှ ည ၁၀နာရီအထိ

1. 휴게실의 규칙을 잘 지킨 사람을 모두 고르십시오.
   နားနေခန်းရဲ့ စည်းကမ်းများကို သေချာလိုက်နာသော သူများကိုရွေးပါ။

① 

② 

③

④ 

정답 1. ②, ③

# 한국의 주거 형태

## ကိုရီးယားရဲ့လူနေမှု ပုံစံ

### 아파트 တိုက်ခန်း



한 건물 안에 여러 가구가 독립적으로 살 수 있도록 지은 빌딩형 공동 주택입니다.

အဆောက်အဦ တစ်ခုထဲမှာ မိသားစုပေါင်းများစွာက သီးခြားစီ နေနိုင်အောင် ဆောက်ထားသော အဆောက်အဦ ပုံစံ အတူသုံးအိမ်ရာသဘောမျိုးဖြစ်တယ်။

### 주택 အိမ်



주택은 크게 단독 주택과 공동 주택이 있습니다. 단독 주택은 한 세대가 단독으로 사용하는 구조로 된 주택입니다. 공동주택은 각 세대가 하나의 건축물 안에서 생활을 할 수 있는 구조로 된 주택입니다.

အိမ်ရာကတော့ အဓိကအားဖြင့် သီးသန့်အိမ်ရာနဲ့ အများသုံးအိမ်ရာ ဆိုပြီးရှိပါတယ်။ သီးသန့်အိမ်ရာကတော့ မျိုးဆက်တစ်ဆက်က သီးသန့်အနေနဲ့ အသုံးပြုသောပုံစံနဲ့ ဖွဲ့စည်းထားသောအိမ်ရာဖြစ်ပါတယ်။ အများသုံးအိမ်ရာကတော့ မျိုးဆက်တစ်ဆက်ချင်းစီက အဆောက်အဦ တစ်ခုထဲမှာ စုပေါင်းနေထိုင်နိုင်အောင် ဖွဲ့စည်းထားသောအိမ်ရာဖြစ်ပါတယ်။

### 원룸 တစ်ခန်းစာအိမ်ရာ



방 하나에 생활에 필요한 최소한의 설비를 갖춘 집입니다.

အခန်းတစ်ခန်းမှာ လူနေထိုင်တဲ့အခါမှာ အနည်းဆုံးလိုအပ်လောက်တဲ့ ပစ္စည်းများနဲ့သာ ဖွဲ့စည်းထားသော အိမ်ဖြစ်ပါတယ်။

### 고시원 အပြင်နေအဆောင်




싸게 방을 얻어 생활할 수 있는 건물입니다. 화장실, 부엌 등을 공동으로 사용합니다.

ဈေးသက်သက်သာသာနဲ့ နေလို့ရသောအခန်းများနဲ့ ဖွဲ့စည်းထားသော အဆောက်အဦဖြစ်ပါတယ်။ အိမ်သာ၊ မီးဖိုချောင် စတာတွေကို အများနဲ့အတူ မျှသုံးရတဲ့ နေရာဖြစ်ပါတယ်။



မေးခွန်း ၁နဲ့ ၂ကတော့ မှန်ကန်သော ပုံကို ရွေးပေးရမှာ ဖြစ်ပါတယ်။ နားမထောင်ခင်မှာ ပုံတွေကို သေချာ ကြည့်ထားပါ။

[1~2] 잘 듣고 내용과 관계있는 그림을 고르십시오.
သေချာ နားထောင်ပြီး မှန်ကန်သော ပုံကိုရွေးပါ။




1. ①  ②  ③  ④ 

2. ① 

② 

③  ④ 



မေးခွန်း ၃ကတော့ အဖြေမှန်ရွေး ပုစ္ဆာဖြစ်ပါတယ်။ မေးခွန်း ၄နဲ့ ၅ကတော့ ကြေညာချက်ကို နားထောင်ပြီး အဖြေမှန်ကို ရွေးပေးရမှာ ဖြစ်ပါတယ်။ နားမထောင်ခင်မှာ ရွေးဖို့ ပေးထားတာတွေကို အရင်ဆုံး ဖတ်ထားပါ။

3. 이야기를 듣고 질문에 알맞은 대답을 고르십시오.
အကြောင်းအရာကို နားထောင်ပြီး မေးခွန်းနဲ့ ကိုက်ညီသော အဖြေကို ရွေးပါ။

지금 무슨 문제가 있습니까? အခု ဘာပြဿနာ တက်နေတာလဲ။

① 관리인과 싸웠습니다. ② 선풍기가 없어졌습니다.
③ 에어컨이 고장 났습니다. ④ 휴게실에 에어컨이 없습니다.

[4~5] 하나의 이야기를 듣고 두 개의 질문에 대답하십시오.
အကြောင်းအရာ တစ်ခုကို နားထောင်ပြီး မေးခွန်း နှစ်ခုကို ဖြေပါ။

4. 이 기숙사의 휴게실은 몇 시까지 이용할 수 있습니까?
ဒီ အဆောင်ရဲ့ နားနေခန်းက ဘယ်နနာရီအထိ အသုံးပြုလို့ ရလဲ။

① 밤 8시 ② 밤 10시
③ 밤 11시 ④ 밤 12시

5. 이 기숙사의 규칙을 지키지 않은 사람은 누구입니까?
ဒီ အဆောင်ရဲ့ စည်းမျဉ်းစည်းကမ်းတွေကို မလိုက်နာတာ ဘယ်သူလဲ။

① 흡연실에서 담배를 피운 지훈 ② 기숙사에 고향 친구를 초대한 건우
③ 기숙사 방에서 김밥을 먹은 투안 ④ 기숙사 휴게실에서 커피를 마신 모니카

## 듣기 대본 စာသား

1. 남: 밤에는 큰 소리로 떠들지 마세요. ညဘက်မှာ အသံကျယ်ကြီးနဲ့ စကားမပြောပါနဲ့။
2. 여: 난로를 사용한 후에는 반드시 플러그를 뽑아야 합니다.
   လေပူပေးစက်ကို အသုံးပြုပြီးရင် ပလပ်ကို ဆက်ဆက် ဖြုတ်ခဲ့ပါ။
3. 남: 아유~ 더워. 휴게실 에어컨이 또 고장 났네요.
   ဟူး၊ ပူလိုက်တာ။ နားနေခန်းအဲယားကွန်းက ထပ်ပြီးပျက်ပြန်ပြီနော်။
   여: 그래요? 날씨가 많이 더워져서 냉방이 안 되면 힘든데…….
   ဟုတ်လား၊ ရာသီဥတုက အရမ်းပူလာပြီး လေအေးပေးစက်က မရရင်တော့ ပြဿနာပဲ။
   남: 그러게 말이에요. 선풍기라도 가지고 올까요? အဲဒါပြောတာပေါ့။ ပန်ကာလေးပဲဖြစ်ဖြစ် ယူလာပေးရမလား။
   여: 네, 그럼 부탁해요. 저는 얼른 관리인 아저씨에게 이야기하고 올게요.
   ဟုတ်ကဲ့၊ ဒါဆို အားကိုးပါရစေနော်။ ကျွန်တော်ကတော့ အဆောင်ထိန်းသိမ်းရေးမှူးဆီ မြန်မြန်သွားပြီး ပြောပြီး ပြန်လာခဲ့မယ်။

4-5.

남: 관리실에서 알려드립니다. 요즘 기숙사에 규칙을 지키지 않는 사람들이 많은데 모두 신경 써 주세요. 규칙을 다시 말씀 드릴 테니까 잘 듣고 꼭 지켜주세요. 먼저, 담배를 피울 때는 흡연실을 이용해 주시기 바랍니다. 또, 방에서 조리 기구를 사용하면 안 되고요. 외부인을 기숙사에 데리고 올 수 없습니다. 마지막으로 휴게실 이용 시간은 밤 10시까지니까 꼭 지켜주십시오.
ထိန်းသိမ်းရေးရုံးမှ အသိပေးကြေညာအပ်ပါတယ်ယ်။ အခုတလော အဆောင် စည်းကမ်းကို မလိုက်နာတဲ့ သူတွေများလာတဲ့အတွက် အားလုံး ဂရုပြုလိုက်နာပေးကြပါ။ စည်းကမ်းများကို ထပ်မံ ပြောပြပေးမှာ ဖြစ်တဲ့အတွက် သေချာ နားထောင်ပြီး မဖြစ်မနေ လိုက်နာပေးကြပါ။ အရင်ဆုံး၊ ဆေးလိပ်သောက်တဲ့အခါ ဆေးလိပ်သောက်ဖို့ သတ်မှတ်ထားသော အခန်းကို အသုံးပြုပေးကြပါ။ နောက်ပြီး၊ အခန်းထဲမှာ မီးဖိုချောင်သုံး ပစ္စည်းများ အသုံးပြုခြင်းမှ ရှောင်ကြဉ်ပါ။ အပြင်လူကို အဆောင်တွင်း ခေါ်လာမှု မပြုကြပါရန်နဲ့ နောက်ဆုံး တစ်ချက်ကတော့ နားနေခန်း အသုံးပြုချိန် ည ၁၀ နာရီအထိဆိုတာကို သေချာစွာ လိုက်နာပေးပါရန် အသိပေး ကြေညာအပ်ပါတယ်။

정답 1. ① 2. ③ 3. ③ 4. ② 5. ②



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန် L-37

1. 대화를 듣고 질문에 알맞은 것을 고르십시오.
   စကားပြောကို နားထောင်ပြီး မေးခွန်းနဲ့ ကိုက်ညီသော အဖြေကို ရွေးပါ။

   어떤 문제가 있습니까? ဘာပြဿနာ ရှိလို့လဲ။

   ① 에어컨을 고칠 수 없다. ② 기숙사에 휴게실이 없다.
   ③ 수리 센터 연락처를 모른다. ④ 휴게실 에어컨이 고장 났다.

## 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

남: 반장님, 기숙사 휴게실에 냉방이 전혀 안 돼요. ဆရာမ၊ အဆောင်နားနေခန်းမှာ လေအေးလုံးဝမရဘူး။
여: 그래요? 에어컨에 문제가 생겼나 보네요. ဟုတ်လား၊ အဲယားကွန်းမှာ ပြဿနာရှိတာထင်တယ်။
남: 제가 한번 고쳐 볼까요? ကျွန်တော်တစ်ချက် ပြင်ကြည့်လိုက်ရမလား။
여: 아니요, 먼저 수리 센터에 연락해 보는 게 좋겠어요.
ဟင့်အင်း၊ အရင်ဆုံး စက်ပြင်ဌာနကို ဆက်သွယ်ကြည့်တာ ကောင်းလိမ့်မယ်။

정답 1. ④



မေးခွန်း ၁နဲ့ ၂ကတော့ ပုံကိုကြည့်ပြီး ကိုက်ညီသော စာလုံး၊ စာကြောင်းကို ရွေးပေးရမှာ ဖြစ်ပါတယ်။ သင်ယူထားသော စာလုံးတွေကို သုံးပြီး အဖြေမှန်ကို ရွေးပါ။

[1~2] 다음 그림을 보고 맞는 단어나 문장을 고르십시오.
အောက်ပါ ပုံကို ကြည့်ပြီး မှန်ကန်သော စာလုံး၊ စာကြောင်းကို ရွေးပါ။

1.



① 에어컨 ② 세탁기
③ 냉장고 ④ 선풍기

2.




① 스위치를 켜고 있습니다.
② 스위치를 끄고 있습니다.
③ 플러그를 꽂고 있습니다.
④ 플러그를 뽑고 있습니다.



မေးခွန်း ၃နဲ့ ၄ကတော့ စကားပြောအတွက် သင့်တော်သော စာလုံးကို ရွေးပေးရမှာ ဖြစ်ပါတယ်။ မေးခွန်း ၅ကတော့ စာပိုဒ်ကို ဖတ်ပြီး မေးခွန်းကို ဖြေပေးရမှာ ဖြစ်ပါတယ်။ သင်ထားတာတွေကို အသုံးချပြီး မေးခွန်းများကို ဖြေပါ။

[3~4] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်ထဲ ဖြည့်ရန် အသင့်တော်ဆုံးကို ရွေးပါ။

3.
가: 에어컨은 언제부터 사용할 수 있어요? အဲယားကွန်းကို ဘယ်အချိန်က စပြီး အသုံးပြုလို့ ရမလဲ။
나: 에어컨 같은 ________ 시설은 6월 말부터 사용할 수 있어요.
အဲယားကွန်းလိုမျိုး လေအေးပေးစနစ်ကိုတော့ ဇွန်လပိုင်းကုန်လောက်က စပြီး အသုံးပြုနိုင်ပါတယ်။

① 난방 ② 냉방 ③ 선풍기 ④ 전기장판

4.
가: 주말에 같이 계단을 청소할까요? ဝိတ်ရက်မှာ အတူ လှေကား သန့်ရှင်းရေးလုပ်မလား။
나: 네, 그래요. 같이 ________________.
ဟုတ်ကဲ့၊ လုပ်မယ်။ အတူတူ သန့်ရှင်းရေး လုပ်ရအောင်။

① 청소합니다 ② 청소합시다 ③ 청소했습니다 ④ 청소해야 합니다

5. 다음 글을 읽고 물음에 답하십시오. စာပိုဒ်ကို ဖတ်ပြီး မေးခွန်းများ ဖြေပါ။

기숙사는 여러 사람이 함께 생활하는 곳입니다. 그러니까 서로 예의를 지키고 다른 사람에게 피해를 주지 않아야 합니다. 늦은 시간에 시끄럽게 떠들지 마십시오. 그리고 시설도 깨끗하게 사용해야 합니다. 샤워실과 세탁실은 항상 깨끗하게 관리합시다.

အဆောင်ဆိုတာကတော့ လူအများနဲ့ အတူတူ နေရတဲ့ နေရာဖြစ်ပါတယ်။ အဲဒီအတွက်ကြောင့် အပြန်အလှန် လေးလေးစားစား ဆက်ဆံပြီး တစ်ခြားသူတွေကို စိတ်အနှောင့်အယှက် မဖြစ်စေအောင် စောင့်ထိန်းဖို့ လိုအပ်ပါတယ်။ ညဘက်မှာ ဆူဆူညံညံ လုပ်လို့မရဘူး။ နောက်ပြီး ပစ္စည်းတွေကိုလည်း သန့်ရှင်းသပ်ရပ်စွာ အသုံးပြုကြရပါတယ်။ ရေချိုးခန်းနဲ့ အဝတ်လျှော်ခန်းကိုလည်း အမြဲတမ်း သန့်ရှင်းနေအောင် အသုံးပြုကြရအောင်။

글의 내용과 맞지 않는 것은 무엇입니까? စာပိုဒ်ရဲ့ အကြောင်းအရာနဲ့ မညီတဲ့ ဟာက ဘာလဲ။
① 서로 배려해야 합니다. ② 시설을 아껴 써야 합니다.
③ 시끄럽게 떠들면 안 됩니다. ④ 샤워실은 관리인이 청소합니다.

정답 1. ① 2. ② 3. ② 4. ② 5. ④

## 듣기 대본 စာသား

1. ① 여: 증인입니다. လူသက်သေဖြစ်ပါတယ်။ ② 여: 증거입니다. သက်သေပစ္စည်းဖြစ်ပါသည်။
   ③ 여: 피해자입니다. နစ်နာသူဖြစ်ပါတယ်။ ④ 여: 가해자입니다. ကျူးလွန်သူဖြစ်ပါသည်။
2. ① 남: 음란물을 보고 있습니다. ညစ်ညမ်းသောပစ္စည်းတွေကို ကြည့်နေသည်။
   ② 남: 동영상을 보고 있습니다. ညစ်ညမ်းသော ဗွီဒီယိုကို ကြည့်နေသည်။
   ③ 남: 성적 농담을 하고 있습니다. လိင်ပိုင်းဆိုင်ရာ စနောက်နေသည်။
   ④ 남: 신체 접촉을 하고 있습니다. ထိတွေ့အသားယူနေသည်။
3. ① 여: 강요하고 있습니다. ဖိအားပေးနေသည်။
   ② 여: 신고하고 있습니다. တိုင်ကြားနေသည်။
   ③ 여: 요구하고 있습니다. တောင်းဆိုနေသည်။
   ④ 여: 표현하고 있습니다. ဖော်ပြနေသည်။

4-5. 남: 직장 안에서의 성희롱이 발생했을 때는 정확하게 자신의 생각을 표현해야 합니다. 만일 직접 말하기 어렵다면 편지를 쓰거나 다른 방법으로 자신의 의사를 표현하는 게 좋습니다. 그리고 상대방이 한 말이나 행동을 증명할 수 있는 증거를 모으십시오. 사진을 찍거나 녹음을 하시고, 날짜와 시간, 장소 등을 정확하게 써 놓아야 합니다.
အလုပ်ခွင်ထဲမှာ လိင်ပိုင်းဆိုင်ရာ အသားယူပြောဆိုခံရရင် မိမိသဘောထားကို ပြတ်ပြတ်သားသား ဖော်ပြရမယ်။ အကယ်၍များ ဒဲ့ပြောရ ခက်နေရင် စာရေးပြီးပဲဖြစ်ဖြစ် တစ်ခြားနည်းလမ်းနဲ့ မိမိ သဘောထားကို ဖော်ပြတာ ပိုကောင်းတယ်။ နောက်ပြီး တစ်ဖက်သားရဲ့ စကား၊ အပြုအမူကို သက်သေထူလို့ ရတဲ့ သက်သေကို စုထားပါ။ ဓာတ်ပုံရိုက်ထားတာပဲဖြစ်ဖြစ်၊ အသံသွင်းထားပါ။ နေ့ရက်၊ အချိန်၊ နေရာ စတာတွေပါ တိကျစွာ ရေးထားရပါမယ်။

정답 1. ④ 2. ④ 3. ② 4. ④ 5. ②



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန် L-40

1. 대화를 듣고 질문에 알맞은 것을 고르십시오.
စကားပြောကို နားထောင်ပြီး မေးခွန်းနဲ့ ကိုက်ညီတာကို ရွေးပါ။

여자는 언제 상담을 받을 수 있습니까? မိန်းကလေးက ဘယ်အချိန် ဆွေးနွေးမှု လုပ်မှာလဲ။

① 월요일 오전 ② 월요일 오후 ③ 수요일 오전 ④ 수요일 오후

## 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

남: 여보세요? 거기 상담센터지요? 상담을 받고 싶은데 어떻게 해야 돼요?
ဟယ်လို၊ အဲဒီက ဆွေးနွေးမှု စင်တာကလား။ ဆွေးနွေးမှု လုပ်ချင်လို့ဘယ်လိုလုပ်ရမလဲ။
여: 상담 시간을 예약한 다음에 오시면 돼요. ဆွေးနွေးချိန်ကို အရင်ဆုံး ချိန်းဆိုပြီး လာရင် ရပါတယ်။
남: 그럼, 다음 주 월요일이나 수요일에 상담 받고 싶은데요.
ဒါဆို၊ နောက်အပတ် တနင်္လာနေ့ပဲဖြစ်ဖြစ် ဗုဒ္ဓဟူးနေ့မှာ ဆွေးနွေးမှု လုပ်ချင်ပါတယ်။
여: 월요일은 오전, 오후 모두 안 되고요. 수요일 오후는 비어 있어요. 그때 오세요.
တနင်္လာနေ့ကတော့ မနက်ပိုင်း၊ ညနေပိုင်း အကုန်မရပါဘူး။ ဗုဒ္ဓဟူးနေ့ ညနေကတော့ လွတ်နေပါတယ်။ အဲဒီအချိန် လာခဲ့ပါ။

정답 1. ④



## EPS-TOPIK 읽기 EPS-TOPIK အဖတ် စာမေးပွဲ



မေးခွန်း ၁နဲ့ ၂ကတော့ ပုံကိုကြည့်ပြီး အဖြေမှန်ရွေးပေးရမှာ ဖြစ်ပါတယ်။ သင်ထားသော စာလုံးတွေကို စဉ်းစားပြီး ဖြေကြည့်ပါ။

[1~2] 다음 그림을 보고 맞는 문장을 고르십시오.
အောက်ပါ ပုံကို ကြည့်ပြီး မှန်ကန်သော စာကြောင်းကို ရွေးပါ။

1.



① 증인입니다.
② 증거입니다.
③ 가해자입니다.
④ 피해자입니다.

2.




① 경찰에 신고하고 있습니다.
② 성적 언동을 하고 있습니다.
③ 자신의 의사를 표현하고 있습니다.
④ 부하 직원에게 불이익을 주고 있습니다.



မေးခွန်း ၃နဲ့ ၄ကတော့ စကားပြောအတွက် မှန်ကန်သော ဝေါဟာရကို ရွေးပေးရမှာဖြစ်ပါတယ်။
မေးခွန်း ၅ကတော့ စာကို ဖတ်ပြီး မေးခွန်းဖြေရမှာဖြစ်ပါတယ်။

[3~5] 다음 질문에 답하십시오. အောက်ပါ မေးခွန်းများကို ဖြေပါ။

3. 빈칸에 알맞은 것은 무엇입니까? ကွက်လပ်ထဲ ဖြည့်ရန် မှန်ကန်သောအဖြေက ဘာလဲ။

가: 신체 접촉이나 성적 언동 등의 행동으로 상대방을 불쾌하게 하는 건 큰 잘못이지요?
ခန္ဓာကိုယ်ကို ထိတွေ့ပြီး အသားယူခြင်း၊ လိင်ပိုင်းဆိုင်ရာ ထိပါးပြောဆိုခြင်း စတဲ့ အပြုအမူတွေက တစ်ဖက်သားကို နစ်နာစေသော ကြီးမားသော အပြစ်ဟုတ်တယ် မဟုတ်လား။
나: 그럼요, 그건 ___________에 해당하는 행동이에요.
ဒါပေါ့၊ အဲဒါက မှုဒိန်းမှုမှာ အကျုံးဝင်သော အပြုအမူဖြစ်ပါတယ်။

① 성범죄　② 경범죄　③ 교통 위반　④ 불법 체류

4. 빈칸에 알맞은 것은 무엇입니까? အဖြေမှန်ရွေးပြီး ကွက်လပ်ဖြည့်ပါ။

가: 수루 씨, 제 옆에 앉으세요. ဆုရူ၊ ကျွန်တော့်ဘေးမှာ ထိုင်ပါ။
나: 민수 씨, 이런 거 ___________ 직장 내 성희롱에 해당하는 거 알지요?
မင်ဆူ၊ ဒီလိုကိစ္စက တိုင်ကြားလိုက်ရင် လုပ်ငန်းခွင်တွင်း လိင်ပိုင်းဆိုင်ရာ စော်ကားမှု မြောက်တယ်ဆိုတာကို သိတယ်မဟုတ်လား။

① 강요하면　② 신청하면　③ 신고하면　④ 표현하면

5. 다음 질문에 답하십시오. အောက်ပါ မေးခွန်းဖြေပါ။

직장 내 성희롱은 직장 상사가 직장 내 지위를 이용하거나 업무와 관련하여 다른 근로자에게 성적 언동 등으로 수치심 또는 불쾌감을 느끼게 하는 것입니다. 그리고 성적 언동 등의 요구를 들어주지 않는다는 이유로 고용상 ㉠______________을/를 주는 것을 말합니다.

အလုပ်ခွင်တွင်း လိင်ပိုင်းဆိုင်ရာ စော်ကားပြောဆိုခြင်းဟာ အထက်လူကြီးက လုပ်ငန်းခွင်တွင်း ရာထူးကို အသုံးချတာဖြစ်စေ၊ အလုပ်တာဝန်နှင့် သက်ဆိုင်၍ ဖြစ်စေ အခြား အလုပ်သမားကို လိင်ပိုင်းဆိုင်ရာ ပြုမူ ပြောဆိုခြင်းဖြင့် ရှက်စိတ်၊ မနှစ်မြို့စိတ်ကို ခံစားစေပါတယ်။ ပြီးတော့ လိင်ပိုင်းဆိုင်ရာ ပြုမူ ပြောဆိုမှု စသည်တို့ဟာ တောင်းဆိုမှုကို လက်မခံဘူးဆိုတဲ့ အကြောင်းကြောင့် အလုပ်ခွင်တွင်း ခံစားခွင့်ကို နစ်နာစေတာကို ဆိုလိုပါတယ်။

㉠에 들어갈 알맞은 말을 고르십시오. ㉠ မှာ ဖြည့်ရန် သင့်တော်တာကိုရွေးပါ။

① 책임　② 증거　③ 불이익　④ 불쾌감

정답 1. ② 2. ③ 3. ① 4. ① 5. ③

## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~3] 빈칸에 들어갈 가장 알맞은 것을 고르십시오. ကွက်လပ်တွင် အသင့်တော်ဆုံး အဖြေကို ရွေးထည့်ပေးပါ။

1. 저와 제 친구는 한국 _______을/를 좋아합니다. 저는 불고기를 좋아하고 제 친구는 비빔밥을 좋아합니다.

ကျွန်တော်နှင့် ကျွန်တော့်သူငယ်ချင်းသည် ကိုရီးယား အစားအသောက်ကို ကြိုက်ပါသည်။ ကျွန်တော်ကတော့ အသားဟင်းကို ကြိုက်ပြီးတော့ ကျွန်တော့်သူငယ်ချင်းကတော့ ထမင်းသုပ်ကို ကြိုက်ပါတယ်။

① 음식　② 과일　③ 영화　④ 노래

2. 제 방에 침대하고 책상이 필요합니다. 그래서 내일 _______에 가서 침대하고 책상을 사려고 합니다.

ကျွန်တော့် အခန်းတွင် ကုတင်နှင့် စားပွဲ လိုအပ်ပါတယ်။ ဒါကြောင့် မနက်ဖြန် ပရိဘောဂဆိုင်ကို သွားပြီး ကုတင်နှင့် စားပွဲ ဝယ်မလို့ လုပ်ထားတယ်။

① 서점　② 음식점　③ 가구점　④ 편의점

3. 저는 한국 영화를 보면서 한국어를 공부합니다. _______ 더 쉽고 재미있게 한국어를 배울 수 있습니다.

ကျွန်တော်ကတော့ ကိုရီးယားရုပ်ရှင်ကို ကြည့်ရင်းနဲ့ ကိုရီးယားစကားကို သင်ယူပါတယ်။ အဲ့လိုဆိုရင် ပိုလွယ်ပြီး စိတ်ဝင်တစားနဲ့ ကိုရီးယားစကားကို သင်ယူနိုင်ပါတယ်။

① 그리고　② 그러나　③ 그러면　④ 그런데

정답 1. ① 2. ③ 3. ③

## 발음 အသံထွက်

P-19

### သေချာ နားထောင်ပြီး လိုက်ဆိုပါ။

**ကိုရီးယားဘာသာစကားမှာ ဗျည်းနစ်လုံးဆုံကြရင် အသံပြောင်းပါတယ်။ သံပြတ်နဲ့ နာသံနဲ့ ဆုံရင် သံပြတ်က နာသံဖြစ်သွားပါတယ်။ ဒါပေမဲ့ အသံထွက်တဲ့ တည်နေရာကတော့ မပြောင်းပါဘူး။**

(1) 막내, 국민, 국물, 밥맛
(2) 꽃만, 있는, 먹는, 닫는
(3) 작년에 무엇을 했어요? / 운동 후에는 밥맛이 좋아요.




# 드라이버로 해 보세요

ဝက်အူလှည့်နဲ့ လုပ်ကြည့်ပါ။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက** ကိရိယာပစ္စည်းများနှင့် ပတ်သက်ပြီး လေ့လာခြင်း၊ ကိုင်တွယ်ပုံအဆင့်ဆင့်ကို ရှင်းပြခြင်း
- □ **သဒ္ဒါ** (으)로, -고 있다
- □ **ဝေါဟာရနှင့် အသုံးများ** ကုန်ထုတ်ထုတ်လုပ်ငန်းသုံး လက်ကိုင်ကိရိယာပစ္စည်း၊ ကုန်ထုတ်လုပ်ရေး စက်ပစ္စည်း
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** လုပ်ငန်းသုံး ကိရိယာများ



## 대화 1 စကားပြော ၁






ဘာရုနဲ့ မင်းဆူက စကားပြောနေကြတယ်။ အရင်ဆုံး သူတို့ ပြောနေတာကို နစ်ခေါက် နားထောင်ပြီး လိုက်ဆိုကြည့်ရအောင်။

바루 망치가 아무리 찾아도 없네. 민수 씨, 망치 못 봤어요?
တူကို ဘယ်လောက်ပဲ ရှာရှာ မတွေ့ ဘူး။ မင်းဆူ တူ တွေ့ မိသေးလား။

민수 공구함에 있을 거예요. 찾아보세요.
လက်သမားသေတ္တာထဲမှာ ရှိမှာပေါ့။ ရှာကြည့်လေ။

바루 공구함에 없어서요. 못을 좀 박아야 하는데…….
လက်သမားသေတ္တာထဲမှာ မရှိလို့ပါ။ သံ ရိုက်ရပါမယ်ဆို....

민수 어디 좀 봐요. 그거 나사못이네요. 나사못이라면 드라이버로 해 보세요. 그게 더 편할 거예요. 자, 여기요.
ပြကြည့်ပါဦး။ အဲ့ဒီဟာက မူလီလေ။ မူလီဆို ဝက်အူလှည့်နဲ့ လုပ်ကြည့်ပါ။ အဲ့ဒါက ပိုပြီး သက်တောင့်သက်သာ ရှိလိမ့်မယ်။ ရော့ ဒီမှာ။

바루 어, 고마워요.
အို ကျေးဇူးပါ။

민수 다 쓰면 공구함에 잘 넣으세요.
သုံးပြီးရင် သေတ္တာထဲ ပြန်ထည့်ထားပါ။

> **아무리 ဘယ်လောက်ပဲ**
> - 아무리 전화해도 전화를 안 받아요.
>   ဘယ်လောက်ပဲ ဖုန်းဆက်ဆက် ဖုန်းမကိုင်ဘူး။
> - 아무리 피곤해도 오늘 이 보고서를 다 쓰고 자려고 해요.
>   ဘယ်လောက်ပဲ ပင်ပန်းနေပါစေ ဒီနေ့ ဒီရီပို့ကို အကုန် ရေးပြီးမှ အိပ်မလို့

> **-아서/어서요 လို**
> '-아서/어서' အကြောင်းပြချက်ကို ဖော်ပြသော အသုံးအနှုန်းတွင် '요' ကို နောက်က သုံးပြီး ဝါကျအဆုံး သတ်သည်။
> - 이것 좀 같이 들어 주실래요? 너무 무거워서요.
>   ဒီဟာ တစ်ဆိတ်လောက် အတူတူ မပေးပါလား။ အရမ်း လေးလွန်းလို့ ပါ။
> - 가: 왜 아이스크림을 안 먹어요?
>   ဘာဖြစ်လို့ ရေခဲမုန့် မစားတာလဲ။
>   나: 배가 아파서요.
>   ဗိုက်နာနေလို့ ပါ။



နားထောင်ပြီး လိုက်ဆိုပြီးပြီလား။ ဒါဆို အောက်ပါ မေးခွန်းများကို ဖြေကြည့်ပါ။

1. 바루 씨는 뭘 찾고 있어요? ဘာရုက ဘာကို ရှာနေလဲ။
2. 민수 씨는 바루 씨에게 무엇을 주었어요? မင်းဆူက ဘာရုကို ဘာပေးလိုက်လဲ။

정답 1. 망치를 찾고 있어요. 2. 드라이버를 주었어요.





## 어휘 1 ဝေါဟာရ ၁ 제조업 수공구 ကုန်ထုတ်ရေး လုပ်ငန်းသုံး လက်ကိုင်ကိရိယာ



ကုန်ထုတ်ရေးလုပ်ငန်းမှာ ဘယ်လို လက်ကိုင်ကိရိယာတွေ သုံးလဲဆိုတာ လေ့လာကြရအောင်။






အထက်ပါ ဝေါဟာရတွေကို မကြည့်ဘဲ မေးခွန်းများကို ဖြေကြည့်ပါ။



1. 사진을 보고 알맞은 말을 연결하세요. ပုံများနှင့် သင့်တော်သော စကားလုံးကို ချိတ်ဆက်ပေးပါ။



정답 ① ㉢-ⓒ ② ㉣-ⓑ ③ ㉤-ⓓ ④ ㉡-ⓐ ⑤ ㉠-ⓔ

## 문법 1 သဒ္ဒါ ၁　(으)로

G41-1

တစ်စုံတစ်ခု ပြုလုပ်ရန်အတွက် အသုံးပြုခံရသော ပစ္စည်း၊ နည်းလမ်း စသည်တို့ကို ဖော်ပြရာတွင် သုံးသည်။ နာမ်တွင်သာ အသုံးပြုသည်။

| 자음 (ဗျည်း) + **으로** | 모음 (သရ), 자음 (ဗျည်း) ‘ㄹ’ + **로** |
|---|---|
| 톱**으로** | 망치**로**, 드릴**로** |

- 이 책상은 **나무로** 만들었어요. ဒီ စားပွဲခုံက သစ်သားနဲ့ လုပ်ထားတာပါ။
- **배로** 보내면 요금이 싸요. သင်္ဘောနဲ့ ပို့ရင် ဈေးသက်သာတယ်။
- 가: 그건 **톱으로** 자르면 안 돼요. ဒါကို လွှနဲ့ မဖြတ်ရဘူး။
  나: 그럼 **뭘로** 잘라요? ဒါဆို ဘာနဲ့ ဖြတ်ရမလဲ။

### 비교해 보세요 နှိုင်းယှဉ်ကြည့်ပါ။

**✓ နည်းလမ်းပြ 'ဖြင့်' ‘(으)로’ နဲ့ လားရာပြ သို့ ‘(으)로’**

‘(으)로’ ကို နေရာပြနာမ်ဖြင့် တွဲသုံးပါက ဦးတည်ဘက် သို့မဟုတ် ပန်းတိုင်ကို ဖော်ပြပေးပြီး ရိုးရိုးနာမ်နှင့် တွဲသုံးပါက အသုံးပြုခြင်း ခံရသော ပစ္စည်း၊ နည်းလမ်းများကို ဖော်ပြပေးသည်။

- 일이 끝나면 식당**으로** 오세요.
- 숟가락**으로** 밥을 먹어요.



‘(으)로’ နဲ့ ပတ်သက်ပြီး နားလည်ပြီဆိုရင် အောက်က မေးခွန်းတွေကို ဖြေကြည့်ပါ။

2. 그림을 보고 맞는 대답을 고르세요. ပုံကို ကြည့်ပြီး သင့်တော်သော အဖြေကို ရွေးပေးပါ။

1) 

가: 철사는 무엇으로 끊으면 될까요? သံကြိုးကို ဘာနဲ့ ဖြတ်ရမလဲ။
나: ______________

① 펜치로 끊으세요.　② 망치로 끊으세요.

2) 

가: 전선은 니퍼로 자르면 돼요? မီးကြိုးကို ပလာယာနဲ့ ညှပ်လို့ ရလား။
나: ______________

① 네, 니퍼로 자르세요.　② 네, 톱으로 자르세요.

정답 1) ① 2) ①



ထပ်ပြီး လေ့လာကြရအောင်။ ‘(으)로’ ကို သုံးပြီး အောက်က ဝါကျများကို ဖြည့်ပေးပါ။

1. 가: 못을 박아야 하는데 뭘로 박으면 돼요? သံရိုက်မလို့ ဘာနဲ့ ရိုက်ရင် ရမလဲ။
   나: ______________ 박으세요. တူနဲ့ ရိုက်ပါ။

2. 
   가: 이 나무를 뭘로 자를까요? ဒီ သစ်ကို ဘာနဲ့ ဖြတ်မလဲ။
   나: ______________ 자르세요. လွှနဲ့ ဖြတ်ပါ။

정답 1. 망치로 2. 톱으로



## 대화 2 စကားပြော ၂

Track 128

ထူအန်းနဲ့ စက်ရုံမန်နေဂျာတို့ စကားပြောနေကြပါတယ်။ သူတို့ ပြောနေတာကို အရင်ဆုံး နားထောင်ပြီး လိုက်ဆိုကြရအောင်။

**투 안** 공장장님, 일찍 오셨네요.
ဆရာ၊ ဒီနေ့ စောစော ရောက်နေပါလား။

**공장장** 네, 거래처에서 생각보다 일이 빨리 끝나서요. 새로 들여온 전기 절단기는 문제없어요?
ဟုတ်တယ်၊ ပါတနာကုမ္ပဏီနဲ့ တွေ့တာ ထင်ထားတာထက် အလုပ် မြန်မြန် ပြီးသွားလို့ပါ။ အသစ်ဝင်လာတဲ့ လျှပ်စစ်ဖြတ်စက် ပြဿနာ မရှိဘူးမလား။

**투 안** 네, 아주 잘돼요. 전에 쓰던 것보다 훨씬 부드럽고요.
ဟုတ်၊ အရမ်း အဆင်ပြေပါတယ်။ အရင်က သုံးခဲ့တဲ့ စက်ထက် အများကြီး ညင်သာတယ်။

**공장장** 그래도 위험하니까 조심해서 사용하세요. 아, 그런데 투안 씨, 괜찮으면 리한 씨한테 용접봉 좀 가져다주세요. 아까부터 찾고 있었어요.
ဒါပေမဲ့လည်း အန္တရာယ်များနိုင်တာကြောင့် သတိထားပြီး အသုံးပြုပါ။ အော်.. ဒါနဲ့ ထူအန်း အဆင်ပြေရင် ရီဟန်ဆီ ဝရိန်ချောင်းထုပ် သွားပေးပေးပါလား။ သူ ခုနနေကတည်းက ရှာနေတာ။

**투 안** 그래요? 지금 작업장에서 용접을 하고 있지요? 제가 얼른 가 볼게요.
ဟုတ်လား။ သူ အခု အလုပ်ခွင်ထဲမှာ ဝရိန်ဆော်နေတယ်မလား။ အမြန် သွားပေးလိုက်ပါ့မယ်။

**새로 အသစ**
- 새로 산 차가 멋있네요.
  အသစ် ဝယ်လာတဲ့ ကားက မိုက်တယ်နော်။
- 이번에 집을 새로 샀어요.
  ဒီတခါ အိမ် အသစ် ဝယ်လိုက်တယ်။

**훨씬 အများကြီး**
- 이반 씨의 한국어 실력이 훨씬 좋아졌어요.
  အီဗန်ရဲ့ ကိုရီးယားစကား အရည်အချင်း အများကြီး တိုးတက်လာတယ်။
- 형이 나보다 훨씬 키가 커요.
  အစ်ကိုက ငါ့ထက် အရပ် အများကြီး ပိုရှည်တယ်။



နားထောင်ပြီး လိုက်ပြောကြည့်ပြီးပြီလား။ ဒါဆို အောက်ပါ မေးခွန်းများကို ဖြေကြည့်ပါ။

1. 리한 씨는 무엇을 찾고 있었어요? ရီဟန်က ဘာကို ရှာနေပါသလဲ။
2. 공장에 새로 들여온 공구가 뭐예요? စက်ရုံကို အသစ်ရောက်လာတဲ့ စက်ပစ္စည်းက ဘာလဲ။

정답 1. 용접봉을 찾고 있었어요. 2. 전기 절단기예요.

## 어휘 2 စကားပြော ၂ **제조업 기계** ကုန်ထုတ်ရေးလုပ်ငန်းသုံး စက်ပစ္စည်းများ



ကုန်ထုတ်လုပ်ရေးလုပ်ငန်းသုံး စက်ပစ္စည်းတွေ အကြောင်း လေ့လာသင်ယူရအောင်။



전기 절단기
လျှပ်စစ် ဖြတ်စက်




에어 콤프레서
လေဖိအားပေးဖိသိပ်စက်



전기 용접기
လျှပ်စစ် ဝရိန်ဆော်စက်



가스 용접기
ဂတ်စ် ဝရိန်ဆော်စက်



용접봉
ဝရိန်ချောင်းထုပ်



밴딩기
ကြိုးသိုင်းစက်



호이스트
မတင်စက်(hoist)



컨트롤 판넬
ထိန်းချုပ်စက်



핸드카
လက်တွန်းလှည်း



전선 릴
မီးကြိုးခွေ

- **전기 절단기**를 사용할 때에는 안전에 주의하세요.
  လျှပ်စစ်ဖြတ်စက်ကို အသုံးပြုသည့်အခါ သတိထားပါ။
- **핸드카**는 무거운 물건을 옮길 때 편리해요.
  လက်တွန်းလှည်းက လေးပင်တဲ့ အရာတွေ ပြောင်းရွှေ့သည့်အခါ သက်တောင့်သက်သာရှိတယ်။



အပေါ်မှ ဝေါဟာရများကို မကြည့်ဘဲ အောက်ပါ မေးခွန်းများကို ဖြေကြည့်ပါ။

1. 사진을 보고 알맞은 말을 연결하세요. ပုံကို ကြည့်ပြီး သင့်တော်သော စကားလုံးနှင့် ချိတ်ဆက်ပေးပါ။

① ② ③ ④ ⑤

㉠ 전기 용접기 ㉡ 밴딩기 ㉢ 전기 절단기 ㉣ 호이스트 ㉤ 에어 콤프레서

정답 ①㉢ ②㉠ ③㉤ ④㉡ ⑤㉣

## 문법 2 သဒ္ဒါ ၂ -고 있다




ကြိယာနဲ့ တွဲပြီး လှုပ်ရှားမှုက ဖြစ်နေဆဲ သို့မဟုတ် ဆက်ဖြစ်နေတယ်ဆိုတာကို ဖော်ပြပါတယ်။ ကြိယာမှာ အသတ်ရှိရှိ မရှိရှိ '-고 있다' ကိုပဲ သုံးပါတယ်။

- 가: 포장은 다 끝났어요? ပါကင် အကုန် ပိတ်ပြီးသွားပြီလား။
  나: 아니요, 밴딩기로 **포장하고 있어요**. ဟင့်အင်း၊ ကြိုးသိုင်းစက်နဲ့ ပါကင် ပိတ်နေတယ်။
- 리한 씨는 작업장에서 용접을 **하고 있어요**. ရီဟန်က အလုပ်ရုံမှာ ဝရိန်ဆော်နေတယ်။
- 저는 전기드릴로 벽에 구멍을 **뚫고 있어요**. ကျွန်တော် ဖောက်စက်နဲ့ နံရံမှာ အပေါက်ဖောက်နေတယ်။



'-고 있다' ကို နားလည်ရင် အောက်ပါ ဝါကျများကို ဖြည့်ကြည့်ပါ။

2. 그림을 보고 '-고 있다'를 사용해서 대화를 완성하세요.
'-고 있다' ကို အသုံးပြုပြီး ဝါကျ ဆက်ပါ။

1) 
전기 용접기, 붙이다

가: 전기 용접기로 작업하고 있어요? လျှပ်စစ်ဝရိန်ဆော်စက်နဲ့ အလုပ်လုပ်နေတာလား။
나: 네, ______________________.

2) 
핸드카, 물건을 운반하다

가: 무슨 작업을 하고 있어요? ဘာလုပ်နေတာလဲ။
나: ______________________.

정답 1) 전기 용접기로 붙이고 있어요 2) 핸드카로 물건을 운반하고 있어요



ထပ်ပြီး လေ့လာကြရအောင်။ အောက်ပါ ဝါကျအတိုင်း '-고 있다' ကို သုံးပြီး ပြောကြည့်ပါ။

1. 엽서에 우표를 붙이고 있어요. စာအိတ်မှာ တံဆိပ်ခေါင်း ကပ်နေပါတယ်။

2. 트럭으로 물건을 운반하고 있어요. ထရပ်နဲ့ ပစ္စည်းတွေကို ပြောင်းရွှေ့နေတယ်။



### 유용한 표현 အသုံးဝင်သော အသုံးအနှုန်းများ

**먼저 드세요.** အရင် သုံးဆောင်ပါ။

가: 바루 씨 간식 먹고 하세요. ဘာရူ၊ အဆာပြေ စားပြီး လုပ်ပါ။
나: 이것만 하고요. **먼저 드세요.** ဒါလေးပဲ လုပ်ပြီးရင်လာပါ့မယ်။ **အရင် သုံးဆောင်ပါ။**



## 활동 အသုံးချသင်ခန်းစာများ

무엇을 사용해서 어떤 작업을 하고 있어요? 〈보기〉처럼 설명해 보세요.
ဘာကို သုံးပြီး ဘယ်လို အလုပ်မျိုးကို လုပ်နေလဲ။ ဥပမာအတိုင်း ရှင်းပြပေးပါ။

보기

밴딩기
ကြိုးသိုင်းစက်

포장하다 ပါဆယ်ထုပ်သည်

가: 어떤 작업을 하고 있어요?
ဘာလုပ်နေလဲ။
나: 밴딩기로 포장하고 있어요.
ကြိုးသိုင်းစက်နဲ့ ပါဆယ်ထုပ်နေပါတယ်။

1) 전기용접기
용접하다

2) 핸드카
운반하다

3) 전기 드릴
구멍을 뚫다

4) 플라이어
철사를 펴다

정답 1) 가: 어떤 작업을 하고 있어요?
나: 전기 용접기로 용접하고 있어요.
2) 가: 어떤 작업을 하고 있어요?
나: 핸드카로 운반하고 있어요.
3) 가: 어떤 작업을 하고 있어요?
나: 전기 드릴로 구멍을 뚫고 있어요.
4) 가: 어떤 작업을 하고 있어요?
나: 플라이어로 철사를 펴고 있어요.

# 작업에 필요한 도구

## အလုပ်တွင် လိုအပ်သော ကိရိယာများ



절곡기
ဖြတ်စက်



결속핸들
ဝါယာကြိုး ဆက်စက်



쇠지레
သံတူရွင်း



파이프 렌치
ပိုက် ခွရှင်



그라인더(연삭기)
အချောကိုင်စက်
(ကျောက်စက်)



대패
ရွှေပေါ်ထိုးစက်



사포
ကော်ပတ်ကြမ်း



줄
တံစဉ်း



정
ဆောက်



송곳
ဆူးချွန်



바이스
ညှပ်ခုံ



롱노즈 플라이어
ပလာယာ



မေးခွန်း ၁နဲ့ ၂မှာ အောက်မှ ပုံများကို ကြည့်ပြီး ဖြေပေးရမှာ ဖြစ်ပါတယ်။ မဖြေခင် မေးခွန်းကို သေချာဖတ်ပါ။



[1~2] 다음 그림을 보고 알맞은 대답을 고르십시오.
အောက်ပါပုံကို ကြည့်ပြီး သင့်တော်သော အဖြေကို ရွေးပေးပါ။

Track 129

1. 이것은 무엇입니까? ဒါ ဘာလဲ။

① ② ③ ④

2. 지금 무엇을 하고 있습니까? သူ အခု ဘာလုပ်နေတာလဲ။

① ② ③ ④



မေးခွန်း၃မှာ မေးခွန်းနဲ့ အဖြေ ဖြစ်ပါတယ်။ မေးခွန်း ၄နဲ့ ၅မှာတော့ စကားပြောကို နားထောင်ပြီး မှန်ကန်တဲ့ အဖြေကို ရွေးပေးရမှာပါ။ မဖြေခင် မေးခွန်းကို သေချာ ဖတ်ပါ။

3. 질문을 듣고 알맞은 대답을 고르십시오. မေးခွန်းကို နားထောင်ပြီး သင့်တော်သော အဖြေကို ရွေးပေးပါ။

① 네, 여기 있어요. ② 네, 제가 가져다줄게요.
③ 드라이버로 하는 게 좋아요. ④ 드라이버 말고 이걸로 해 보세요.

[4~5] 하나의 이야기를 듣고 두 개의 질문에 대답하십시오.
စာပိုဒ်ကို နားထောင်ပြီး မေးခွန်း ၂ခုလုံးကို ဖြေပေးပါ။

4. 여자는 지금 무슨 일을 하고 있습니까? မိန်းကလေး အခု ဘာလုပ်နေပါသလဲ။

①  
② 
③ 
④ 

5. 남자는 여자에게 무엇을 사용하라고 했습니까?
ယောက်ျားလေးက မိန်းကလေးကို ဘာပစ္စည်းကို သုံးဖို့ ပြောပါသလဲ။

① 펜치 ② 스패너 ③ 드라이버 ④ 플라이어

## 듣기 대본 စာသား

1. ① 여: 밴딩기입니다. ဒါ ကြိုးသိုင်းစက်ပါ။
   ② 여: 절단기입니다. ဒါ လျှပ်စစ်ဖြတ်စက်ပါ။
   ③ 여: 용접기입니다. ဒါ လျှပ်စစ်ဝရိန်ဆော်စက်ပါ။
   ④ 여: 호이스트입니다. ဒါ မတင်စက်ပါ။
2. ① 남: 자르고 있습니다. ဖြတ်နေပါတယ်။
   ② 남: 용접하고 있습니다. ဝရိန်ဆော်နေပါတယ်။
   ③ 남: 못을 박고 있습니다. သံချောင်း ရိုက်နေပါတယ်။
   ④ 남: 구멍을 뚫고 있습니다. အပေါက် ဖောက်နေပါတယ်။
3. 여: 이 드라이버를 리한 씨에게 좀 갖다 주세요. ဒီ ဝက်အူလှည့်ကို ရီဟာန်ဆီ သွားပေးပေးပါ။

4-5. 남: 지금 뭐 하고 있어요? အခု ဘာလုပ်နေလဲ။

여: 펜치로 철사를 구부리고 있어요. ပလာယာအသေးနဲ့ သံကြိုးကို ကွေးနေပါတယ်။

남: 펜치로 하면 힘드니까 플라이어로 해 보세요. 이걸로 하면 힘도 별로 안 들고 일도 빨리 끝낼 수 있어요.
ပလာယာအသေးနဲ့ဆို ခက်မှာမို့လို့ ပလာယာအကြီးနဲ့ လုပ်ကြည့်ပါ။ ပလာယာအကြီးနဲ့ ဆို အားကုန်လည်း သက်သာပြီး အလုပ်လည်း မြန်မြန်ပြီးတယ်။

정답 1. ③ 2. ④ 3. ② 4. ③ 5. ④



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန် L-41

1. 대화를 듣고 질문에 알맞은 것을 고르십시오.
ပြောတာကို နားထောင်ပြီး မေးခွန်းနှင့် သင့်တော်သော အဖြေကို ရွေးပေးပါ။

대화 후 여자는 무엇을 하겠습니까?
စကားပြောပြီးနောက် မိန်းကလေးက ဘာကို လုပ်မလဲ။

① 절단을 합니다. ② 보호구를 씁니다.
③ 반장님을 부릅니다. ④ 절단 작업을 구경합니다.

## 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

여: 반장님, 절단기로 절단하는 거 구경해도 돼요? ဆရာ၊ ဖြတ်တောက်စက်နဲ့ အလုပ်လုပ်တာ ကြည့်လို့ ရလား။

남: 위험해서 안 돼요. အန္တရာယ်များလို့ မရဘူး။

여: 반장님처럼 보호구를 쓰고 볼게요. ဆရာ့အတိုင်း အကာအကွယ်ဝတ်စုံ အပြည့် ဝတ်ပြီး ကြည့်ပါ့မယ်။

남: 좋아요. 그러면 보호구를 쓰고 오세요. ကောင်းပြီ။ ဒါဆို အကာအကွယ်ပစ္စည်း ဝတ်ဆင်ပြီးမှ လာခဲ့ပါ။

정답 1. ②



မေးခွန်း ၁နဲ့ ၂မှာ ပုံတွေကို ကြည့်ပြီး ဖြေပေးရမှာပါ။ လေ့လာထားတဲ့ စကားလုံးတွေကို သုံးပြီး ဖြေကြည့်ပါ။

[1~2] 다음 그림을 보고 맞는 단어나 문장을 고르십시오.
အောက်ပါ ပုံကို ကြည့်ပြီး ကိုက်ညီသော စကားလုံး သို့မဟုတ် ဝါကျကို ရွေးပေးပါ။

1. 

① 톱 ② 볼트 ③ 드릴 ④ 나사못

2. 

① 물건을 찾고 있습니다. ② 물건을 자르고 있습니다. ③ 물건을 옮기고 있습니다. ④ 물건을 준비하고 있습니다.



မေးခွန်း ၃က ကွက်လပ်များကို ဖြည့်ပေးရမှာ ဖြစ်ပြီး မေးခွန်း ၄နဲ့ ၅ကတော့ ဝါကျတွေကို ဖတ်ပြီး အဖြေ ဖြေပေးရမှာပါ။

3. 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်တွင် အသင့်တော်ဆုံးသော အဖြေကို ရွေးထည့်ပေးပါ။

가: 기계를 점검해야 하는데 어떻게 해야 돼요?
စက်ကို စစ်ဆေးမလို့ ဘယ်လိုလုပ်ရမလဲ။
나: 우선 스패너로 나사를 __________ 뚜껑을 열어야 해요.
အရင်ဆုံး ဂွနဲ့ မူလီကို လျှော့ပြီး အဖုံးကို ဖွင့်ရမယ်။

① 풀고 ② 뚫고 ③ 자르고 ④ 조이고

[4~5] 다음을 읽고 물음에 답하십시오. အောက်ပါ စာပိုဒ်ကို ဖတ်ပြီး မေးခွန်းကို ဖြေပေးပါ။

저는 가구 공장에서 일하고 있습니다. 요즘은 책상을 만드는 작업을 하고 있는데 필요한 작업 도구가 많습니다. 먼저 나무를 자르려면 톱이 필요하고 조립할 때는 못과 망치도 필요합니다. 오늘은 구멍을 뚫는 작업을 했는데 전기 드릴을 사용하면 쉽게 할 수 있습니다. 작업을 할 때는 다치지 않게 조심해야 하고 작업을 다 끝낸 후에는 작업 도구를 제자리에 잘 정리해 두어야 합니다.

ကျွန်တော် ပရိဘောဂစက်ရုံမှာ အလုပ်လုပ်နေပါတယ်။ အခုတလော စားပွဲခုံ လုပ်နေတာမလို့ ပစ္စည်းကိရိယာတွေ အများကြီးပဲ လိုအပ်ပါတယ်။ အရင်ဆုံး သစ်သား ဖြတ်ဖို့ အတွက် လွှ လိုအပ်ပြီး စားပွဲခုံ ဆင်ဖို့ အတွက် သံချောင်းနဲ့ တူလည်း လိုပါတယ်။ ဒီနေ့ အပေါက်ဖောက်တာ လျှပ်စစ်ဖောက်စက်ကို အသုံးပြုတော့ လွယ်လွယ်ကူကူပဲ လုပ်နိုင်သွားတယ်။ အလုပ်လုပ်ချိန် မထိခိုက်မိအောင် သတိထားသင့်ပြီး အလုပ် ပြီးစီးသွားရင် ပစ္စည်းကိရိယာတွေကို နေရာတကျ ပြန်ထားသင့်ပါတယ်။

4. 책상을 만들 때 필요한 도구가 아닌 것은 무엇입니까? စားပွဲခုံလုပ်ဖို့ လိုအပ်တဲ့ ကိရိယာ မဟုတ်တာက ဘာလဲ။

① 톱 ② 니퍼 ③ 망치 ④ 전기 드릴

5. 남자가 오늘 한 작업은 무엇입니까? ယောက်ျားလေးက ဒီနေ့ ဘာလုပ်လဲ။

① 조립을 했습니다. ② 나무를 잘랐습니다. ③ 구멍을 뚫었습니다. ④ 도구를 정리했습니다.

정답 1. ② 2. ② 3. ① 4. ② 5. ③



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~3] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်တွင် အသင့်တော်ဆုံး အဖြေကို ရွေးထည့်ပေးပါ။

1. 저는 요리하는 것을 좋아해서 한국에서 ________가 되고 싶습니다.
ကျွန်တော် ထမင်းဟင်း ချက်တာ ကြိုက်နှစ်သက်တာကြောင့် ကိုရီးယားမှာ စားဖိုမှူး ဖြစ်ချင်ပါတယ်။

① 조리사 ② 미용사
③ 정비사 ④ 운전사

2. 주말에도 출근을 해서 많이 피곤합니다. 오늘은 ________ 들어가서 쉬려고 합니다.
ပိတ်ရက်မှာလည်း အလုပ်သွားတာမို့လို့ အရမ်း ပင်ပန်းပါတယ်။ ဒီနေ့တော့ စောစော ပြန်နားဖို့ လုပ်ထားတယ်။

① 아직 ② 벌써
③ 일찍 ④ 이미

3. 다음 주에 동료들과 여행을 가려고 합니다. 그래서 오늘 우리가 머물 숙소를 ________.
နောက်အပတ် လုပ်ဖော်ကိုင်ဖက်တွေနဲ့ ခရီးသွားမလို့ လုပ်ထားတယ်။ ဒါကြောင့် ဒီနေ့ ကျွန်တော်တို့ တည်းမယ့် နေရာကို ဘွတ်ကင် လုပ်လိုက်တယ်။

① 받았습니다 ② 주었습니다
③ 정리했습니다 ④ 예약했습니다

정답 1. ① 2. ③ 3. ④



## 발음 အသံထွက်




### သေချာ နားထောင်ပြီး လိုက်ဆိုပါ။

ကိုရီးယားဘာသာစကားမှာ ဗျည်းနှစ်လုံးဆုံကြရင် အသံပြောင်းပါတယ်။ နာသံနဲ့ လျှာလိပ်သံ 'ㄹ' တို့ ဆုံရင် 'ㄹ' ကို နာသံ 'ㄴ[n]' အဖြစ် အသံထွက်ပေးရပါတယ်။

(1) 정리, 종로
(2) 심리, 탐라
(3) 책을 읽은 후에는 잘 정리하세요. / 심리학을 전공해요.




# 이 기계 어떻게 작동하는지 알아요?

ဒီစက်ကို ဘယ်လို ကိုင်ရမလဲ သိလား။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** စက်လည်ပတ်ပုံကို ရှင်းပြခြင်း၊ အလုပ် မှတ်တမ်းတင်ခြင်း
- □ **သဒ္ဒါ** -는지 알다/모르다, -(으)ㄹ 것 같다
- □ **ဝေါဟာရနှင့် အသုံးများ** စက်လည်ပတ်ခြင်း၊ ထုပ်ပိုးခြင်း
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** စက်ကို နည်းစနစ်ကျကျ ဘေးကင်းစွာ လည်ပတ်အသုံးပြုနည်း



## 대화 1 စကားပြော ၁






ဘာရူနဲ့ မင်းဆူ စကားပြောနေပါတယ်။ အရင်ဆုံး နှစ်ခေါက် နားထောင်ပြီး လိုက်ဆိုကြည့်ရအောင်။

민수 바루 씨, 오늘은 이 기계로 목재 자르는 일을 해야 해요.
ဘာရူ ဒီနေ့ ဒီစက်နဲ့ သစ်သားကို ဖြတ်ရမယ်။

바루 그래요? 민수 씨는 이 기계 어떻게 작동하는지 알아요? 전 이걸 써 본 적이 없어서요.
ဟုတ်လား၊ ဒီစက်ကို ဘယ်လိုကိုင်ရလဲ သိလား။ ကျွန်တော် ဒီစက်ကို မသုံးဖူးလို့ ။

민수 자, 이렇게 하면 돼요. 먼저 손잡이에 있는 안전 스위치를 누르세요. 그리고 이 전원 스위치를 올리면 기계가 작동하기 시작해요. 이렇게 ……. 자, 한번 해 보세요.
ဒါက ဒီလို လုပ်ရင် ရတယ်။ အရင်ဆုံး လက်ကိုင်မှာ ရှိတဲ့ ဘေးကင်းခလုတ်ကို နှိပ်ပါ။ ပြီးတော့ ဒီပါဝါခလုတ်ကို အပေါ် တင်လိုက်ရင် စက်က စလည်ပြီ။ ဒီလို .. လဲချင်တယ်။

바루 손잡이에 있는 안전 스위치를 누르고 전원 스위치를 올리면 ……. 아, 되네요.
လက်ကိုင်မှာ ရှိတဲ့ ဘေးကင်းခလုတ်ကို နှိပ်ပြီး ပါဝါခလုတ်ကို အပေါ် တင်ရင်....... အော် ရပြီ။

민수 기계가 작동하기 시작하면 손잡이를 위아래로 움직여서 목재를 자르면 돼요.
စက် စလည်ပြီဆို လက်ကိုင်ကို အပေါ် အောက် ရွှေ့ပြီး သစ်သားကိုဖြတ်ရင် ရပြီ။

> **이걸 ဒါကို**
> 이것을 = 이걸
> ပုံမှန် ပုံမှန်စကားပြောတွင် '이걸' ကို အများအားဖြင့် အသုံးပြုသည်။
> - 이걸 사고 싶은데 얼마예요?
>   ဒါကို ဝယ်ချင်လို့ ဘယ်လောက်လဲ။
> - 이걸 다른 걸로 바꾸고 싶어요.
>   ဒါကို တခြားဟာနဲ့ ကောင်းပြီ၊ တစ်ခါလောက် လုပ်ကြည့်ပါ။

> **-기 시작하다 - ဖို့ စတယ်။**
> ၏ အရှေ့တွင် ကြိယာ ရှိပါက ကြိယာကို 'V-기' ပုံစံဖြင့် ပြောင်းပြီးနောက် '시작하다' ကို သုံးရမည်။
> - 어제부터 한국 회사에 다니기 시작했어요.
>   မနေ့ကစပြီး ကိုရီးယားကုမ္ပဏီမှာ အလုပ်စလုပ်တယ်။
> - 아침부터 비가 내리기 시작했어요.
>   မနက်ကနေ မိုးစရွာတယ်။



အသေအချာ နားထောင်ပြီး လိုက်ဆိုပြီးပြီဆိုရင် အောက်ပါ မေးခွန်းများကို ဖြေကြရအောင်။

1. 바루 씨는 오늘 무슨 일을 할 거예요? ဒီနေ့ ဘာရူ ဘာလုပ်မလဲ။
2. 이 기계를 사용할 때 제일 먼저 무엇을 해야 해요? ဒီစက်ကို သုံးဖို့ အရင်ဆုံး ဘာလုပ်ရမလဲ။

정답 1. 목재 자르는 일을 할 거예요. 2. 안전 스위치를 눌러야 해요.



# 어휘 1 ဝေါဟာရ ၁ 기계 작동 စက် လည်ပတ်ခြင်း



စက် လည်ပတ်ပုံနဲ့ ပတ်သက်တဲ့ အကြောင်း လေ့လာသင်ယူရအောင်။


작동하다
လည်ပတ်သည်


사용하다/쓰다
အသုံးပြုသည်


누르다
ဖိနှိပ်သည်



올리다
အပေါ် တင်သည်



내리다
အောက်ချသည်


돌리다
လှည့်သည်


끼우다
တပ်ဆင်သည်


꽂다
ပင်ရိုက်သည်


빼다
ဖြုတ်သည်


걸다
ချိတ်သည်


적재하다
မတင်သည်

- 스위치를 위로 올리면 **작동하기** 시작합니다.
  ပါဝါခလုတ်ကို အပေါ်သို့ တင်လိုက်ရင် စက် စတင် လည်ပတ်ပါသည်။
- 불을 켜려면 버튼을 **누르세요**.
  မီးဖွင့်ဖို့ ခလုတ်ကို နှိပ်ပါ။



အပေါ်မှ စကားလုံးများကို မကြည့်ဘဲ ဖြေကြည့်ပါ။

1. 그림을 보고 알맞은 말을 연결하세요. ပုံကို ကြည့်ပြီး သင့်တော်သော စကားလုံးဖြင့် ချိတ်ဆက်ပေးပါ။

① 
② 
③ 
④ 
⑤ 

㉠ 걸다 ㉡ 빼다 ㉢ 꽂다 ㉣ 끼우다 ㉤ 적재하다

정답 ①-㉡ ②-㉣ ③-㉤ ④-㉠ ⑤-㉢

# 문법 1 သဒ္ဒါ ၁ -는지 알다/모르다




ကြိယာနဲ့ တွဲပြီး ရှေ့ဝါကျနဲ့ပတ်သက်ပြီး မေးမြန်းတာဖြစ်ပါတယ်။ ကြိယာမှာ အသတ်ရှိရှိ မရှိရှိ '-는지 알다/모르다' ကို သုံးပါတယ်။

- 가: 이 기계를 어떻게 **끄는지 알아요**? ဒီစက်ကို ဘယ်လို ပိတ်ရလဲ သိလား။
  나: 네, 손잡이를 왼쪽으로 돌리면 돼요. ဟုတ်ကဲ့။ လက်ကိုင်ကို ဘယ်ဘက်ကို လှည့်လိုက်ရင် ရပြီ။
- 가: 이걸 어떻게 **꽂는지 모르겠어요**. ဒါ ဘယ်လို ထည့်ရလဲ မသိဘူး။
  나: 이쪽을 잡고 꽂으면 돼요. ဒီဘက်ကနေ ကိုင်ပြီး ထည့်ရင် ရတယ်။



'-는지 알다/모르다' ကို နားလည်ပြီဆိုရင် ကြိယာကို သုံးပြီး ကွက်လပ်ဖြည့်ကြည့်ပါ။

2. '-는지 알다/모르다'를 사용해서 대화를 완성하세요.
'-는지 알다/모르다' ကို အသုံးပြုပြီး ကွက်လပ်ဖြည့်ပါ။

1) 가: 이 기계 어떻게 ______________________? [작동하다]
ဒီစက်ကို ဘယ်လို စက်ဖွင့်လဲ။?
나: 네, 스위치를 올리면 돼요. ဟုတ်။ ခလုတ်ကို ဆွဲတင်လိုက်ရင် ရပြီ။

2) 가: 이걸 어디에 꽂는지 알아요? ဒါကို ဘယ်မှာ ထည့်ရလဲ သိလား။
나: 아니요, ______________________. [꽂다]
ဟင့်အင်း၊ ဘယ်လို ထည့်ရလဲ မသိဘူး။

3) 가: 이 전구요. 어떻게 ______________________? [끼우다]
ဒီ မီးလုံးကိုလေ။ ဘယ်လို တပ်ရလဲသိလား။
나: 잠깐만요. 제가 해 볼게요. ခဏ။ လုပ်ကြည့်ကြည့်မယ်။

정답 1) 작동하는지 알아요 2) 어디에 꽂는지 몰라요 3) 끼우는지 알아요



'-는지 알다/모르다' ကို သုံးပြီး အောက်ပါမေးခွန်းများကို ဖြေကြည့်ပါ။

1. 가: 시내에 어떻게 ____________ 알아요? မြို့ထဲကို ဘယ်လို သွားရလဲ သိလား။
나: 네, 205번 버스를 타세요. ဘတ်စ်ကား နံပါတ် ၂၀၅ကို စီးသွားပါ။

2. 가: 우체국이 어디에 ____________ 알아요? စာတိုက်က ဘယ်မှာ ရှိလဲ သိလား။
나: 은행 옆에 있어요. ဘဏ်ဘေးမှာ ရှိတယ်။

정답 1. 가는지 2. 있는지



## 대화 2 စကားပြော ၂

Track 131



အင်ဒီခါနဲ့ အလုပ်ကြီးကြပ်သူက စကားပြောနေပါတယ်။ သူတို့ ဘာတွေ ပြောနေလဲဆိုတာ အရင်ဆုံး နားထောင်ကြည့်ပြီး လိုက်ပြောကြည့်ရအောင်။

반 장 오늘 작업은 얼마나 진행됐어요?
ဒီနေ့ အလုပ် ဘယ်လောက် ပြီးသွားလဲ။

인디카 오전에는 골판지 자르는 작업을 끝냈고요, 오후부터 접고 붙이는 작업을 하고 있어요. 그러면 6시까지는 주문 받은 상자를 완성할 수 있을 것 같아요.
မနက်ပိုင်းတုန်းက ကတ်ထူပြားတွေကို ဖြတ်ပြီးသွားပြီ။ ညနေပိုင်းကစပြီး ခေါက်ပြီး ကပ်တာတွေ လုပ်နေတယ်။ ဒီလိုဆိုရင် ညနေ ခြောက်နာရီအထိတော့ မှာထားတဲ့ ကတ်ထူပုံးတွေ ပြီးမယ်နဲ့ တူတယ်။

반 장 골판지는 충분해요? 어제 작업 끝난 후에 보니까 얼마 남지 않았던데요.
ကတ်ထူပြားတွေ လောက်ရဲ့လား။ မနေ့က အလုပ်ပြီးချိန် ကြည့်တော့ ဘယ်လောက်မှ မကျန်တော့ဘူး။

인디카 네, 지난주에 주문한 골판지가 오늘 오후에 도착할 거니까 문제없을 것 같아요
ဟုတ်ကဲ့၊ အရင်အပတ်က မှာထားတဲ့ ကတ်ထူပြားတွေ ဒီနေ့ ညနေ ရောက်မှာမို့လို့ ပြဿနာ မရှိလောက်ပါဘူး။

**얼마 남지 않다**
**ဘယ်လောက်မှ မကျန်တော့ဘူး။**

- 일이 얼마 남지 않았어요. 곧 끝날 거예요.
  အလုပ် ဘယ်လောက်မှ မကျန်တော့ဘူး။ ခဏနေဆို ပြီးတော့မှာ။
- 한국으로 떠나는 날이 얼마 남지 않았어요.
  ကိုရီးယားကနေ ပြန်ရတော့မယ့် ရက် ဘယ်လောက်မှ မကျန်တော့ဘူး။

**문제없다 ပြဿနာ မရှိဘူး။**

- 상품의 질이 좋아서 판매하는 데는 문제없을 거예요.
  ပစ္စည်းရဲ့ အရည်အသွေး ကောင်းတာကြောင့် ရောင်းတဲ့အခါ ပြဿနာ မရှိလောက်ပါဘူး။
- 다음 주 출장 준비는 문제없이 잘되고 있습니까?
  နောက်အပတ် အလုပ်ခရီးထွက်ဖို့ ပြင်ဆင်တာ ပြဿနာမရှိဘဲ အဆင်ပြေရဲ့လား။



သေချာ နားထောင် လိုက်ဆိုပြီးရင် အောက်ပါ မေးခွန်းများကို ဖြေကြည့်ပါ။

1. 인디카 씨는 오전에 무슨 일을 했어요? အင်ဒီခါက ဒီနေ့ မနက်ပိုင်းမှာ ဘာလုပ်ခဲ့လဲ။
2. 인디카 씨는 골판지를 언제 주문했어요?
   အင်ဒီခါက ကတ်ထူပြားတွေကို ဘယ်အချိန်က မှာခဲ့လဲ။

정답 1. 골판지 자르는 일을 했어요. 2. 지난주에 주문했어요.

## 어휘 2 စကားပြော ၂ 포장 작업 ထုပ်ပိုးခြင်း



ထုပ်ပိုးချိန် လိုအပ်တဲ့ ဝေါဟာရတွေကို လေ့လာသင်ယူရအောင်။



재다
တိုင်းတာသည်



자르다
ဖြတ်တောက်သည်



오리다
ညှပ်သည်



접다
ခေါက်သည်



붙이다
ကပ်သည်



달다
တပ်သည်



조절하다
ညှိသည်



완성하다
ပြီးစီးသည်



제작하다
ပြုလုပ်သည်



옮기다
ရွှေ့သည်

- 상자를 **자른** 후에 **접으세요.**
  ကတ်ထူပုံးကို ဖြတ်ပြီးနောက် ခေါက်ပါ။
- 상자에 손잡이를 **달면** 완성됩니다.
  ကတ်ထူပုံးမှာ လက်ကိုင် တပ်ပြီးရင် ပြီးပြီ။
- 상자를 **옮기는** 일을 하고 있어요.
  ကတ်ထူပုံးကို ရွှေ့တဲ့ အလုပ်ကို လုပ်နေတယ်။



အပေါ်က ဝေါဟာရများကို မကြည့်ဘဲ အောက်ပါ မေးခွန်းများကို ဖြေကြည့်ပါ။

1. 그림에 맞는 표현을 〈보기〉에서 골라 넣으세요.
   ပုံနှင့် သင့်တော်သော စကားလုံးကို ဥပမာထဲမှ ရွေးထည့်ပေးပါ။



1) ______ →



2) ______ →



3) ______ →



4) ______ →



5) ______

보기: 붙이다 자르다 접다 오리다 재다

정답 1) 재다 2) 자르다 3) 오리다 4) 접다 5) 붙이다

## 문법 2 သဒ္ဒါ ၂ -(으)ㄹ 것 같다




မဖြစ်သေးသော အပြုအမူ သို့မဟုတ် အခြေအနေကို ခန့်မှန်းသည့် အခါတွင် အသုံးပြုသည်။ လှုပ်ရှားမှုပြ၊ ဖြစ်ခြင်းပြ၊ ဂုဏ်ရည်ပြ ကြိယာနှင့်အတူ အသုံးပြုသည်။

- 가: 언제 작업이 **끝날 것 같아요**? အလုပ် ဘယ်အချိန် ပြီးမယ်လို့ ထင်လဲ။
  나: 6시쯤 끝날 것 같아요. ခြောက်နာရီလောက် ပြီးမယ်နဲ့ တူတယ်။
- 가: 곧 비가 **올 것 같아요**. မိုးရွာတော့မယ်နဲ့ တူတယ်။
  나: 그래요? 우산은 가지고 왔어요? တကယ်လား။ ထီးယူလာလား။



### 비교해 보세요 နှိုင်းယှဉ်ကြည့်ပါ။

**✔ '-(으)ㄹ 것 같다' နဲ့ '-는/(으)ㄴ 같다'**

'-(으)ㄹ 것 같다', ကို အနာဂတ်နှင့် ပတ်သက်ပြီး ခန့်မှန်းသည့် အခါ သုံးပြီး '-는/(으)ㄴ 같다' ကို ယခုလက်ရှိအချိန်နှင့် ပတ်သက်သော ထင်မြင်ချက်များတွင် သုံးသည်။

- 오후에는 비가 **올 것 같아요**.
- 지금 비가 **오는 것 같아요**.



'-(으)ㄹ 것 같다' ကို နားလည်ပြီဆိုရင် အောက်ပါ မေးခွန်းများကို ဖြေကြည့်ပါ။

2. '-(으)ㄹ 것 같다'를 사용해서 대화를 완성하세요.
   '-(으)ㄹ것 같다' ကို အသုံးပြုပြီး အောက်မှ ဝါကျများကို ဆက်ပါ။

   1) 가: 언제까지 완성할 수 있을까요? ဘယ်အချိန်လောက် ပြီးနိုင်မလဲ။
      나: ______________________. [2시까지 할 수 있다 ၂နာရီအထိ ပြီးနိုင်မယ်လို့ ထင်တယ်။]

   2) 가: 상자 300개를 내일 아침까지 제작할 수 있을까요?
      ပုံး အခု ၃၀၀ကို မနက်ဖြန်မနက်ထိ လုပ်နိုင်ပါ့မလား။
      나: ______________________. [그것은 힘들다 အဲ့ဒါတော့ ခက်မယ်နဲ့ တူတယ်။]

   3) 가: ______________________________?
      [자르는 작업을 다 끝낼 수 있다 ဖြတ်တဲ့ အလုပ်ကို အကုန် ပြီးနိုင်မယ်လို့ ထင်လား။ ]
      나: 그럼요. 제가 도와줄 테니까 걱정하지 마세요. အင်း၊ ကျွန်တော် ကူလုပ်ပေးမှာမို့လို့ စိတ်မပူပါနဲ့။

   4) 가: 바루 씨, 내일 같이 소풍을 가는 게 어때요? ဘာရူ မနက်ဖြန် အတူတူ ပျော်ပွဲစားထွက်ရင် ကောင်းမလား။
      나: ______________________________. [날씨가 아주 맑다 ရာသီဥတု သာယာမယ်နဲ့ တူတယ်။]

정답 1) 2시까지 할 수 있을 것 같아요 2) 그것은 힘들 것 같아요
3) 자르는 작업을 다 끝낼 수 있을 것 같아요 4) 날씨가 아주 맑을 것 같아요



## 활동 အသုံးချသင်ခန်းစာများ

**작업하는 방법을 모르면 어떻게 말해야 돼요? 〈보기〉처럼 물어보세요.**
စက်ကိုင်တွယ်တဲ့ နည်းလမ်းကို မသိရင် ဘယ်လိုမျိုး ပြောရမလဲ။ ဥပမာအတိုင်း ပြောကြည့်ပါ။

보기



작동하다 လည်ပတ်သည်

가: 이거 어떻게 작동하는지 알아요? 좀 가르쳐 주세요.
ဒီ စက်ကို ဘယ်လို ကိုင်ရမလဲ သိလား။ သိလား။ ပြပေးပါ။

나: 네, 보세요. 이렇게 하면 돼요.
အင်း၊ ဒီမှာကြည့် ဒီလို လုပ်ရင် ရပြီ။

1) 

꽂다

2) 

걸다

3) 

자르다

4) 

상자를 접다

5) 

달다

6) 

조절하다

정답
1) 이거 어떻게 꽂는지 알아요? 좀 가르쳐 주세요.
2) 이거 어떻게 거는지 알아요? 좀 가르쳐 주세요.
3) 이거 어떻게 자르는지 알아요? 좀 가르쳐 주세요.
4) 이거 어떻게 접는지 알아요? 좀 가르쳐 주세요.
5) 이거 어떻게 다는지 알아요? 좀 가르쳐 주세요.
6) 이거 어떻게 조절하는지 알아요? 좀 가르쳐 주세요.



**정보** သတင်းအချက်အလက်

# 안전한 도구 및 기계 사용법
## ကိရိယာများနှင့် စက်ပစ္စည်းများကို အန္တရာယ်ကင်းစွာ ကိုင်တွယ်နည်း



수공구는 확실하게 잡고 작업물에 정확하게 장착 후 사용해야 합니다.
လက်ကိုင်ကို ခိုင်မြဲစွာ ကိုင်ပြီး ပစ္စည်းနှင့် အံဝင်ခွင်ကျ ထားပြီးမှ အသုံးပြုပါ။



회전하는 기계를 사용할 때는 장갑을 착용한 채로 만져서는 안 됩니다.
လည်ပတ်နေသော စက်ပစ္စည်းကို အသုံးပြုချိန် လက်အိတ် စွပ်ပြီး မကိုင်တွယ်သင့်ပါ။



연마 작업을 할 때는 장갑을 벗고 저속으로 회전시키면서 맨손으로 작업해야 합니다.
ကျောက်သွေးစက် စသော မျက်နှာပြင်ညှိစက်များကို ကိုင်တွယ်ချိန် အရှိန် ဖြည်းဖြည်းဖြင့် လည်ပတ်ပြီး လက်ဗလာဖြင့် လုပ်ကိုင်သင့်သည်။



선반 작업을 시작하기 전에 일정 시간 기계를 공회전 시켜서 부품의 물림 상태를 확인해야 합니다.
တွင်ခုံဖြင့် အလုပ်မလုပ်ခင် ခဏတဖြုတ် စက်သတ်ပြီး အပိုကိရိယာပစ္စည်းများ စက်တွင် နေရာတကျ ခိုင်မြဲစွာ တပ်ဆင်ထားခြင်း ရှိ မရှိကို စစ်ဆေးသင့်ပါသည်။



မေးခွန်း ၁နဲ့ ၂မှာ အကြောင်းအရာနဲ့ ပတ်သက်သော စကားလုံးများကို ရွေးချယ်ရမှာ ဖြစ်ပါတယ်။ နားမထောင်မီ မေးခွန်းကို သေချာစွာ ဖတ်ပါ။

[1~2] 들은 것을 고르십시오. နားထောင်ပြီး အဖြေရွေးပေးပါ။




1. ① 접어요. ② 작아요. ③ 좁아요. ④ 저예요.

2. ① 내려요. ② 눌러요. ③ 올려요. ④ 붙여요.



မေးခွန်း ၃နဲ့ ၄မှာ အဖြေမှန်ကို ရွေးပေးရမှာ ဖြစ်ပြီး မေးခွန်း ၅မှာ စကားပြောတာကို နားထောင်၍ မေးခွန်းအတွက် အဖြေမှန်ကို ရွေးပေးရမှာ ဖြစ်ပါတယ်။ နားမထောင်မီ မေးခွန်းကို သေချာစွာ ဖတ်ပါ။

[3~4] 질문을 듣고 알맞은 대답을 고르십시오. မေးခွန်းကို နားထောင်ပြီး အဖြေမှန်ကို ရွေးပေးပါ။

3. ① 아니요, 잘 쓸 수 있어요. ② 네, 전에도 사용해 봤어요.
③ 네, 주임님한테 물어볼게요. ④ 아니요, 기계가 여기 없어요.

4. ① 4시면 끝날 것 같아요. ② 이제 골판지를 오리세요.
③ 빨리 주문을 해야겠어요. ④ 상자는 이쪽에 쌓아 두세요.

5. 이야기를 듣고 질문에 알맞은 대답을 고르십시오.
နားထောင်ပြီး မေးခွန်းနှင့် သင့်တော်သော အဖြေကို ရွေးပေးပါ။

남자가 해야 하는 일은 무엇입니까? ယောကျ်ားလေးက လုပ်ရမယ့် အလုပ်ကို ဖော်ပြပါ။

① 기계를 고쳐야 합니다. ② 기계를 옮겨야 합니다.
③ 기계로 작업해야 합니다. ④ 기계 사용법을 가르쳐야 합니다.

## 듣기 대본 စာသား

1. 남: 지금 상자를 접고 있지요? အခု ကတ်ထူပုံးကို ခေါက်နေတာလား။

   여: 네, 지금 작업 중이에요. အင်း၊ အခု လုပ်နေတာ။

2. 여: 어떻게 하면 작동해요? စက်လည်အောင် ဘယ်လို လုပ်ရလဲ။

   남: 여기를 누르면 돼요. ဒါကို နှိပ်ရင် ရပြီ။

3. 여: 이 기계 어떻게 사용하는지 알아요? ဒီ စက်ကို ဘယ်လို သုံးရလဲ သိလား။

4. 여: 상자 제작은 다 끝났어요? ကတ်ထူပုံး လုပ်တာ အကုန် ပြီးပြီလား။

5. 여: 여기가 다음 주부터 일하게 될 작업장이에요. 이건 리한 씨가 사용할 밴딩기고요. 어떻게 사용하는지 알지요?
   ဒီနေရာက နောက်အပတ်ကစပြီး အလုပ်လုပ်ရမယ့် လုပ်ငန်းခွင်ပါ။ ဒါက ရီဟန်က ကိုင်ရမယ့် ကြိုးသိုင်းစက်ပါ။ ဘယ်လို သုံးရလဲ သိတယ်မလား။

   남: 네, 어제 배웠습니다. 전에 다른 공장에서도 사용해 봤고요.
   ဟုတ်၊ မနေ့က သင်ထားပါတယ်။ အရင် စက်ရုံမှာလည်း ကိုင်ဖူးပါတယ်။

   여: 그럼 잘하시겠네요. 먼저 여기 있는 안전 스위치를 내린 후에 사용하세요.
   ဒါဆို တော်တော် ကျွမ်းမှာပါ။ အရင်ဆုံး ဒီက ဘေးကင်းခလုတ်ကို ချပြီးမှ အသုံးပြုပါ။

   남: 네, 알겠습니다. ဟုတ်ကဲ့၊ သိပါပြီ။

정답 1. ① 2. ② 3. ② 4. ① 5. ③



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန် 

1. 다음을 듣고 질문에 알맞은 것을 고르십시오.
   မေးခွန်းကို နားထောင်ပြီး သင့်တော်သော အဖြေကို ရွေးပေးပါ။

   남자는 무엇을 안내하고 있습니까? ယောကျ်ားလေးက ဘာကို ကြေညာနေပါသလဲ။

   ① 작업 위치와 장소　　② 작업장 청소 방법
   ③ 작업 도구 이용법　　④ 작업할 때 주의할 점

## 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

남: 어제 저녁에 작업장 청소를 했습니다. 바닥에 물이 남아 있어서 넘어질 수 있습니다. 조심하십시오. 그리고 작업장에 있는 기계에 물이 들어가지 않도록 조심해 주십시오.

မနေ့ညနေက လုပ်ငန်းခွင် သန့်ရှင်းရေးလုပ်ခဲ့ပါတယ်။ ကြမ်းပြင်မှာ ရေတွေ ကျန်နေသေးတာကြောင့် ချော်လဲနိုင်ပါတယ်။ သတိထားပါ။ ပြီးတော့ လုပ်ငန်းခွင်မှာ ရှိတဲ့ စက်ထဲကို ရေမဝင်သွားအောင် ဂရုစိုက်ပေးပါ။

정답 1. ④



## EPS-TOPIK 읽기 EPS-TOPIK အဖတ် စာမေးပွဲ



မေးခွန်း ၁နဲ့ ၂မှာ ပုံကို ကြည့်ပြီး သင့်တော်တဲ့ ဝါကျကို ရွေးပေးရမှာပါ။ လေ့လာထားတဲ့ ဝေါဟာရ တွေနဲ့ အောက်ပါ မေးခွန်းတွေကို ဖြေကြည့်ပါ။

[1~2] 다음 그림을 보고 맞는 문장을 고르십시오. ပုံကို ကြည့်ပြီး ကိုက်ညီသော ဝါကျကို ရွေးပေးပါ။

1.



① 목재입니다. ② 상자입니다.
③ 철근입니다. ④ 전구입니다.

2.



① 전선을 걸고 있습니다. ② 버튼을 누르고 있습니다.
③ 스위치를 올리고 있습니다. ④ 손잡이를 돌리고 있습니다.



မေးခွန်း ၃နဲ့ ၄မှာ သင့်တော်တဲ့ စကားလုံးကို ကွက်လပ်မှာ ဖြည့်ပေးရမှာ ဖြစ်ပြီး မေးခွန်း ၅မှာ စာပိုဒ်ကို ကြည့်ပြီး မေးခွန်း ဖြေပေးရမှာပါ။

[3~4] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်တွင် အသင့်တော်ဆုံးသော အရာကို ရွေးပါ။

3. 기계를 다 사용한 후에는 반드시 전원 스위치를 ________ 합니다.
စက်ကို အသုံးပြုပြီးနောက် ပါဝါခလုတ်ကို အသေအချာ အောက်ချ ရမည် ဖြစ်ပါတယ်။

① 넣어야 ② 내려야 ③ 꽂아야 ④ 작동해야

4. 칼로 종이를 ________ 때는 손을 다치지 않게 조심해야 합니다.
ဓားဖြင့် စက္ကူကို ဖြတ်ချိန် လက်ကို မထိမိစေရန် ဂရုစိုက်ပါ။

① 잴 ② 붙일 ③ 자를 ④ 접을

5. 다음 질문에 답하십시오. အောက်ပါ မေးခွန်းကို ဖြေပါ။

민수 씨는 냄비를 만드는 곳에서 일을 합니다. 그런데 민수 씨는 이 일을 시작한 지가 얼마 안 됐기 때문에 기계를 어떻게 작동하는지 모릅니다. 그래서 주로 물건을 옮기는 일을 하고 있습니다. 그렇지만 곧 기계를 작동하는 방법을 배워서 냄비 만드는 일을 할 겁니다.

မင်းဆူဟာ ဒယ်အိုးလုပ်တဲ့ စက်ရုံမှာ အလုပ်လုပ်ပါတယ်။ ဒါပေမဲ့ မင်းဆူဟာ ဒီအလုပ်ကို စလုပ်တာ မကြာသေးတာကြောင့် စက်ကို ဘယ်လို ကိုင်တွယ်ရမလဲ မသိသေးပါဘူး။ ဒါကြောင့် ပစ္စည်းတွေ ရွှေ့တဲ့ အလုပ်ကိုပဲ လုပ်နေပါတယ်။ ဒါပေမဲ့ မကြာခင် စက် ကိုင်တွယ်ပုံကို သင်ယူပြီး ထုတ်လုပ်ရေးဖက်ကို လုပ်တော့မှာပါ။

민수 씨는 지금 무슨 일을 합니까? မင်းဆူက အခု ဘာလုပ်နေလဲ။

① 냄비를 팝니다. ② 물건을 옮깁니다.
③ 냄비를 만듭니다. ④ 기계를 작동합니다.

정답 1. ② 2. ② 3. ② 4. ③ 5. ②



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~3] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်တွင် အသင့်တော်ဆုံး အဖြေကို ရွေးထည့်ပေးပါ။

1.

전화를 잘못 ________ 그냥 끊지 말고 "미안합니다." 하고 이야기해야 합니다.
ဖုန်း မှား ဆက်မိရင် ဒီတိုင်း မချလိုက်ပဲနဲ့ ဆောရီးလို့ ပြောသင့်တယ်။

① 울렸으면 ② 울었으면 ③ 걸었으면 ④ 걸렸으면

2.

한국 생활을 하다가 어려운 일이 있으면 센터에 있는 ________에 가서 이야기해 보십시오.
ကိုရီးယားမှာ နေထိုင်နေရင်းနဲ့ အခက်အခဲ ရှိပါက စင်တာမှာ ရှိတဲ့ ဆွေးနွေးခန်း သွားပြီး စကားပြောကြည့်ပါ။

① 자료실 ② 상담실 ③ 준비실 ④ 체력단련실

3.

몸이 아파서 출근을 못했는데 리한 씨가 퇴근길에 약을 사다 주었습니다. 리한 씨에게 많이 ________________.
နာကျင်ကိုက်ခဲနေတာကြောင့် ရုံး မသွားနိုင်တာကို ရီဟန်က ရုံးဆင်းချိန်မှာ ဆေးဝယ်လာပေးတယ်။ ရီဟန်ကို အရမ်း ကျေးဇူးတင်တာပဲ။

① 쉬웠습니다 ② 고마웠습니다 ③ 어려웠습니다 ④ 친절했습니다


정답 1. ③ 2. ② 3. ②



## 발음 အသံထွက်


P-21

### သေချာ နားထောင်ပြီး လိုက်ဆိုပါ။

ကိုရီးယားဘာသာစကားမှာ ဗျည်းနှစ်လုံးဆုံကြရင် အသံပြောင်းပါတယ်။ သံပြတ်နဲ့ လျှာလိပ်သံတို့ ဆုံရင် သူတို့ နှစ်ခုစလုံးဟာ နာသံဖြစ်သွားပါတယ်။ ဒါပေမဲ့ အသံထွက်တဲ့ တည်နေရာကတော့ မပြောင်းပါဘူး။

(1) 국립, 격려, 독립
(2) 압력, 협력, 격리
(3) 서로 협력해야 해요. / 내일이 독립 기념일이에요.




# 철근을 옮겨 놓으세요

ကွန်ကရစ် သံချောင်းတွေကို ရွှေ့ပေးပါ။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** အလုပ်ခွင် စီမံခန့်ခွဲခြင်း၊ကြီးကြပ်ခြင်း
- □ **သဒ္ဒါ** -아/어 놓다, -지요
- □ **ဝေါဟာရနှင့် အသုံးများ** ဆောက်လုပ်ရေးလုပ်ငန်းခွင်ဆိုင်ရာ ထုပ်ပိုးခြင်းနဲ့ ဖြန့်ဖြူးခြင်းလုပ်ငန်းဆိုင်ရာ
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** ဆောက်လုပ်ရေး လုပ်ငန်းခွင်သုံး စက်ပစ္စည်းကြီးများ



## 대화 1 စကားပြော ၁






အာဒစ်က ဂေါ်နူကို ဒီနေ့ အလုပ်မှာ ဘာလုပ်သင့်လဲဆိုတဲ့ အကြောင်း ပြောပြနေတာပါ။ ပြောနေတာကို နှစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

아딧 여러분 지금부터 오늘 해야 할 작업을 알려 드리겠습니다. 오늘은 거푸집을 설치하고 철근을 조립하는 일을 할 겁니다. 저희 팀은 먼저 여기 있는 철근을 3층으로 옮겨 놓을 건데요. 철근을 모두 옮겨 놓은 후에는 건우 씨가 거푸집 설치팀 반장에게 보고해 주세요. 그러면 거푸집 설치팀에서 작업을 시작할 겁니다.
အားလုံးကို အခုချိန်ကစပြီး ဒီနေ့ လုပ်ရမယ့် အလုပ်အကြောင်းကို ပြောပြပါမယ်။ ဒီနေ့ ကွန်ကရစ်မိုး ဆောက်ပြီး အောက်ခံ ကွန်ကရစ်သံချောင်းတွေကို တပ်ဆင်တဲ့ အလုပ်လုပ်ရမှာပါ။ ကျွန်တော်တို့ အဖွဲ့က အရင်ဆုံး ဒီမှာ ရှိတဲ့ သံချောင်းတွေကို သုံးလွှာဆီ ပြောင်းရွှေ့ထားရမယ်။ သံချောင်းတွေ အကုန်လုံး ပြောင်းရွှေ့ပြီးရင် ဂေါ်နူက ကွန်ကရစ်မိုး ဆောက်မယ့် အလုပ်ကြီးကြပ်သူဆီ အကြောင်းကြားပေးပါ။ အဲ့ဆို ကွန်ကရစ်မိုး ဆောက်တဲ့ အဖွဲ့က အလုပ် စလုပ်လို့ရပြီ။

> **-아/어 드리다 ပေးပါသည်။**
> '-아/어 주다' ၏ အမြင့်သုံးစကားလုံး ဖြစ်သည်။
> - 제가 도와 드리겠습니다.
>   ကျွန်တော် ကူညီပေးပါ့မယ်။
> - 내일까지 자세한 출장 일정을 알려 드리겠습니다.
>   မနက်ဖြန်အထိ အလုပ်ခရီးထွက်ဖို့ နေ့ရက်အစီအစဉ် အသေးစိတ်ကို အသိပေးပါ့မယ်။

건우 네, 알겠어요. 작업이 끝나면 바로 보고할게요.
ဟုတ်ကဲ့ သိပါပြီ၊ အလုပ်ပြီးရင် ချက်ချင်း အကြောင်းကြားပေးပါမယ်။

> **바로 ချက်ချင်း**
> - 지금 바로 출발하려고 합니다.
>   အခုချက်ချင်း စထွက်မလို့ လုပ်နေပါတယ်။
> - 회사에 도착하면 바로 연락드리겠습니다.
>   ကုမ္ပဏီကို ရောက်ရင် ချက်ချင်း ဆက်သွယ်ပါမယ်။

아딧 그 후엔 바로 조립 작업을 시작할게요. 자, 그럼 시작합시다.
အဲ့တာပြီးရင် ချက်ချင်း သံချောင်းဆင်တဲ့ အလုပ်ကို စမယ်။ ကဲ အခုပဲ အလုပ်စရအောင်။



သေချာ နားထောင်လိုက်ဆိုပြီးရင် အောက်ပါ မေးခွန်းများကို ဖြေကြရအောင်။

1. 아딧 씨 팀은 오늘 제일 먼저 무슨 일을 할 거예요? အာဒစ်တို့ အဖွဲ့ ဒီနေ့ အရင်ဆုံး ဘာအလုပ်ကို လုပ်ကြမှာလဲ။
2. 거푸집 설치 후에 무슨 일을 할 거예요? ကွန်ကရစ်မိုး ဆောက်ပြီးရင် ဘာကို လုပ်မလဲ။

정답 1. 철근을 3층으로 옮겨 놓을 거예요. 2. 철근 조립 작업을 할 거예요.





## 어휘 1 ဝေါဟာရ ၁ — 건설 현장 ဆောက်လုပ်ရေး လုပ်ငန်းခွင်



ဆောက်လုပ်ရေး လုပ်ငန်းခွင်မှာ အသုံးများတဲ့ စကားလုံးတွေနဲ့ ဆောက်လုပ်ရေး ပစ္စည်းတွေနဲ့ ပတ်သက်ပြီး လေ့လာသင်ယူရအောင်။


건설
ဆောက်လုပ်ရေး


공사장
ဆောက်လုပ်ရေးလုပ်ငန်းခွင်


벽돌
အုတ်


철근
ကွန်ကရစ် သံချောင်း

시멘트
ဘိလပ်မြေ


콘크리트
ကွန်ကရစ်


건물을 짓다
အဆောက်အဦ ဆောက်သည်။


비계
ငြမ်းစင်


땅을 파다
မြေတူးသည်


거푸집을 설치하다
ကွန်ကရစ်မို ဆောက်သည်


철근을 조립하다
သံချောင်း တပ်ဆင်သည်


콘크리트를 타설하다
ကွန်ကရစ် လောင်းသည်

- **공사장**에서는 항상 안전모를 착용해야 해요. ဆောက်လုပ်ရေး လုပ်ငန်းခွင်တွင် လုံခြုံရေးဦးထုပ်ကို အမြဲ ဆောင်းထားရမယ်။
- 건물을 지을 때에는 먼저 **땅을 파야** 해요. အဆောက်အဦ ဆောက်သည့် အချိန် အရင်ဆုံး မြေတူးရမယ်။



အထက်မှ ဝေါဟာရတွေကို မကြည့်ဘဲ အောက်ပါ ကွက်လပ်ကို ဖြည့်ကြည့်ပါ။

1. 그림에 맞는 표현을 <보기>에서 골라 넣으세요. ပုံနဲ့ ကိုက်ညီတဲ့ စကားကို ဥပမာထဲကနေ ရွေးပြီး ထည့်ပါ။




보기 철근 벽돌 시멘트 땅을 파다 거푸집을 설치하다 콘크리트를 타설하다

정답 1) 시멘트 2) 거푸집을 설치하다 3) 철근 4) 벽돌 5) 땅을 파다 6) 콘크리트를 타설하다




## -아/어 놓다




လုပ်ဆောင်ပြီးသည့်နောက် ထို လုပ်ဆောင်ချက်က ဆက်လက်တည်ရှိနေသော အနေအထားကို ညွှန်ပြချိန်တွင် သုံးသည်။ ကြိယာနှင့်သာ တွဲသုံးသည်။

| ㅏ, ㅗ → **-아 놓다** | ㅓ, ㅜ, ㅣ စသည်ဖြင့် → **-어 놓다** | 하다 → **해 놓다** |
|---|---|---|
| 사다 → **사 놓다**<br>닫다 → **닫아 놓다** | 쓰다 → **써 놓다**<br>만들다 → 만들**어 놓다** | 준비하다 → 준비**해 놓다**<br>청소하다 → 청소**해 놓다** |

- 가: 언제 장을 보러 가요? ဘယ်အချိန် ဈေးသွားမှာလဲ။
  나: 벌써 **봐 놓았어요**. ဈေးသွားထားပြီးပြီ။
- 내일까지 문을 **닫아 놓을게요**. မနက်ဖြန်အထိ တံခါးပိတ်ထားပါ့မယ်။
- 먼저 벽돌을 **옮겨 놓으세요**. အုတ်တွေကို အရင် ရွှေ့ထားပါ။



'-아/어 놓다' ကို နားလည်ပြီဆိုရင် အောက်ပါ ဝါကျများကို ဖြည့်ပါ။

2. 대화를 읽고 맞는 답을 고르세요. ဝါကျများကို ဖတ်ပြီး အဖြေမှန်ကို ရွေးပေးပါ။

1) 가: 여기에 있는 벽돌을 어떻게 할까요? ဒီမှာ ရှိနေတဲ့ အုတ်တွေကို ဘယ်လိုလုပ်ရမလဲ။
   나: ______________________.

   ① 저쪽으로 옮기고 있어요　　② 저쪽으로 옮겨 놓으세요

2) 가: 아딧 씨, 콘크리트는 만들어 놓았어요? အာဒိစ် ကွန်ကရစ် ဖျော်ထားပြီးပြီလား။
   나: ______________________.

   ① 네, 다 해 놓았어요　　② 네, 이제 할 거예요

정답 1) ② 2) ①



ထပ်ပြီး လေ့လာကြရအောင်။ '-아/어 놓다' ကို အသုံးပြုပြီး အောက်က ဝါကျများကို ဖြည့်ပါ။

| 쌓다 | 청소하다 | 준비하다 |
|---|---|---|

1. 여기에 상자를 __________ 놓으면 돼요.
2. 회의 자료를 미리 __________ 놓으세요.
3. 퇴근 전까지 작업장을 __________ 놓으세요.

정답 1. 쌓아 2. 준비해 3. 청소해



## 대화 2 စကားပြော ၂

Track 134



မိုနီခါက လက်ထောက်မန်နေဂျာနဲ့ ပြောနေတာကို နားထောင်ရအောင်။ နစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

대　리　모니카 씨, 내일 오전에 납품할 물건 포장은 다 끝났지요?
မိုနီခါ မနက်ဖြန် မနက် သွင်းရမယ့် ပစ္စည်းတွေ ပါကင်ထုပ်ပြီးသွားပြီမလား။

모니카　네, 대리님. 크기별로 분류해서 따로 포장해 놓았어요. 한번 확인해 보시겠어요?
ဟုတ်ကဲ့၊ ဆရာ။ အရွယ်အစားအလိုက် ခွဲပြီး ထုပ်ပိုးထားပါတယ်။ တစ်ချက်လောက် စစ်ကြည့်ပေးပါလား။

> **따로 သပ်သပ်စီ/သီးခြား/တစ်နေရာစီ**
> - 일 때문에 나는 가족과 따로 살고 있어요.
>   အလုပ်ကြောင့် ငါက မိသားစုနဲ့ တစ်နေရာစီ နေနေတယ်။
> - 기차에 자리가 없어서 아내와 따로 앉았어요.
>   ရထားပေါ်မှာ နေရာ မရှိလို့ ဇနီးနဲ့ တစ်နေရာစီ ထိုင်ခဲ့တယ်။

대　리　좋아요. 같이 가 봅시다.
음, 대자가 30박스, 중자가 40박스…….
어, 그런데 소자가 왜 30박스밖에 안 돼요?
အိုကေ၊ အတူတူ သွားကြည့်ရအောင်။
အင်း....အကြီးက အခု သုံးဆယ်၊ အလတ်ဆိုဒ်က အခု လေးဆယ်........ အော်.. ဒါနဲ့ အသေးက ဘာလို့ ပုံး အခု သုံးဆယ်အပြင် မရှိတာလဲ။

> **밖에 ကလွဲလို့၊ အပြင်**
> အနောက်တွင် အငြင်းစကားလုံးဖြင့် တွဲရက် အသုံးပြုသည်။
> - 우리 사장님은 일밖에 모르세요.
>   ကျွန်တော်တို့ သူဌေးကတော့ အလုပ်ကလွဲလို့ မသိဘူး။
> - 우리 회사는 일요일밖에 안 쉬어요.
>   ကျွန်တော်တို့ ကုမ္ပဏီကတော့ တနင်္ဂနွေနေ့ ကလွဲလို့ မနားဘူး။

모니카　네? 30박스 아닌가요?
အမ်။ ပုံး အခု သုံးဆယ် မဟုတ်ဘူးလား။

대　리　여기 주문서에 32박스라고 되어 있잖아요. 가서 물건 있는지 빨리 확인해 보세요.
ဒီ အော်ဒါစာရွက်မှာ ၃၂ ပုံးလို့ ရေးထားတယ်လေ။ ပစ္စည်း ရှိသေးလား မြန်မြန် သွားစစ်ကြည့်။



နားထောင်ပြီး လိုက်ဆိုကြည့်ပြီးပြီလား။ ဒါဆို အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 모니카 씨가 포장한 물건은 언제 납품할 거예요?
   မိုနီခါက ထုပ်ပိုးနေသော ပစ္စည်းတွေ ဘယ်အချိန် ပြန်ပို့ပေးရမလဲ။
2. 소자 박스는 몇 박스를 납품해야 해요?
   ဆိုဒ်အသေး ပုံးက ဘယ်နခု ပြန်ပို့ပေးရမလဲ။

정답 1. 내일 오전에 납품할 거예요. 2. 32박스를 납품해야 해요.



## 어휘 2 စကားပြော ၂

## 유통업 포장 ဖြန့်ဖြူးပို့ဆောင်ရေးလုပ်ငန်း ပါကင်ထုပ်ပိုးခြင်း



ပစ္စည်း ဖြန့်တဲ့ နေရာမှာ အလုပ်လုပ်ဖူးပါသလား။ ထုပ်ပိုး ဖြန့်ဝေတာနဲ့ ပတ်သက်တဲ့ ဝေါဟာရတွေ လေ့လာသင်ယူရအောင်။




분류하다
အမျိုးအစား ခွဲသည်



싸다/포장하다
ထုပ်ပိုးသည်



담다/넣다
ထည့်သည်



묶다
ချည်နှောင်သည်



나르다
သယ်ဆောင်သည်



쌓다
ဆင့်သည်၊ ပုံသည်



싣다
ဝန်တင်သည်



내리다
ဝန်ချသည်



출하하다
ဝန်သယ်သည်



납품하다
ပြန်ပို့သည်



အပေါ်က ဝေါဟာရများကို မကြည့်ဘဲ အောက်ပါ ကွက်လပ်များ ဖြည့်ပါ။

1. 그림에 맞는 표현을 〈보기〉에서 골라 넣으세요.
ပုံနှင့် ကိုက်ညီသော စကားလုံးကို ဥပမာမှ ရွေးထည့်ပေးပါ။

1) ____ → 2) ____ → 3) ____ → 4) ____ → 5) ____

보기: 분류하다 나르다 묶다 포장하다 담다

정답 1) 분류하다 2) 포장하다 3) 담다 4) 묶다 5) 나르다

# 문법 2 သဒ္ဒါ ၂ -지요




ပြောသူက နားထောင်သူသည် အဖြစ်အပျက် သို့မဟုတ် အခြေအနေတစ်ခုကို ကြိုတင် သိနေသည်ဟု ယူဆချိန်တွင်လည်းကောင်း၊ ပြောသူမှ နားထောင်သူ၏ ထောက်ခံမှုကို ရယူသည့် အချိန်တွင်လည်းကောင်း အသုံးပြုသည်။ လှုပ်ရှားမှုပြ၊ ဖြစ်ခြင်းပြ၊ ဂုဏ်ရည်ပြ ကြိယာ '-지요?'၊ နာမ်ကို '(이)지요?'နှင့် တွဲသုံးသည်။

| 동사 (ကြိယာ) | 형용사 (နာမဝိသေသန) | 명사 (နာမ်) | |
|---|---|---|---|
| **-지요** | **-지요** | 자음 (ဗျည်း) → **이지요** | 모음 (သရ) → **지요** |
| 알다 → 알**지요**<br>보다 → 보**지요** | 작다 → 작**지요**<br>크다 → 크**지요** | 학생 → 학생**이지요**<br>의사 → 의사**지요** | |

- 거래처에 물건을 **보냈지요**? ပါတနာကုမ္ပဏီဆီကို ပစ္စည်းတွေ ပို့လိုက်ပြီမဟုတ်လား။
- 작업장을 정리하고 **있지요**? အလုပ်ခန်းကို သန့်ရှင်းရေး လုပ်ပြီးပြီမဟုတ်လား။
- 이반 씨는 미얀마 **사람이지요**? အီဗန်က မြန်မာလူမျိုးဟုတ်တယ်မဟုတ်လား။



'-지요?' ကို နားလည်ပြီလား။ ဒါဆိုရင် အောက်ပါ မေးခွန်းများကို ဖြေကြည့်ပါ။

2. 그림을 보고 '-지요?'를 사용해서 대화를 완성하세요. '-지요?' ကို သုံးပြီး အောက်ပါ ဝါကျများကို ဖြည့်ပါ။

1) 


가: 물건은 크기별로 ________________?
ပစ္စည်းတွေကို အရွယ်အစားအလိုက် ခွဲထားပြီးပြီလား။
나: 네, 분류해 놓았어요. ဟုတ်ကဲ့။ ခွဲထားပြီးပါပြီ။

2) 

가: 상품은 모두 상자에 ________________?
ပစ္စည်းတွေကို ကတ်ထူပုံးထဲ အကုန် ထည့်ပြီးပြီလား။
나: 네, 포장한 후에 담아 놓았어요. ဟုတ်ကဲ့။ ပါကင်ထုပ်ပြီး ထည့်လိုက်ပါပြီ။

3)

가: 물건 모두 차에 ________________?
ပစ္စည်းတွေ အကုန် ကားထဲ တင်ပြီးပြီလား။
나: 네, 이제 출발하시면 됩니다. ဟုတ်ကဲ့။ အခု ထွက်လို့ ရပါပြီ။

정답 1) 분류했지요 2) 담았지요 3) 실었지요



ထပ်ပြီး လေ့လာကြရအောင်။ '-지요?' နဲ့ ပတ်သက်တဲ့ မေးခွန်းတွေ ဖြေကြည့်ပါ။

1. 가: 가구 공장에서 __________?
나: 네, 가구 공장에서 일하고 있어요.

2. 가: 이번 휴가 때 고향에 __________?
나: 아니요, 이번에는 고향에 못 가요.

정답 1. 일하지요 2. 가지요



## 활동 အသုံးချသင်ခန်းစာများ

**어떤 작업을 했어요? 〈보기〉처럼 작업을 확인해 보세요.**
ဘာအလုပ် လုပ်ခဲ့လဲ။ ဥပမာပေးထားတဲ့အတိုင်း ဖြေကြည့်ပါ။

보기



철근을 옮기다
သံချောင်း ရွှေ့သည်။

가: 철근을 옮겨 놓았지요?
သံချောင်းတွေ ရွှေ့ထားပြီးပြီမဟုတ်လား။
나: 네, 옮겨 놓았어요
ဟုတ်ကဲ့၊ ရွှေ့ထားပြီးပါပြီ။



철근을 옮기다
သံချောင်း ရွှေ့သည်။

가: 철근을 옮겨 놓았지요?
သံချောင်းတွေ ရွှေ့ထားပြီးပြီမဟုတ်လား။
나: 아니요, 지금 옮기고 있어요
ဟင့်အင်း၊ အခု ရွှေ့နေတယ်။

1) 

상품을 포장하다

2) 

철근을 조립하다

3) 

거푸집을 설치하다

4) 


상품을 분류하다

정답
1) 가: 상품을 포장해 놓았지요?
나: 아니요, 지금 포장하고 있어요.
2) 가: 철근을 조립해 놓았지요?
나: 아니요, 지금 조립하고 있어요.
3) 가: 거푸집을 설치해 놓았지요?
나: 네, 설치해 놓았어요.
4) 가: 상품을 분류해 놓았지요?
나: 네, 분류해 놓았어요.





# 건설 현장의 중장비

## ဆောက်လုပ်ရေးလုပ်ငန်းခွင်သုံး စက်ပစ္စည်းကြီးများ



지게차
ပစ္စည်းမတင်ရွှေ့ပြောင်းယာဉ်

짐을 싣고 위아래로 움직여서 짐을 나릅니다.
ဝန်တင်ပြီး အပေါ်အောက် ရွှေ့လျား၍ ပစ္စည်းများ မတင်သယ်ဆောင်ပါသည်။



크레인(기중기)
ကရိန်း

무거운 물건을 들어 올려 아래위나 수평으로 이동시킵니다.
လေးပင်သော ပစ္စည်းများကို မ-ပြီး အထက် အောက် သို့မဟုတ် ဘေးတိုက် ရွှေ့ပေးသည်



화물차(트럭)
ထရပ်

화물을 실어 나릅니다.
ဝန်များကို သယ်ဆောင်ပို့ပေးသည်။



굴착기
မြေတူးစက်

땅이나 암석 따위를 파거나 파낸 것을 처리합니다.
မြေ သို့မဟုတ် ကျောက်များကို တူးရာတွင် သို့မဟုတ် ကလော်ထုတ်ရာတွင် သုံးသည်။



불도저
ဘူဒိုဇာ

흙을 밀어 내어 땅을 다지거나 지면을 고르고 평평하게 합니다.
ရွှံ့မြေကို တွန်းထုတ်ပြီး မြေဖိသိပ်ပေးသည် သို့မဟုတ် မြေမျက်နှာပြင် ညှိပေးသည်။



트랙터
ထွန်စက်

무거운 짐이나 농기계를 끕니다.
လေးပင်သော ပစ္စည်း သို့မဟုတ် လယ်ယာသုံး စက်များကို ဆွဲရာတွင် သုံးသည်။



덤프트럭
မြေသယ်စက်

자갈, 모래, 석탄, 쓰레기 따위를 나릅니다.
ကျောက်စရစ်၊ သဲ၊ မီးသွေး၊ အမှိုက် စသည်တို့ကို သယ်ဆောင်သည်။



그레이더
မြေညှိစက်

땅바닥을 깎아 고릅니다.
မြေမျက်နှာပြင်ကို တွန်းညှိပေးသည်။



레미콘
ကွန်ကရစ်ဖျော်စက်

콘크리트가 굳지 않도록 개면서 운반합니다.
သယ်ဆောင်နေစဉ် ကွန်ကရစ် မခဲစေရန် မွှေပေးသည်။



မေးခွန်း ၁နဲ့ ၂မှာ မေးခွန်းနဲ့ သက်ဆိုင်သော ပုံကို ရွေးပေးရမှာ ဖြစ်တယ်။ နားမထောင်မီ မေးခွန်းကို သေချာဖတ်ပါ။

[1~2] 잘 듣고 내용과 관계있는 그림을 고르십시오
အသေအချာ နားထောင်ပြီး အကြောင်းအရာနှင့် ဆက်စပ်မှု ရှိသော ပုံကို ရွေးပေးပါ။

Track 135



1. ① ② ③ ④

2. ① ② ③ ④



မေးခွန်း ၃နဲ့ ၄မှာ မေးခွန်းအတွက် အဖြေမှန်ကို ရွေးပေးရမယ်။ မေးခွန်း ၅က မေးခွန်းကို နားထောင်ပြီး ဖြေပေးရမယ်။ နားမထောင်မီ မေးခွန်းကို သေချာဖတ်ပါ။

[3~4] 질문을 듣고 알맞은 대답을 고르십시오.
မေးခွန်းကို နားထောင်ပြီး အသင့်တော်ဆုံးသော အဖြေကို ရွေးပေးပါ။

3. ① 아니요, 분류했어요. ② 네, 벌써 해 놓았어요.
③ 네, 아직 안 했을 거예요. ④ 아니요, 분류해 놓았어요.

4. ① 글쎄요. 확인해 볼게요. ② 아니요, 벌써 끝났어요.
③ 그럼요. 땅을 파고 있어요. ④ 네, 이제 시작할 거예요.

5. 이야기를 듣고 질문에 알맞은 대답을 고르십시오.
မေးခွန်းကို နားထောင်ပြီး အဖြေမှန်ကို ရွေးပေးပါ။

앞으로 해야 할 작업이 아닌 것은 무엇입니까?
ရှေ့လျှောက် လုပ်ရမယ့် အလုပ် မဟုတ်တာကို ရွေးပေးပါ။

① 철근 조립 ② 거푸집 설치
③ 콘크리트 확인 ④ 콘크리트 타설

### 듣기 대본 စာသား

1. 여: 오전에 무슨 작업을 했어요? မနက်က ဘာအလုပ် လုပ်ခဲ့လဲ။
   남: 벽돌을 옮겼어요. အုတ်တွေ ရွှေ့ခဲ့တယ်။
2. 여: 상품을 포장해 놓았어요? ပစ္စည်းတွေ ထုပ်ပိုးထားပြီးပြီလား။
   남: 네, 포장해 놓았어요. ဟုတ်ကဲ့၊ ထုပ်ပိုးထားပြီးပါပြီ။
3. 남: 상품은 모두 분류해 놓았어요? ပစ္စည်းတွေ အကုန် အမျိုးအစားလိုက်ခွဲထားပြီးပြီလား။
4. 남: 공사장에서 땅을 파는 작업이 끝났지요?
   ဆောက်လုပ်ရေးဆိုဒ်မှာ မြေတူးတဲ့ အလုပ် ပြီးပြီမလား။
5. 남: 이제 거푸집 설치 작업이 끝났으니까 철근 조립 작업과 콘크리트 타설 작업을 시작하겠습니다. A조는 철근을 3층으로 옮겨 놓으세요. 그리고 강 반장님은 콘크리트 좀 확인해 주세요. 강 반장님, 레미콘은 이미 들어 왔지요?
   အခု ကွန်ကရစ်မို ဆောက်ပြီးပြီမို့လို့ သံချောင်းဆင်တာနဲ့ ကွန်ကရစ် လောင်းတာကို စလို့ ရပါပြီ။ အေအသင်းက သံချောင်းတွေကို သုံးလွှာဆီ ရွှေ့ထားပေးပါ။ ပြီးတော့ ဆရာဂန်းက ကွန်ကရစ်ကို တစ်ချက် စစ်ကြည့်ပေးပါဦး။ ဆရာဂန်း၊ ကွန်ကရစ်ဖျော်စက် ရောက်လာပြီမလား။ ဆရာဂန်း၊ ကွန်ကရစ်ဖျော်စက် ရောက်လာပြီမလား။

정답 1. ① 2. ③ 3. ② 4. ① 5. ②



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်




1. 대화를 듣고 질문에 알맞은 것을 고르십시오.
   မေးခွန်းကို နားထောင်ပြီး သင့်တော်သော အဖြေကို ရွေးပေးပါ။

   대화 후 남자는 무엇을 하겠습니까? စကားပြောပြီးနောက် ယောကျ်ားလေးက ဘာလုပ်မလဲ။

   ① 창고에 갑니다.
   ② 바닥을 닦습니다.
   ③ 페인트를 칠합니다.
   ④ 기름을 가지러 갑니다.

### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

여: 수루 씨, 기름 때문에 바닥이 미끄러우니까 바닥 좀 닦아 주세요.
   ဆုရူ၊ ဆီကြောင့် ကြမ်းက ချော်နေလို့ ကြမ်းသုတ်ပေးပါ။
남: 네, 알겠습니다. ဟုတ်ကဲ့၊ ကောင်းပါပြီ။
여: 그리고 페인트칠을 해야 하니까 창고에 가서 페인트도 좀 가져다주세요.
   ပြီးတော့ ဆေးလည်း သုတ်ရဦးမှာမို့ ဂိုဒေါင်ကို သွားပြီး သုတ်ဆေးလည်း ယူလာပေးပါ။
남: 알겠습니다. 빨리 닦고 창고에 다녀올게요.
   ဟုတ်ကဲ့။ မြန်မြန် သုတ်ပြီး ဂိုဒေါင်ကို သွားလိမ့်ပါ့မယ်။

정답 1. ②



## EPS-TOPIK 읽기 EPS-TOPIK အဖတ် စာမေးပွဲ



မေးခွန်း ၁နဲ့ ၂မှာ ပုံကို ကြည့်ပြီး မေးခွန်းဖြေပေးရမှာ ဖြစ်ပါတယ်။ ခုနက လေ့လာသင်ယူခဲ့တာတွေ သုံးပြီး အောက်က မေးခွန်းတွေ ဖြေကြည့်ရအောင်။

[1~2] 다음 그림을 보고 맞는 단어나 문장을 고르십시오.
ပုံကို ကြည့်ပြီး အသင့်တော်ဆုံးသော စကားလုံး သို့မဟုတ် ဝါကျကို ရွေးပေးပါ။

1. 

① 벽돌 ② 철근
③ 비계 ④ 시멘트

2. 


① 상품을 쌓고 있습니다. ② 상품을 내리고 있습니다.
③ 상품을 분류하고 있습니다. ④ 상품을 상자에 담고 있습니다.



မေးခွန်း ၃နဲ့ ၄က သင့်တော်တဲ့ စကားလုံးကို ရွေးပေးရမှာပါ။ မေးခွန်း ၅ကတော့ စာပိုဒ်ကို ဖတ်ပြီး အဖြေမှန်ကို ရွေးပေးရမှာပါ။

[3~4] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်တွင် အသင့်တော်ဆုံးသော အဖြေကို ဖြည့်ပေးပါ။

3.
가: 반장님, 몇 개씩 포장할까요? ဆရာ ဘယ်နှခုစီ ထုပ်ပိုးပေးရမလဲ။
나: 제품을 열 개씩 모아서 상자에 ______ 됩니다.
ပစ္စည်းကို ဆယ်ခုစီ စုပြီး ပုံးထဲ ထည့်ရင် ရပြီ။

① 넣으면 ② 만들면 ③ 자르면 ④ 들어가면

4.
가: 굴착기로 땅을 ______ 놓으세요. မြေတူးစက်နဲ့ မြေကို တူး ထားပါ။
나: 네, 알겠습니다. ဟုတ်ကဲ့၊ သိပါပြီ။

① 파 ② 싸 ③ 묶어 ④ 담아

5. 다음 질문에 답하십시오. မေးခွန်းဖြေပေးပါ။

〈작업 현황〉 အလုပ် ပြီးစီးမှု အခြေအနေ
**상품 분류** ☑ 크기별로 분류 ပစ္စည်းခွဲခြားထားမှု ☑ အရွယ်အစားအလိုက် ခွဲခြားထားမှု
**상품 포장** ☑ 개별 포장 ပစ္စည်းထုပ်ပိုးထားမှု ☑ တစ်ခုချင်းစီ ထုပ်ပိုးထားမှု

상품을 어떻게 분류했습니까? ပစ္စည်းတွေကို ဘယ်လို ခွဲထားတာလဲ။

① 무게에 따라 ② 색깔에 따라 ③ 종류에 따라 ④ 크기에 따라

정답 1. ③ 2. ③ 3. ① 4. ① 5. ④



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~2] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်တွင် အသင့်တော်ဆုံး အဖြေကို ရွေးထည့်ပေးပါ။

1. 고향에 있는 가족에게 소포를 보내야 하는데 아직 포장을 못 했어요. 우체국에 가서 ________ 를 사서 포장해야겠어요.
မွေးရပ်မြေမှာ ရှိတဲ့ မိသားစုဆီကို ပါဆယ် ပို့ရမှာကို ပါကင် အခုထိ မထုပ်ရသေးဘူး။ စာတိုက်ကို သွားပြီး ကတ်ထူပုံး ဝယ်ပြီး ပါကင်ထုပ်မှ ရမယ်။

① 엽서 ② 상자 ③ 우표 ④ 편지지

2. 작업장이 너무 ________ 작업하기가 힘듭니다. 그래서 반장님께 전등을 바꿔 달라고 했습니다.
အလုပ်ခွင်က အရမ်း မှောင်လို့ အလုပ်လုပ်ရတာ အဆင်မပြေဘူး။ ဒါကြောင့် အလုပ်ကြီးကြပ်သူ မီးလုံး ပြောင်းပေးပါလို့ ပြောခဲ့တယ်။

① 추워서 ② 어두워서 ③ 위험해서 ④ 시끄러워서

3. 다음 글의 내용과 같은 것은 무엇입니까?
အောက်ပါ စာပိုဒ်ထဲက အကြောင်းအရာနဲ့ တူတာက ဘာလဲ။

오늘 회사와 재계약을 했습니다. 포장부에서 조립부로 옮기면서 야간 근무도 하게 되었습니다. 그렇지만 월급이 인상되었고 보너스도 받을 수 있게 되어서 좋습니다. 다음 달부터는 식비를 공장에서 부담해 주기로 했습니다.
ဒီနေ့ ကုမ္ပဏီနဲ့ စာချုပ် ထပ်ချုပ်ခဲ့တယ်။ ပါကင်ပိတ်တဲ့ ဌာနကနေ တပ်ဆင်တဲ့ ဌာနကို ပြောင်းသွားတာကြောင့် ညဆိုင်းအလုပ်လုပ်ဖို့ ဖြစ်လာပါတယ်။ ဒါပေမဲ့ လစာက တိုးသွားပြီး ဘိုးနပ်စ် ရနိုင်တာမို့လို့ ကျေနပ်ပါတယ်။ နောက်လကစပြီး စားသောက်စရိတ်ကို စက်ရုံက ပေးမယ်လို့ပြောပါတယ်။

① 이 사람의 월급은 내려갈 것입니다.
② 이 사람은 낮에만 일하게 되었습니다.
③ 이 사람은 앞으로 식비를 다 내야 합니다.
④ 이 사람은 새로운 업무로 재계약을 했습니다.

정답 1. ② 2. ② 3. ④




# 페인트 작업을 했거든요

ဆေးသုတ်ထားလို့ပါ။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** အလုပ်ခန်း ပတ်ဝန်းကျင်အခြေအနေကို ဖော်ပြခြင်း၊ နေရာတကျ သိမ်းဆည်းခြင်း
- □ **သဒ္ဒါ** -거든요, -아지다/어지다
- □ **ဝေါဟာရနှင့် အသုံးများ**
  စွင့်ပစ်ပစ္စည်းနဲ့ အလုပ်ခန်း ပတ်ဝန်းကျင် သန့်ရှင်းရေးသုံးပစ္စည်းများ
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု**
  လုပ်ငန်းသုံး ကိရိယာများ နေရာတကျ သိမ်းဆည်းခြင်း



## 대화 1 စကားပြော ၁






ရီဟန်နဲ့ ထူအန်း ပြောနေတာကို နှစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

**투안** 어, 리한 씨, 무슨 냄새 나지 않아요? 작업장도 아주 엉망이고요.
ရီဟန်ရေ အနံ့ တစ်ခုခု မရဘူးလား။ အလုပ်ရုံလည်း အရမ်းရှုပ်ပွနေတာပဲ။

**리한** 어제 늦게까지 페인트 작업을 했거든요. 너무 늦어서 정리를 하나도 못하고 퇴근했어요.
မနေ့က နောက်ကျတဲ့ထိ ဆေးသုတ်ထားလို့ပါ။ အရမ်းနောက်ကျသွားလို့ တစ်ခုမှ မသိမ်းနိုင်ဘဲ အလုပ်ဆင်းသွားတာ။

**투안** 일 시작하기 전에 환풍기 돌려서 환기부터 해야겠어요. 리한 씨는 작업 도구 먼저 정리해 주세요. 작업 도구는 쓰고 나서 바로바로 정리해야 해요. 안 그러면 나중에 못 쓸 수도 있거든요.
အလုပ် မစခင် ပန်ကာကို ဖွင့်ပြီး လေဝင်လေထွက် ကောင်းအောင် လုပ်မှရမယ်။ ရီဟန်က ကိရိယာပစ္စည်းတွေကို အရင်ဆုံး သိမ်းဆည်းပေးပါ။ ကိရိယာပစ္စည်းတွေက သုံးပြီးရင် ချက်ချင်း သိမ်းရမယ်။ မဟုတ်ရင် နောက်ခါ သုံးလို့မရဘဲ နေမယ်။

**리한** 네, 제가 얼른 치울게요.
ဟုတ်ကဲ့၊ အမြန် သိမ်းဆည်းလိုက်ပါမယ်။

> **하나도 တစ်စက်မှ၊ တစ်ခုမှ**
> အငြင်းစကားလုံးတွေနဲ့ တွဲပြီး လုံး၀/နည်းနည်းလေးမှ ဆိုတဲ့ အဓိပ္ပါယ်ရှိပါတယ်။
> - 점심을 못 먹었는데 배가 하나도 안 고파요.
>   နေ့လည်စာ မစားနိုင်ခဲ့ပေမဲ့ တစ်စက်မှ ဗိုက်မဆာဘူး။
> - 한국어는 조금 할 수 있지만 일본어는 하나도 못해요.
>   ကိုရီးယားစကား နည်းနည်း တတ်ပေမဲ့ ဂျပန်စကားတော့ တစ်ခုမှ မတတ်ဘူး။

> **바로바로 ချက်ချင်း**
> - 할 일이 있으면 바로바로 하는 것이 좋다.
>   လုပ်စရာ အလုပ် ရှိရင် ချက်ချင်း လုပ်တာ ကောင်းတယ်။
> - 무슨 일이 있으면 바로바로 알려 주세요.
>   ဘာကိစ္စပဲ ရှိရှိ ချက်ချင်း အသိပေးပါ။



နားထောင်ပြီး လိုက်ဆိုကြည့်ပြီးပြီလား။ ဒါဆို အောက်က မေးခွန်းတွေ ဖြေပေးပါ။

1. 작업장에 나는 냄새는 무슨 냄새예요? လုပ်ငန်းခွင်မှာ ဘာအနံ့ ရလဲ။
2. 리한 씨는 먼저 무슨 일을 할 거예요? ရီဟန်က အရင်ဆုံး ဘာလုပ်မလဲ။

정답 1. 페인트 냄새예요. 2. 작업 도구를 정리할 거예요.





## 어휘 1 ဝေါဟာရ ၁ 작업장 환경 အလုပ်ခန်း ပတ်ဝန်းကျင်



အလုပ်ခန်း ပတ်ဝန်းကျင်နဲ့ ပတ်သက်တဲ့ ဝေါဟာရတွေကို လေ့လာသင်ယူရအောင်။



더럽다
ညစ်ပတ်သည်



깨끗하다
သန့်ရှင်းသည်



엉망이다
ရှုပ်ပွသည်



정리가 잘 되어 있다
နေရာတကျ ရှိသည်



냄새가 심하다
အနံ့ ဆိုးရွားသည်




소음이 심하다
ဆူညံလွန်းသည်



쾌적하다
လန်းဆန်း လတ်ဆတ်သည်



버리다
လွှင့်ပစ်သည်




치우다
သိမ်းဆည်းသည်



정리하다
နေရာတကျလုပ်သည်



환기하다
လေဝင်လေထွက် ကောင်းအောင် လုပ်သည်



အပေါ်မှ ဝေါဟာရကို မကြည့်ဘဲ အောက်မှ မေးခွန်းများကို ဖြေကြည့်ပါ။

1. 빈칸에 맞는 표현을 〈보기〉에서 골라 문장을 완성하세요.
ကွက်လပ်တွင် ဆီလျော်သော စကားလုံးကို ဥပမာမှ ရွေးပြီး ဖြည့်စွက်ပါ။




보기
치우다
환기하다
버리다
정리하다

1) 쓰레기를 ______________.  2) 페인트 통을 ______________.

3) 작업 도구를 ______________.  4) 창문을 열고 ______________.

정답 1) 버려요 2) 치워요 3) 정리해요 4) 환기해요

## 문법 1 သဒ္ဒါ ၁ -거든요




ရှေ့တွင် ဖြစ်ပြီးသော အခြေအနေ သို့မဟုတ် အပြုအမူနှင့် ပတ်သက်သော အကြောင်းပြချက်ကို ဖော်ပြချိန်တွင် သုံးသည်။ လှုပ်ရှားမှုပြ၊ ဖြစ်ခြင်းပြ၊ ဂုဏ်ရည်ပြကြိယာတွင် ပေါင်းစပ်တွဲသုံးပြီး နာမ်တွင် 'နာမ်+이다' ပုံစံဖြင့် သုံးသည်။

| 동사 (ကြိယာ) | 형용사 (နာမဝိသေသန) | 명사 (နာမ်) | |
|---|---|---|---|
| -거든요 | -거든요 | 자음 (ဗျည်း) → **이거든요** | 모음 (သရ) → **거든요** |
| 자다 → 자**거든요**<br>울다 → 울**거든요** | 싸다 → 싸**거든요**<br>좋다 → 좋**거든요** | 학생 → 학생**이거든요**<br>휴가 → 휴가**거든요** | |

- 가: 작업장이 정말 깨끗하네요. အလုပ်ခန်းက တကယ် သန့်ရှင်းနေတာပဲ။
  나: 오전에 청소를 **했거든요**. မနက်ပိုင်း သန့်ရှင်းရေး လုပ်တာမလို့လေ။
- 가: 내일부터 일주일 동안 쉬어요? မနက်ဖြန်ကစပြီး တစ်ပတ်လောက် နားတာလား။
  나: 네, **여름 휴가거든요**. အင်း။ နွေပိတ်ရက်မို့လို့လေ။



'-거든요' ကို နားလည်ပြီဆိုရင် သင့်တော်တဲ့ စကားလုံးတွေနဲ့ အောက်ပါ ဝါကျများကို ဖြည့်ပါ။

2. 그림을 보고 '-거든요'를 사용해서 대화를 완성하세요.
ပုံကြည့်ပြီး '-거든요' ကို အသုံးပြု၍ ဝါကျများကို ဆက်ပေးပါ။

1) 

가: 작업장이 아주 깨끗하네요. အလုပ်ခန်းက အရမ်း သန့် ရှင်းနေတာပဲ။
나: 그렇죠? 어제 ______________________.
ဟုတ်တယ်။ မနေ့က သန့်ရှင်းရေး လုပ်ထားလို့လေ။

2) 

가: 밖이 왜 이렇게 시끄러워요? အပြင်မှာ ဘာလို့ အဲ့လောက် ဆူညံနေတာလဲ။
나: 지금 ______________________.
အခု ဆောက်လုပ်ရေးလုပ်နေလို့။

정답 1) 청소했거든요 2) 공사를 하고 있거든요



ထပ်ပြီး လေ့လာကြရအောင်။ '-거든요' ကို သုံးပြီး အောက်ပါ ဝါကျများကို ဖြည့်ပါ။

1. 시장에서 장을 봤어요. 시장이 물건 값이 ______________________.
ဈေးမှာ ဈေးသုံးခဲ့တယ်။ ဈေးမှာ ပစ္စည်းတွေ ဈေးသက်သာလို့ပါ။

2. 오늘은 야근을 해야 돼요. 일이 ______________________.
ဒီနေ့ ညဆိုင်း ဆင်းရမယ်။ အလုပ်တွေ များလို့ ပါ။

정답 1) 싸거든요 2) 많거든요



## 대화 2 စကားပြော ၂

Track 137



ဟူအောင်းနဲ့ ဆူဖီခါတို့ဟာ စိုက်ခင်းပိုင်ရှင်နဲ့ စကားပြောနေကြတယ်။ သူတို့ ပြောနေတာကို နှစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

**주인 아주머니** 매일 치워도 이렇게 분뇨가 쌓이니까 치우기 너무 힘들지요?
နေ့တိုင်း သိမ်းဆည်းနေတာတောင် ဒီလို မစင်အညစ်အကြေးတွေ ပုံနေတော့ သိမ်းဆည်းရတာ အရမ်းပင်ပန်းတယ်မဟုတ်လား။

**흐 엉** 좀 힘들기는 한데요. 그래도 하루라도 안 치우면 너무 지저분해지잖아요.
နည်းနည်းတော့ ပင်ပန်းတာပေါ့။ ဒါပေမဲ့လည်း တစ်ရက်လောက် မသိမ်းဆည်းရင် အရမ်း ရှုပ်ပွညစ်ပတ်သွားလို့ပါ။

**수피카** 맞아요. 그런데 사모님, 어제 보니까 분뇨 버리는 곳에 다른 쓰레기도 많던데 따로 분리해서 버려야 하는 거 아니에요?
ဟုတ်တယ်။ ဒါနဲ့ အဒေါ် မနေ့က တွေ့တာ မစင်အညစ်အကြေး လွှင့်ပစ်တဲ့ နေရာမှာ တခြားအမှိုက်တွေလည်း အများကြီးပဲ။ သီးသန့်ခွဲပြီး လွှင့်ပစ်ရမှာ မဟုတ်ဘူးလား။

**주인 아주머니** 안 그래도 사장님이 폐기물 처리하는 것 때문에 시청에 가셨어요. 처리 방법이 좀 까다로워져서 교육 받고 오시면 말씀 하실 거예요.
အဲ့သလို မဟုတ်ရင်တောင် သူဌေးက စွန့်ပစ်ပစ္စည်းဆောင်ရွက်မှုနဲ့ ပတ်သက်ပြီး မြို့တော်ရုံးကို သွားလိုက်တယ်။ အမှိုက် လွှင့်ပစ်တဲ့ နည်းလမ်းက ပိုပြီး စည်းကမ်းတင်းကြပ်လာတာမို့ ပညာပေးပို့ချတာ နားထောင်ပြီး ပြန်လာရင် ပြန်ပြောပြလိမ့်မယ်။

> **그래도 ဒါပေမဲ့လည်း**
> - 일이 많아서 힘들어요. 그래도 행복해요.
>   အလုပ်များလို့ ပင်ပန်းတယ်။ ဒါပေမဲ့လည်း ပျော်ပါတယ်။
> - 아침부터 머리가 많이 아팠어요. 그래도 일하러 나왔어요.
>   မနက်ကတည်းက ခေါင်း အရမ်း ကိုက်တာ။ ဒါပေမဲ့လည်း အလုပ်လုပ်ဖို့ ထွက်လာခဲ့တယ်။

> **안 그래도**
> **မဟုတ်လည်း၊ မ V ရင်တောင်**
> - 먼저 전화하셨네요. 안 그래도 전화드리려고 했습니다.
>   ဖုန်း အရင် ဆက်လာတာပဲ။ မဟုတ်လည်း ဖုန်းဆက်မလို့ လုပ်နေတာ။
> - 가: 내일 백화점에 같이 갈래요?
>   မနက်ဖြန် ကုန်တိုက် အတူတူ သွားမလား။
>
>   나: 안 그래도 가려고 했었는데 잘됐네요.
>   မမေးရင်တောင် သွားမယ်လို့ လုပ်ထားတာ အကိုက်ပဲ။



နားထောင်ပြီး လိုက်ဆိုကြည့်ပြီးပြီလား။ ဒါဆို မေးခွန်းတွေ ဖြေကြည့်ရအောင်။

1. 사장님은 지금 어디에 가셨어요? သူဌေး အခု ဘယ်သွားတာလဲ။
2. 분뇨는 얼마나 자주 치워요? မစင်အညစ်အကြေးတွေကို ဘယ်လောက် မကြာခဏ သိမ်းဆည်းလဲ။

정답 1. 시청에 가셨어요. 2. 분뇨는 매일 치워요.

**စကားလုံး အသစ်များ**

처리하다 ဆောင်ရွက်သည်၊ ကိုင်တွယ်သည် 분리하다 သီးသန့်ခွဲသည် 까다롭다 စည်းကမ်းတင်းကြပ်သည်၊ ဇျေးများသည်

## 어휘 2 စကားပြော ၂

### 폐기물과 정리 도구 စွန့်ပစ်ပစ္စည်းများနှင့် သန့်ရှင်းရေးသုံးပစ္စည်းများ

စွန့်ပစ်ပစ္စည်း သန့်ရှင်းရေးသုံးပစ္စည်းများနဲ့ ပတ်သက်တဲ့ ဝေါဟာရတွေကို လေ့လာသင်ယူရအောင်။

| | | | |
|---|---|---|---|
| 폐기물<br>စွန့်ပစ်ရေ | 폐수<br>စွန့်ပစ်ဆီ | 폐유<br>လေသန့်ပန်ကာ | 분뇨/배설물<br>မစင်အညစ်အကြေး |
| 환풍기<br>ပန်ကာ | 손수레<br>လက်တွန်းလှည်း | 일륜차<br>တစ်ဘီး လက်တွန်းလှည်း | |
| 사다리<br>လှေကား | 마대<br>မိုးကာဖျင်ကြမ်းအိတ် | 바구니<br>တောင်း | 비닐 끈<br>ပလတ်စတစ်ကြိုး |



အပေါ်မှ ဝေါဟာရများကို မကြည့်ဘဲ အောက်က မေးခွန်းများကို ဖြေကြည့်ပါ။

1. 그림을 보고 알맞은 말을 연결하세요. ပုံကို ကြည့်ပြီး သင့်တော်သော စကားလုံးနှင့် ချိတ်ဆက်ပေးပါ။




정답 ①-㉢ ②-㉠ ③-㉣ ④-㉡ ⑤-㉤

# 문법 2 သဒ္ဒါ ၂   -아지다/어지다




ဖြစ်ခြင်းပြ ဂုဏ်ရည်ပြကြိယာ၏ အခြေအနေ ပြောင်းလဲလာမှုကို ဖော်ပြသည်။

| ㅏ, ㅗ → **-아지다** | ㅓ, ㅜ, ㅣ စသဖြင့်. → **-어지다** | 하다 → **해지다** |
|---|---|---|
| 작다 → 작**아지다**<br>많다 → 많**아지다** | 크다 → 커**지다**<br>적다 → 적**어지다** | 조용하다 → 조용**해지다** |

- 가: 환풍기를 고치니까 어때요? လေသန့်ပန်ကာ ပြင်လိုက်တော့ ဘယ်လိုနေလဲ။
  나: 실내 공기가 훨씬 **깨끗해졌어요**. အခန်း လေက အများကြီး သန့်ရှင်းသွားတယ်။
- 매일 아침 운동을 하니까 **건강해졌어요**.
  မနက်တိုင်း လေ့ကျင့်ခန်းလုပ်တော့ ကျန်းမာရေး ပိုကောင်းလာတယ်။

'-아지다/어지다' ကို ဖြစ်ခြင်းပြ ဂုဏ်ရည်ပြကြိယာတို့နှင့် တွဲဆက်ပါက လှုပ်ရှားမှုပြကြိယာအဖြစ်သို့ ပြောင်းသွားသည်။ ထို့ကြောင့် '-고 있다' နှင့် အတူတကွ သုံးနိုင်ပြီး လက်ရှိဖြစ်စဉ်ကို ဖော်ပြပေးသည်။

- 날씨가 점점 덥고 있어요. (X)    날씨가 점점 **더워지고 있어요**. (O)
  ရာသီဥတု တဖြည်းဖြည်း ပူလာနေပြီ
- 공장이 점점 깨끗하고 있어요. (X)    공장이 점점 **깨끗해지고 있어요**. (O)
  စက်ရုံက တဖြည်းဖြည်း သန့်ရှင်းလာနေပြီ

### 대조적 정보 နှိုင်းယှဉ်ချက်

'-아지다/어지다' က ကြိယာနဲ့ '지다' ကြားထဲမှာ '아 သို့မဟုတ် 어' ထည့်ပေးရတဲ့ ကိုရီးယားဘာသာစကားရဲ့ ထူးခြားချက်ကလွဲရင် ကျန်တာ တူပါတယ်။

- 날씨가 **더워졌어요**. ရာသီဥတုက ပူလာပြီ။
- 수습 기간이 끝나서 월급이 **많아졌어요**. အစမ်းခန့်ကာလ ပြီးသွားတော့ လစာက များလာပါတယ်။



'-아지다/어지다' ကို နားလည်ပြီဆိုရင် ပေးထားတဲ့ စကားလုံးတွေနဲ့ ဝါကျ ဆက်ကြည့်ပါ။

2. '-아지다/어지다'를 사용하여 문장을 완성하세요. '-아지다/어지다' နဲ့ ဝါကျဆက်ပေးပါ။

1) 강물이 깨끗하다 → 강물이 더럽다

폐수 때문에 ________________________________.

2) 동네가 조용하다 → 동네에 소음이 심하다

공사를 해서 ________________________________.

3) 작업 환경이 나쁘다 → 작업 환경이 쾌적하다

정리 정돈을 잘 하니까 ________________________.

정답 1) 강물이 더러워졌어요 2) 동네에 소음이 심해졌어요 3) 작업 환경이 쾌적해졌어요



## 활동 အသုံးချသင်ခန်းစာများ

다음을 읽고 질문에 답하세요. ဖတ်ပြီး မေးခွန်းကို ဖြေကြည့်ပါ။

### 정리 정돈은 왜 해야 할까요?

ဘာဖြစ်လို့ သန့်ရှင်းရေး လုပ်ပြီး သိမ်းဆည်းသင့်သလဲ။







1. 물건과 장소의 낭비를 줄일 수 있습니다.
   ပစ္စည်းများ နေရာယူမှုနှင့် မလိုအပ်သော နေရာပိုများကို လျှော့ချပေးနိုင်ပါသည်။
2. 안전사고를 예방할 수 있습니다. မတော်တဆ ဖြစ်မှုကို ကာကွယ်ပေးနိုင်ပါသည်။
3. 기계를 오랫동안 잘 사용할 수 있습니다. စက်များ တာရှည်ခံ အသုံးပြုနိုင်ပါသည်။
4. 제품의 품질이 좋아집니다. ထုတ်ကုန် အရည်အသွေး ပိုကောင်းစေပါသည်။
5. 생산 품종이 변경될 때 손실을 줄일 수 있습니다.
   ထုတ်ကုန် အမျိုးအစား ပြောင်းလဲသောအခါ ပျက်စီးပျောက်ဆုံးမှုကို လျှော့ချပေးနိုင်ပါသည်။
6. 즐거운 직장, 발전하는 회사가 될 수 있습니다.
   ပျော်ရွှင်စရာကောင်းသော အလုပ်၊ တိုးတက်သော ကုမ္ပဏီ ဖြစ်စေနိုင်ပါသည်။

1. 읽은 내용과 같으면 ○ 다르면 X에 표시하세요.
   မှန်လျှင် O, မှားလျှင် X ရွေးပါ။

1) 정리를 잘하면 안전사고를 줄일 수 있습니다. ○ X

2) 정리를 잘하면 기계를 빨리 바꿀 수 있습니다. ○ X

3) 정리를 잘하면 회사에서 더 즐겁게 일할 수 있습니다. ○ X

정답 1. 1) O 2) X 3) O

# 작업 도구 정리 정돈

လုပ်ငန်းသုံးကိရိယာများ နေရာတကျ ထားခြင်း



## 사용 목적에 따른 공구 정리

သုံးမည့် ရည်ရွယ်ချက်ပေါ် မူတည်ပြီး ကိရိယာပစ္စည်းများကို နေရာတကျ ထားခြင်း

공구는 많은 종류가 있지만 본래의 목적 이외에 사용하는 것은 위험합니다. 알맞은 종류와 크기의 공구를 사용하기 쉬운 곳에 준비해 두세요.

ကိရိယာပစ္စည်း အမျိုးအစား အများအပြား ရှိသော်လည်း နဂို သတ်မှတ်ထားသည့်အတိုင်း အသုံးမပြုပါက အန္တရာယ်များပါသည်။ ကိုက်ညီသော အမျိုးအစား အရွယ်အစား၏ ကိရိယာပစ္စည်းကို အသုံးပြုရန် လွယ်ကူသော နေရာတွင် ပြင်ဆင်ထားပါ။

## 공구 점검 ကိရိယာပစ္စည်းများကို စစ်ဆေးခြင်း



공구는 항상 점검을 해야 합니다. 고장이 난 것은 폐기하거나 수리해서 사용해야 합니다.

ကိရိယာပစ္စည်းများကို အမြဲတမ်း စစ်ဆေးသင့်ပါသည်။ ပျက်နေသော ပစ္စည်းများကို စွန့်ပစ်သင့်သည် သို့မဟုတ် ပြန်ပြင်ပြီးမှ အသုံးပြုသင့်ပါသည်။



## 공구 사용 시 주변 정리 정돈

ကိရိယာပစ္စည်းများ အသုံးပြုချိန် ပတ်ဝန်းကျင် သန့်ရှင်းထားခြင်း

공구를 사용할 장소는 잘 정리되어 있어야 합니다. 공구에 손이나 발을 다치거나 공구가 떨어져서 다칠 수도 있습니다.

ကိရိယာပစ္စည်းများ အသုံးပြုမည့် နေရာကို သေသေချာချာ သန့်ရှင်းရေး လုပ်ထားသင့်ပါသည်။ ကိရိယာများနှင့် ထိခိုက်မိပြီး ခြေလက် ဒဏ်ရာရခြင်း သို့မဟုတ် ကိရိယာများ ပြုတ်ကျ၍ ဒဏ်ရာရခြင်းများ ဖြစ်တတ်ပါသည်။

## 보관 သိုလှောင်သိမ်းဆည်းထားခြင်း



공구함을 준비하여 종류와 크기별로 공구를 구별하여 보관해야 합니다. 공구를 안전하고 쉽게 사용할 수 있습니다.

ကိရိယာပစ္စည်းများကို အမျိုးအစားအလိုက် အရွယ်အစားအလိုက် ခွဲခြားပြီး နေရာတကျ သိမ်းထားသင့်ပါသည်။ ကိရိယာပစ္စည်းများကို ဘေးကင်းစွာ အလွယ်တကူ အသုံးပြုနိုင်ပါသည်။



မေးခွန်း ၁နဲ့ ၂မှာ စကားပြောတာကို နားထောင်ပြီး အဖြေကို ရွေးပေးရမှာ ဖြစ်ပါတယ်။ နားမထောင်မီ မေးခွန်းကို သေချာဖတ်ပါ။

[1~2] 들은 것을 고르십시오. မေးခွန်းကို နားထောင်ပြီး အဖြေကို ရွေးပေးပါ။




1. ① 폐유 ② 폐수
   ③ 폐기 ④ 폐물

2. ① 작업장이 깨끗해요. ② 작업장을 치웠어요.
   ③ 작업장이 더러워요. ④ 작업장을 정리해요.



မေးခွန်း ၃နဲ့ ၄မှာ စကားပြောတာကို နားထောင်ပြီး ဆက်စပ်သော ပုံကို ရွေးချယ်ပေးရမှာ ဖြစ်ပြီး မေးခွန်း ၅မှာ ပြောတာကို နားထောင်ပြီး မေးခွန်းကို ဖြေပေးပါ။

[3~4] 잘 듣고 내용과 관계있는 그림을 고르십시오.
မေးခွန်းကို နားထောင်ပြီး အကြောင်းအရာနှင့် ကိုက်ညီသော ပုံကို ရွေးပေးပါ။

3. ①  ②   ③  ③ 

4. ①  ②  ③  ③ 

5. 이야기를 듣고 질문에 알맞은 대답을 고르십시오.
မေးခွန်းကို နားထောင်ပြီး အသင့်တော်ဆုံးသော အဖြေကို ရွေးပေးပါ။

남자가 말한 정리 정돈의 효과로 맞지 않는 것을 고르십시오.
ယောကျ်ားလေးက ပြောတဲ့ ပစ္စည်း သိမ်းဆည်းခြင်းရဲ့ ကောင်းကျိုး မဟုတ်တဲ့ အဖြေကို ရွေးပေးပါ။

① 품질이 떨어질 수 있어요.
② 안전사고를 예방할 수 있어요.
③ 물건의 낭비를 줄일 수 있어요.
④ 기계를 오래 사용할 수 있어요.

### 듣기 대본 စာသား

1. 여: 폐수를 여기에 버리는 거예요? စွန့်ပစ်ရေကို ဒီမှာ ပစ်ရမှာလား။
   남: 네, 여기가 폐수를 버리는 곳이에요. ဟုတ်တယ်။ ဒီနေရာက စွန့်ပစ်ရေ လွှင့်ပစ်တဲ့ နေရာပါ။
2. 여: 작업장이 더러워요. လုပ်ငန်းခွင် ညစ်ပတ်တယ်။
   남: 그렇죠? 너무 지저분하네요. ဟုတ်တယ်နော်။ ရှုပ်ပွပေကျံနေတာပဲ။
3. 남: 사다리가 있으면 올라갈 수 있겠네요. လှေကားရှိရင် အပေါ်တက်လို့ ရတာပဲ။
   여: 사다리요? 저기에 있네요. လှေကားလား။ ဟိုမှာ ရှိတယ်လေ။
4. 남: 지금 뭐 하고 있어요? အခု ဘာလုပ်နေလဲ။
   여: 냄새가 나서 환기하고 있어요. အနံ့နံလို့ လေဝင်လေထွက် ကောင်းအောင် လုပ်နေတယ်။
5. 남: 오늘 교육 시간에는 지난주에 이어서 작업장 정리가 왜 필요한지 설명하겠습니다. 우선 정리를 잘하면 안전사고를 예방할 수 있고, 물건의 낭비를 줄일 수 있어요. 그리고 제품을 잘 관리하니까 품질도 좋아지고요. 무엇보다 기계를 오랫동안 잘 사용할 수 있어요.

   ဒီနေ့ ပညာပေးသင်တန်းအချိန်မှာ အရင်အပတ်က ပို့ချထားတာနဲ့ ဆက်စပ်ပြီး လုပ်ငန်းခွင် သန့်ရှင်းရေးက ဘာဖြစ်လို့ လိုအပ်လဲဆိုတာကို ရှင်းပြပေးမှာပါ။ အရင်ဆုံး သန့်ရှင်းရေး ကောင်းကောင်းမွန်မွန် လုပ်ထားမယ်ဆိုရင် မတော်တဆတွေ ဖြစ်ပေါ်မှုကို ကာကွယ်ပေးနိုင်သလို ပစ္စည်း နေရာယူတာကိုလည်း လျော့ချပေးနိုင်ပါတယ်။ ပြီးတော့ ထုတ်ကုန်ကို အသေအချာ ထိန်းချုပ်နိုင်တာမို့လို့ အရည်အသွေးလည်း ပိုမို ကောင်းစေလာနိုင်ပါတယ်။ တခြားဟာတွေထက် စက်ပစ္စည်းကို တာရှည်ခံ အသုံးပြုနိုင်ပါတယ်။

정답 1. ② 2. ③ 3. ③ 4. ① 5. ①



### 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန် L-44

1. 대화를 듣고 질문에 알맞은 것을 고르십시오.
   မေးခွန်းကို နားထောင်ပြီး သင့်တော်သော အဖြေကို ရွေးပေးပါ။

   남자는 주말 저녁에 무엇을 하겠습니까?
   ယောက်ျားလေးက စနေ တနင်္ဂနွေပိတ်ရက်မှာ ဘာလုပ်မလဲ။

   ① 친구와 산에 갑니다. ② 친구 집들이에 갑니다.
   ③ 집에 일찍 가서 쉽니다. ④ 집에 친구를 초대합니다.

### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

여: 리한 씨, 주말에 우리 집에서 집들이를 하는데 올 수 있어요?
ရီဟန် ပိတ်ရက်မှာ ကျွန်မတို့ အိမ်မှာ အိမ်တက်ပွဲ လုပ်မလို့ လာနိုင်လား။
남: 몇 시에 해요? 저녁 시간은 괜찮은데 낮에는 친구와 등산 약속이 있어요.
ဘယ်အချိန်လဲ။ ညနေဖက် အားပေမဲ့ နေ့ဖက် သူငယ်ချင်းနဲ့ တောင်တက်ဖို့ ချိန်းထားတယ်။
여: 저녁 식사를 할 거니까 7시까지 오면 돼요.
ညစာစားကြမှာမို့လို့ ၇နာရီအရောက် လာရင် ရတယ်။

정답 1. ②



## EPS-TOPIK 읽기 EPS-TOPIK အဖတ် စာမေးပွဲ



မေးခွန်း ၁နဲ့ ၂မှာ ပုံကို ကြည့်ပြီး သင့်တော်တဲ့ အဖြေကို ရွေးပေးပါ။ ခုနက သင်ယူထားတာတွေကို ပြန်စဉ်းစားပြီး အောက်ပါ မေးခွန်းများကို ဖြေကြည့်ပါ။

[1~2] 다음 그림을 보고 맞는 문장을 고르십시오. ပုံကို ကြည့်ပြီး ဝါကျမှန်ကို ရွေးပေးပါ။

1. 

① 손수레입니다. ② 배설물입니다.
③ 일륜차입니다. ④ 비닐 끈입니다.

2. 


① 냄새가 심해요. ② 소음이 심해요.
③ 공기가 쾌적해요. ④ 정리가 되어 있어요.



မေးခွန်း ၃ကနေ ၅ထိက အသင့်တော်ဆုံး စကားလုံးတွေကို ရွေးပြီး ကွက်လပ်ဖြည့်ပေးရမှာ ဖြစ်တယ်။ ခုနက သင်ယူထားတာတွေကို ပြန်စဉ်းစားပြီး အောက်ပါ မေးခွန်းများကို ဖြေကြည့်ပါ။

[3~5] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်တွင် အသင့်တော်ဆုံးသော အဖြေကို ရွေးထည့်ပေးပါ။

3.
가: 오늘은 작업장이 아주 쾌적하네요. ဒီနေ့ အလုပ်နေရာက လန်းဆန်းကြည်လင်နေတာပဲ။
나: 그렇죠? 청소를 ______________. ဟုတ်တယ်မလား။ သန့်ရှင်းရေး လုပ်ထားလို့ပါ။

① 하지요 ② 했거든요 ③ 하고 싶어요 ④ 할 거예요

4.
가: 며칠 전보다 분뇨가 ___________. ရှေ့ ရက်တွေကထက်စာရင် မစင်အညစ်အကြေးတွေ ပိုများလာတယ်။
나: 그렇죠? 빨리 치워야겠어요. ဟုတ်တယ်နော်။ သန့်ရှင်းရေး မြန်မြန် လုပ်ရမယ်။

① 많아졌어요 ② 많으면 안 돼요
③ 많지 않을 거예요 ④ 많았으면 좋겠어요

5.
공구함을 준비하여 종류와 크기별로 공구를 구별하여 _________ 해야 합니다.
ကိရိယာသေတ္တာကို ပြင်ဆင်ပြီး ပြင်ဆင်ထားပြီး အမျိုးအစားအလိုက် အရွယ်အစားအလိုက် ကိရိယာတွေကို ခွဲပြီး သိမ်းဆည်းထားရမယ်။
이렇게 잘 넣어 두면 공구를 안전하고 쉽게 사용할 수 있습니다.
အဲ့လို ကောင်းကောင်း ထည့်ထားရင် ကိရိယာတွေကို ဘေးကင်းစွာ လွယ်လွယ်ကူကူ အသုံးပြုနိုင်တယ်။

① 사용 ② 보관 ③ 준비 ④ 점검

정답 1. ① 2. ② 3. ② 4. ① 5. ②



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~3] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်တွင် အသင့်တော်ဆုံး အဖြေကို ရွေးထည့်ပေးပါ။

1. 페인트 냄새가 심할 때에는 ________을/를 쓰는 것이 좋습니다.
သုတ်ဆေး အနံ့ အရမ်း ပြင်းတဲ့အချိန် မျက်နှာဖုံးကို သုံးသင့်ပါတယ်။

① 마스크 ② 귀마개 ③ 안전모 ④ 보안경

2. 바닥에 페인트나 기름이 있으면 __________ 있습니다. 이럴 때에는 빨리 닦는 것이 좋습니다.
ကြမ်းခင်းမှာ သုတ်ဆေး သို့မဟုတ် ဆီ ရှိနေပါက ချော်လဲတတ်ပါတယ်။ အဲ့လိုအချိန် မြန်မြန် ကြမ်းသုတ်ပေးသင့်တယ်။

① 버릴 수 ② 넘어질 수 ③ 조심할 수 ④ 중독될 수

3. 요즘은 장마철이라 비가 자주 옵니다. 그래서 출근할 때 비가 오지 않더라도 우산을 ________.
အခုရက်ပိုင်း မိုးရာသီမို့လို့ မိုး ခဏခဏ ရွာတယ်။ အဲ့ကြောင့် အလုပ်သွားချိန် မိုး မရွာလည်း ထီး ယူသွားဖြစ်တယ်။

① 가지게 됩니다 ② 버리게 됩니다 ③ 가지고 갑니다 ④ 버리고 갑니다

정답 1. ① 2. ② 3. ③



## 발음 အသံထွက်



### သေချာ နားထောင်ပြီး လိုက်ဆိုပါ။

**ကိုရီးယားဘာသာစကားမှာ ဗျည်းနှစ်လုံးဆုံကြရင် အသံပြောင်းပါတယ်။ ‘ㄴ’ ဗျည်းနဲ့ ‘ㄹ’ ဗျည်းတို့ ဆုံတဲ့အခါ ‘ㄴ + ㄹ’ ပဲဖြစ်ဖြစ် ‘ㄹ + ㄴ’ ပဲဖြစ်ဖြစ် [ㄹㄹ] ဖြစ်သွားပါတယ်။**

(1) 설날, 오늘날, 일 년
(2) 신라, 한라산, 천 리
(3) 컴퓨터는 아주 편리해요. / 설날에는 떡국을 먹어요.




# 호미를 챙겼는데요

မြေဆွတံစဥ်းကို ယူလာခဲ့တာ။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** အလုပ်တာဝန် မေးခြင်း အလုပ်စေခိုင်းခြင်း
- □ **သဒ္ဒါ** -는데요, -기 전에
- □ **ဝေါဟာရနှင့် အသုံးများ** စိုက်ပျိုးရေးလုပ်ငန်းသုံး ဝေါဟာရများ
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** ကိုရီးယားတောင်ယာရဲ့ လေးရာသီ စိုက်ခင်း



## 대화 1 စကားပြော ၁

Track 139



ရီရီက စိုက်ခင်းပိုင်ရှင်နဲ့ စကားပြောနေပါတယ်။ သူတို့ ပြောနေတာကို နှစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

주인 아주머니 리리 씨, 괭이 챙겼어요?
ရီရီ ပေါက်ပြား ယူလာလား။

리 리 괭이요? 오늘 고구마 캐는 일을 하신다고 해서 호미를 챙겼는데요.
ပေါက်ပြားလား။ ဒီနေ့ ကန်စွန်းဥ တူးမယ်ဆိုလို့ မြေဆွတံစဥ်းကို ယူလာခဲ့တာ။

주인 아주머니 오늘 일할 밭은 너무 딱딱해서 호미로 하기 힘들어요. 그리고 괭이로 고구마를 캘 때는 호미로 할 때보다 고구마에 상처가 나기 쉬우니까 조심해야 돼요.
ဒီနေ့ စိုက်ခင်းမြေက အရမ်း မာလို့ မြေဆွတံစဥ်းနဲ့ တင် မရဘူး။ ပြီးတော့ ပေါက်ပြားနဲ့ ကန်စွန်းဥကို တူးတဲ့အခါ မြေဆွတံစဥ်းနဲ့ တူးတာထက် ကန်စွန်းဥကို နာစေနိုင်တာမလို့ သတိထားရမယ်။

리 리 그렇군요. 그럼 창고에 가서 얼른 가지고 올게요.
အဲ့လိုကိုး၊ ဒါဆို ဂိုထောင်ကို သွားပြီး မြန်မြန် သွားယူလာပါမယ်။

**챙기다** ဂရုစိုက်သည်၊ အတူတကွ ယူဆောင်သည်
- 시험을 보러 갈 때에는 신분증을 챙겨야 해요.
  စာမေးပွဲ ဖြေဖို့ သွားတဲ့ အချိန် မှတ်ပုံတင်ကဒ် ယူသွားရမယ်။
- 부모님이 집에 안 계시면 제가 동생들을 챙깁니다.
  မိဘတွေ အိမ်မှာ မရှိတဲ့ အခါ ကျွန်တော်က ညီလေးညီမလေးတွေကို ဂရုစိုက်တယ်။

**얼른** အမြန်၊ မြန်မြန်
- 라면은 식기 전에 얼른 먹어야 맛있어요.
  ခေါက်ဆွဲကို မပွခင် မြန်မြန် စားမှ အရသာရှိတယ်။
- 시험을 볼 때에는 한국어가 얼른 생각이 나지 않아요.
  စာမေးပွဲ ဖြေတဲ့ အချိန်ဆို ကိုရီးယားစာက ခေါင်းထဲ မြန်မြန် မပေါ်လာဘူး။



နားထောင်ပြီး လိုက်ဆိုကြည့်ပြီးရင် အောက်ပါ မေးခွန်းများကို ဖြေပါ။

1. 리리 씨는 오늘 무슨 일을 할 거예요? ရီရီက ဒီနေ့ ဘာလုပ်မလဲ။
2. 리리 씨는 왜 창고에 가려고 해요? ရီရီက ဘာလို့ ဂိုထောင်ဆီ သွားမလို့ လုပ်တာလဲ။

정답 1. 고구마 캐는 일을 할 거예요. 2. 괭이를 가지러 창고에 가려고 해요.



## 어휘 1 ဝေါဟာရ ၁

### 농업 1 စိုက်ပျိုးရေး ၁

စိုက်ပျိုးရေး စကားလုံးတွေကို လေ့လာသင်ယူရအောင်။

| | | | | |
|---|---|---|---|---|
| 논<br>လယ်ကွင်း | 밭<br>စိုက်ခင်း | 농장<br>တောင်ယာစိုက်ခင်း | 과수원<br>သစ်သီးစိုက်ခင်း | 비닐하우스<br>မိုးလုံစိုက်ခင်း |
| 낫<br>ကောက်ရိတ်ဓါး | 호미<br>မြေဆွတံစဉ်း | 괭이<br>ပေါက်ပြား | 곡괭이<br>ပေါက်ချွန်း | 삽<br>ကော်ပြား |
| 모종삽<br>ကော်ပြားငယ် | 갈퀴<br>ထွန်ခြစ် | 쇠스랑<br>ကောက်ဆွ | 호스<br>ရေပိုက် | 물뿌리개<br>ရေဖျန်းပုံး |
| 파종 상자<br>မျိုးစေ့ထည့်ခြင်းတောင်း | 농약 분무기<br>ဓါတ်မြေသြဇာ ဖြန်းစက် | 경운기<br>မော်တာ ထွန်စက် | 콤바인<br>ကောက်ရိတ်စက် | |



အပေါ်မှ ဝေါဟာရများကို မကြည့်ဘဲ အောက်မှ မေးခွန်းများ ဖြေကြည့်ပါ။



1. 사진을 보고 알맞은 말을 연결하세요. ပုံကို ကြည့်ပြီး အသင့်တော်ဆုံးသော အဖြေကို ချိတ်ဆက်ပေးပါ။

① ② ③ ④ ⑤

㉠ 모종삽 ㉡ 쇠스랑 ㉢ 경운기 ㉣ 갈퀴 ㉤ 낫

정답 ①-㉤ ②-㉠ ③-㉣ ④-㉡ ⑤-㉢

## 문법 1 သဒ္ဒါ ၁ -는데요



အပြုအမူ၊ ညွှန်ကြားချက် သို့ မေးခွန်း မေးရန်အတွက် နောက်ခံအကြောင်းအရာကို မိတ်ဆက်ပေးသော အခါ သို့မဟုတ် ရှင်းပြသောအခါတွင် သုံးသည်။ '-는데요' ကို ဝေါဟာရသည် ဗျည်းနှင့် အဆုံးသတ်သည်ဖြစ်စေ၊ သရနှင့် အဆုံးသတ်သည်ဖြစ်စေ ထိုအတိုင်း ကြိယာနှင့် တွဲလျက် အသုံးပြုသည်။

| 동사 (ကြိယာ) | 형용사 (နာမဝိသေသန) | | 명사 (နာမ်) |
|---|---|---|---|
| **-는데요** | 자음 (ဗျည်း) → **-은데요** | 모음 (သရ) → **-ㄴ데요** | **인데요** |
| 먹다 → 먹**는데요**<br>오다 → 오**는데요** | 많다 → 많**은데요** | 크다 → 큰**데요** | 사람 → 사람**인데요**<br>친구 → 친구**인데요** |

- 농약을 쳐야 **하는데요**. 농약 분무기가 어디에 있는지 모르겠어요.
  ဓာတ်မြေသြဇာ ဖြန်းရမှာကိုလေ။ ဖြန်းစက်က ဘယ်နား ရှိနေလဲ မသိဘူး။
- 가: 사과 상자들을 트럭에 다 **실었는데요**. 좀 봐 주세요.
  ပန်းသီးဘူးတွေကို ထရပ်ကားပေါ် အကုန် တင်လိုက်တာကိုလေ။ တစ်ချက်လောက် ကြည့်ပေးပါ။
  나: 그래요. 잠깐만 기다리세요. ကောင်းပြီ။ ခဏစောင့်ပါ။

### 비교해 보세요 နှိုင်းယှဉ်ကြည့်ပါ။

**✔ '-는데요/(으)ㄴ데요/인데요' နဲ့ '-는데/(으)ㄴ데'**

'-는데/(으)ㄴ데' တွင် '요', က ပေါင်းသော '-는데/(으)ㄴ데' နှင့် အဓိပ္ပါယ် တူညီသည်။ '요' က နောက်တွင် ပါပါက ဝါကျ အဆုံးသတ်သွားသဖြင့် နောက်ရှိ ဝါကျမှာ သီးသန့် စာကြောင်းအနေနှင့် ခွဲထွက်သွားပြီး '요' က နောက်တွင် မပါပါက နောက်ရှိ ဝါကျနှင့် တစ်ကြောင်းထဲ ဆက်သုံးသည်။ '-는데(요)' ကို ကြိယာအနောက်တွင် အသုံးပြုပြီး နာမဝိသေသနအနောက်တွင် '-(으)ㄴ 데(요)'၊ နာမ်နောက်တွင် '인데(요)' ကို သုံးသည်။

- 밖에 비가 많이 **오는데요**. 창문을 닫을까요? အပြင်မှာ မိုးတွေ အရမ်းရွာနေတယ်။ ပြတင်းပေါက် ပိတ်လိုက်ရမလား။
- 모니카 씨, 날씨도 **좋은데** 우리 오늘 놀러 갈까요?
  မိုနီခါ၊ ရာသီဥတုလည်း သာယာနေတာ ဒီနေ့ အပြင်ထွက်လည်ကြမလား။
- 이 음식이 **불고기인데요**. 정말 맛있어요. ဒါက အသားနပ်ပါ။ အရမ်း အရသာရှိတယ်။



'-는데요' ကို နားလည်ပြီဆိုရင် အောက်ပါ ဝါကျများကို ဖြည့်ကြည့်ပါ။

2. '-는데요'를 사용해서 대화를 완성하세요. '-는데요' ကို သုံးပြီး ဝါကျဆက်ပါ။

1) 가: ____________ 괭이 어디 있어요? [고구마를 캐야 하다 ကန်စွန်းဥ တူးရမည်]
   나: 아까 제가 쓰고 창고에 뒀어요. ခုနက ကျွန်တော် သုံးပြီး ဂိုဒေါင်ထဲမှာ ထားထားတယ်။

2) 가: ____________ 호스가 없네요. [물을 줘야 하다 ရေလောင်းရမည်]
   나: 제가 찾아 줄게요. ကျွန်တော် ရှာပေးမယ်။

3) 가: ____________ 같이 할 수 있어요? [파종상자를 옮겨야 하다 မျိုးစေ့တောင်းကို ရွှေ့ရမယ်။]
   나: 그럼요. 같이 해요. ဒါပေါ့။ အတူတူ လုပ်ကြရအောင်။

정답 1) 고구마를 캐야 하는데요. 2) 물을 줘야 하는데요. 3) 파종상자를 옮겨야 하는데요.



## 대화 2 စကားပြော ၂

Track 140

လီလီက စိုက်ခင်းပိုင်ရှင်နဲ့ စကားပြောနေတာပါ။ သူတို့ ပြောတာကို နှစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

주인 아주머니 오늘 고생 많았어요. 내일은 밭에 비료를 뿌릴 거니까 준비 좀 해 줘요.
ဒီနေ့ ပင်ပန်းသွားပြီ၊ မနက်ဖြန် စိုက်ခင်းမှာ မြေသြဇာ ဖြူးမှာမလို့ ပြင်ဆင်ထားပေးပါ။

리 리 비료요? 모종은 다음 주에 심을 건데 벌써 비료를 뿌려요?
မြေသြဇာလား။ ပျိုးပင်က နောက်အပတ်မှ စိုက်မှာကို အခုကတည်းက မြေသြဇာ ဖြူးမှာလား။

> **벌써 တောင်၊ နှင့်နေပြီ**
> - 벌써 금요일이에요.
>   သောကြာနေ့ တောင် ရောက်ပြီ။
> - 회의 준비를 벌써 다 했어요?
>   အစည်းအဝေး ပြင်ဆင်တာ အကုန်တောင် ပြီးနေပြီလား။

주인 아주머니 모종을 심기 전에 뿌려야 돼요. 비료를 먼저 뿌리고 일주일쯤 지난 후에 심어야 모종이 잘 자라거든요.
ပျိုးပင် မစိုက်ခင် ဖြန်းရမယ်။ မြေသြဇာကို အရင် ဖြူးပြီး တစ်ပတ်လောက် ကြာမှ စိုက်ရင် ပျိုးပင် ပို အောင်တယ်။

> **쯤 လောက်**
> - 일주일쯤 후에 다시 연락을 주세요.
>   နောက်တစ်ပတ်လောက် ထပ်ပြီး ဆက်သွယ်ပေးပါ။
> - 내일 2시쯤 만날까요?
>   မနက်ဖြန် နှစ်နာရီလောက် တွေ့မလား။

리 리 아, 그렇군요. 제가 들어가서 내일 쓸 비료 잘 챙겨 놓을게요.
အော်၊ ဒီလိုကိုး။ ကျွန်တော် ပြန်ရောက်ရင် မနက်ဖြန် သုံးမယ့် မြေသြဇာကို အသေအချာ ပြင်ဆင်ထားပါ့မယ်။

နားထောင်ပြီး လိုက်ဆိုကြည့်ပြီးပြီလား။ ဒါဆို မေးခွန်းများကို ဖြေကြည့်ရအောင်။

1. 언제 비료를 뿌리려고 해요? ဘယ်တော့ မြေသြဇာ ဖြူးမှာလဲ။
2. 모종은 언제 심으려고 해요? ပျိုးပင် ဘယ်အချိန် စိုက်မှာလဲ။

정답 1. 내일 뿌리려고 해요. 2. 다음 주에 심으려고 해요.

**Tip 곡류** ကောက်ပဲသီးနှံ


**벼** စပါး


**보리** မုယောစပါး


**밀** ဂျုံ


**콩** ပဲ

## 어휘 2 စကားပြော ၂ 　 농업 2 စိုက်ပျိုးရေး ၂



စိုက်ပျိုးရေးနဲ့ ဝေါဟာရတွေကို လေ့လာသင်ယူရအောင်။



키우다/기르다/재배하다
စိုက်ပျိုးသည်



거두다/수확하다
ရိတ်သည်



따다
ခူးသည်



캐다
တူးသည်



비료를 뿌리다
မြေသြဇာ ဖြူးသည်



씨앗을 뿌리다
အစေ့ ကြဲသည်



모종을 심다
ပျိုးပင် စိုက်သည်



물을 주다
ရေလောင်းသည်



거름을 주다
ဓာတ်မြေသြဇာ ကျွေးသည်



잡초를 뽑다
ပေါင်းပင် နှုတ်သည်



벌레를 잡다
ပိုးကောင် ဖမ်းသည်



농약을 치다
ပိုးသတ်ဆေး ဖြန်းသည်



အပေါ်မှ ဝေါဟာရများကို မကြည့်ဘဲ အောက်မှ မေးခွန်းများ ဖြေကြည့်ပါ။

2. 그림에 맞는 표현을 〈보기〉에서 골라 넣으세요.
ပုံနှင့် ကိုက်ညီသော စကားလုံးကို ဥပမာမှ ရွေးထည့်ပေးပါ။

 →  →   →  → 

1) ______ 2) ______ 3) ______ 4) ______ 5) ______

**보기**
씨앗을 뿌리다 　 거름을 주다 　 캐다
물을 주다 　 잡초를 뽑다

**정답** 1) 씨앗을 뿌리다 2) 물을 주다 3) 거름을 주다 4) 잡초를 뽑다 5) 캐다



## 문법 2 သဒ္ဒါ ၂ -기 전에

G45-2

အပြုအမူ သို့မဟုတ် အခြေအနေတစ်ခု မလုပ်ခင်၊မဖြစ်ခင် အနေအထားကို ဖော်ပြချင်သည့် စကားလုံးစုကို '-기 전에' ၏ အရှေ့တွင် သုံးသည်။ ထပ်ဆင့်အကွာရာသည် ဖျည်းဖြစ်စေ သရဖြစ်စေ '-기 전에' ကို မပြောင်းလဲဘဲ တွဲလျက် သုံးသည်။

- 비닐을 **덮기 전에** 거름을 먼저 주세요. ပလတ်စတစ် မဖုံးခင် ဓာတ်မြေဩဇာ အရင် ကျွေးပါ။
- 가: 한국에 **오기 전에** 인도네시아에서 무슨 일을 했어요? ကိုရီးယားကို မလာခင် အင်ဒိုနီးရှားမှာ ဘာလုပ်ခဲ့လဲ။
  나: 무역 회사에 다녔어요. ကုန်သွယ်ရေးကုမ္ပဏီမှာ အလုပ်လုပ်ခဲ့တယ်။



### 대조적 정보 နှိုင်းယှဉ်ချက်

'-전에' နဲ့ '-기 전에' က နာမ်နဲ့ပဲ တွဲသုံးရတယ်ဆိုတဲ့ အချက်မှာ မြန်မာစကားနဲ့ ကွာသွားပါတယ်။ မြန်မာစကားမှာက (မ + V + ခင်)အလယ်မှာ ကြိယာကို မဖြစ်မနေ ထည့်ပေးရပေမဲ့ ကိုရီးယားစကားမှာတော့ ကြိယာရှေ့မှာ '기' ကို ထပ်ပေါင်းပြီး နာမ်ပြောင်းပြီးမှ သုံးလို့ရပါတယ်။

- 식사 **전에** အစာ မစားခင်
- 수업 **전에** အတန်း မစခင်
- 밥 **먹기 전에** ထမင်း မစားခင်
- 수업 **시작하기 전에** အတန်း မစခင်

### 비교해 보세요 နှိုင်းယှဉ်ကြည့်ပါ။

**✔ '-기 전에' နဲ့ '-(으)ㄴ 후에'**

'-기 전에' ကို မဖြစ်ပျက်ခင် ရှေ့တွင် အသုံးပြုပြီး '-(으)ㄴ 후에' ကို ဖြစ်ပျက်ပြီး နောက်တွင် သုံးသည်။

- 모종을 **심기 전에** 비료를 뿌려요. ပျိုးပင်တွေ မစိုက်ခင် မြေဩဇာ ဖျန်းရတယ်။
- 비료를 **뿌린 후에** 모종을 심어요. မြေဩဇာ ဖျန်းပြီးနောက် ပျိုးပင်ကို စိုက်တယ်။



'-기 전에' ကို နားလည်ရင် အောက်ပါ မေးခွန်းများကို ဖြေကြည့်ပါ။

2. 그림을 보고 '-기 전에'를 사용해서 대화를 완성하세요.
ပုံကို ကြည့်ပြီး '-기 전에' ကို အသုံးပြုပြီး ဝါကျဆက်ပေးပါ။

1)  → 

가: 토마토를 딸까요? ခရမ်းချဉ်သီး ခူးရမလား။
나: 아니요, ______________

2)  → 

가: 물을 줄까요? ရေလောင်းပေးရမလား။
나: 아니요, ______________

정답 1) 토마토를 따기 전에 농약을 치세요. 2) 물을 주기 전에 잡초를 뽑으세요.



## 활동 အသုံးချသင်ခန်းစာများ

**작업을 요구할 때는 어떻게 이야기해야 할까요? 〈보기〉처럼 말해 보세요.**
အလုပ် ခိုင်းတဲ့ အချိန် ဘယ်လို ပြောရမလဲ။ ဥပမာအတိုင်း ပြောကြည့်ပါ။

보기

잡초를 뽑아야 하는데요.
지금 할 수 있어요?
ပေါင်းပင်တွေ နှုတ်ရမှာ
အခု လုပ်နိုင်လား။

1) 벌레를 잡다

2) 물을 주다

3) 거름을 주다

4) 씨앗을 뿌리다


정답 1) 벌레를 잡아야 하는데요. 지금 할 수 있어요? 2) 물을 줘야 하는데요. 지금 할 수 있어요?
3) 거름을 줘야 하는데요. 지금 할 수 있어요? 4) 씨앗을 뿌려야 하는데요. 지금 할 수 있어요?



## 정보 သတင်းအချက်အလက်

# 한국 농촌의 사계절

### ကိုရီးယား လယ်တောရွာရဲ့ လေးရာသီ စိုက်ခင်း



### 봄 နွေဦး

농사를 지을 준비를 합니다. 비료를 뿌리고 밭을 갈아 씨를 뿌리거나 모종을 심을 준비를 합니다. 토마토, 가지, 오이, 호박, 고추 등을 심습니다.

လယ်စိုက်ဖို့ ပြင်ဆင်ပါသည်။ မြေသြဇာ ဖျန်း၍ စိုက်ခင်းမြေ ထွန်ယက်ပြီး အစေ့များ ကြဲခြင်း သို့မဟုတ် ပျိုးပင်များ စိုက်ခြင်းများ လုပ်ပါသည်။ ခရမ်းချဉ်သီး၊ ခရမ်းသီး၊ သခွားသီး၊ ဖရုံသီး၊ ငရုတ်သီး စသည်တို့ကို စိုက်ပါသည်။



### 여름 နွေ

봄에 심은 채소 등을 수확합니다. 논에 농약을 뿌리고 잡초를 뽑는 작업을 계속 해야 합니다. 밭에 당근, 양파, 파 등을 심고 키웁니다. 또한 겨울철 김장에 필요한 배추도 심습니다.

နွေဦးတွင် စိုက်ပျိုးသော ဟင်းသီးဟင်းရွက်များကို ရိတ်သိမ်းပါသည်။ လယ်ကွင်းကို ပိုးသတ်ဆေး ဖျန်းပြီးနောက် ပေါင်းပင်များကို ဆက်တိုက် နှုတ်ပေးရပါမည်။ စိုက်ခင်းတွင် မုန်လာဥနီ၊ ကြက်သွန်၊ ကြက်သွန်မြိတ် စသည်တို့ကို စိုက်ပါသည်။ ထို့ပြင် ဆောင်းရာသီ ကင်မ်ချီ လုပ်ရန် လိုအပ်သော မုန်ညင်းဖြူကိုလည်း စိုက်ပါသည်။



### 가을 ဆောင်းဦး

가을은 수확의 계절입니다. 여름철에 잘 키운 채소와 벼를 거둡니다.

ဆောင်းဦးသည် ကောက်ရိတ်သိမ်းရာသီ ဖြစ်ပါသည်။ နွေရာသီတွင် ရှင်သန်ကြီးထွားလာသော ဟင်းသီးဟင်းရွက်နှင့် စပါးတို့ ကို ရိတ်သိမ်းပါသည်။



### 겨울 ဆောင်းရာသီ

1년 동안 사용한 농기구를 수리하고 다음 해 농사를 계획합니다. 겨울에도 비닐하우스에서 여러 가지 채소와 과일을 재배합니다.

တစ်နှစ်ပတ်လုံး အသုံးပြုခဲ့သည့် လယ်ယာသုံးစက်ပစ္စည်းများကို ပြုပြင်ပြီး နောက်နှစ် လယ်လုပ်ငန်းအတွက် ကြိုတင် စီမံထားပါသည်။ ဆောင်းရာသီတွင်လည်း မိုးလုံစိုက်ခင်းများ တွင် အမျိုးမျိုး သော ဟင်းသီးဟင်းရွက်နှင့် အသီးများ စိုက်ပျိုးပါသည်။







မေးခွန်း ၁နဲ့ ၂မှာ ပုံကို ကြည့်ပြီး မေးခွန်းများ ဖြေပေးရမှာပါ။ မေးခွန်းများ နားမထောင်မီ မေးခွန်းကို သေချာဖတ်ပါ။

[1~2] 다음 그림을 보고 알맞은 대답을 고르십시오.
ပုံကို ကြည့်ပြီး သင့်တော်သော စကားလုံးကို ရွေးပေးပါ။

Track 141

1. 이것은 무엇입니까? ဒါ ဘာလဲ။

① ② ③ ④

2. 이 사람은 무엇을 합니까? ဒီလူ ဘာလုပ်နေလဲ။

① ② ③ ④



မေးခွန်း ၃မှာ မေးခွန်းကို နားထောင်ပြီး ဖြေပေးရမှာ ဖြစ်ပြီး မေးခွန်း ၄နဲ့ ၅မှာ စာပိုဒ် တစ်ခုထဲကို နားထောင်ပြီး မေးခွန်း ၂ခုလုံးကို ဖြေဆိုပေးရမှာ ဖြစ်ပါတယ်။ နားမထောင်မီ မေးခွန်း သေချာ ဖတ်ပါ။

3. 이야기를 듣고 질문에 알맞은 대답을 고르십시오.
မေးခွန်းကို နားထောင်ပြီး သင့်တော်သော အဖြေကို ရွေးပေးပါ။

여자는 이제 무엇을 할 것입니까? မိန်းကလေး အခု ဘာလုပ်မလို့ လဲ။

① 밭에 물을 줄 것입니다. ② 잡초를 뽑을 것입니다.
③ 호스를 가지고 올 것입니다. ④ 아주머니를 기다릴 것입니다.

[4~5] 하나의 이야기를 듣고 두 개의 질문에 대답하십시오. နားထောင်ပြီး မေးခွန်း ၂ခုလုံးကို ဖြေပေးပါ။

4. 내일 남자가 작업해야 하는 장소는 어디입니까?
မနက်ဖြန် ယောကျ်ားလေး အလုပ်လုပ်ရမယ့် နေရာက ဘယ်မှာလဲ။

① 논 ② 밭 ③ 논과 밭 ④ 과수원

5. 내일 해야 할 작업이 아닌 것은 무엇입니까? မနက်ဖြန် လုပ်ရမယ့် အလုပ် မဟုတ်တာက ဘာလဲ။

① 
② 
③ 
④ 

### 듣기 대본 စာသား

1. ① 여: 경운기입니다. မော်တာ ထွန်စက်ပါ။ ② 여: 손수레입니다. လက်တွန်းလှည်းပါ။
   ③ 여: 콤바인입니다. ကောက်ရိတ်စက်ပါ။ ④ 여: 트랙터입니다. ထွန်စက်ပါ။

2. ① 남: 거름을 주고 있습니다. ဓာတ်မြေဩဇာ ကျွေးနေတယ်။
   ② 남: 농약을 치고 있습니다. ပိုးသတ်ဆေး ဖျန်းနေတယ်။
   ③ 남: 모종을 심고 있습니다. မျိုးပင် စိုက်နေတယ်။
   ④ 남: 벌레를 잡고 있습니다. ပိုးကောင် ဖမ်းနေတယ်။

3. 여: 밭에 물을 좀 줘야 하는데요. 창고에 호스가 없네요.
   စိုက်ခင်းကို ရေလောင်းပေးရမှာ။ ဂိုထောင်မှာ ရေပိုက် မရှိဘူး။

   남: 아, 조금 전에 아주머니가 과수원에 물을 주려고 가지고 갔어요.
   အော် ခုနနေတုန်းက အဒေါ်က သစ်သီးခြံထဲမှာ ရေလောင်းဖို့ ယူသွားတယ်။

   여: 그래요? 그럼, 물 주기 전에 밭에 잡초 좀 뽑을게요.
   ဟုတ်လား၊ ဒါဆို ရေမလောင်းခင် စိုက်ခင်းထဲမှာ ပေါင်းပင်တွေ နုတ်လိုက်ဦးမယ်

4-5. 남: 내일은 무슨 일을 해야 해요? မနက်ဖြန် ဘာလုပ်ရမလဲ။

   여: 논에 농약을 좀 쳐 주세요. စပါးခင်းထဲ ပိုးသတ်ဆေး ဖျန်းထားပေးပါ။

   남: 네, 그럴게요. 그건 오전에 끝낼 수 있을 거 같은데, 오후에는 고구마 밭에 가서 거름을 좀 줄까요?
   ဟုတ်ကဲ့၊ လုပ်လိမ့်ပါမယ်။ အဲ့ဒါ မနက်ပိုင်းနဲ့ ပြီးလောက်တာမို့ ညနေပိုင်း ကန်စွန်းဥခင်းထဲ သွားပြီး ဓာတ်မြေဩဇာ ကျွေးပေးရမလား။

   여: 며칠 전에 줬으니까 거름은 안 줘도 되고요, 대신 물을 좀 주세요. 그리고 요새 벌레가 많아진 거 같은데 벌레도 좀 잡아 주고요.
   အရင်နေ့တွေက ကျွေးထားတာမို့ ဓာတ်မြေဩဇာ ထပ်မပေးလည်း ရတယ်။ အဲ့အစား ရေလောင်းပေးပါ။ ပြီးတော့ ခုတလော ပိုးကောင်တွေ များလာလို့ ပိုးကောင် ဖမ်းပေးပါ။

정답 1. ③ 2. ③ 3. ② 4. ③ 5. ②



### 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်




1. 다음을 듣고 이어지는 말로 알맞은 것을 고르십시오.
   မေးခွန်းကို နားထောင်ပြီး ဆက်စပ်သော အဖြေကို ရွေးပေးပါ။

   ① 그래도 조금 더 깎아 주세요. ② 저한테 사용법 좀 알려 줄래요?
   ③ 인터넷으로 전화기를 살 거예요? ④ 저도 채팅을 하려고 인터넷을 켰어요.

### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

남: 인터넷을 이용해서 전화를 하면 요금도 싸고 편리해요.
အင်တာနက် အသုံးပြုပြီး ဖုန်းဆက်ရင် ဈေးလည်း သက်သာပြီး အဆင်ပြေတယ်။

정답 1. ②



## EPS-TOPIK 읽기 EPS-TOPIK အဖတ် စာမေးပွဲ



မေးခွန်း ၁နဲ့ ၂က ပုံကို ကြည့်ပြီး သင့်တော်တဲ့ အဖြေကို ရွေးပေးရမှာ ဖြစ်တယ်။ လေ့လာထားတာတွေကို ပြန်စဉ်းစားပြီး မေးခွန်းများကို ဖြေကြည့်ပါ။

[1~2] 다음 그림을 보고 맞는 단어나 문장을 고르십시오.
ပုံကို ကြည့်ပြီး သင့်တော်သော စကားလုံး သို့မဟုတ် ဝါကျကို ရွေးပေးပါ။

1.

① 낫　② 삽
③ 괭이　④ 호미

2. 

① 땅을 파고 있습니다.　② 물을 주고 있습니다.
③ 고구마를 캐고 있습니다.　④ 물건을 운반하고 있습니다.



မေးခွန်း ၃နဲ့ ၄က ကွက်လပ်တွင် သင့်တော်သော စကားလုံးကို ဖြည့်ပေးရမှာ ဖြစ်ပြီး မေးခွန်း ၅ကတော့ မေးခွန်းကို ဖြေပေးရမှာပါ။ သင်ယူထားတာတွေကို ပြန်စဉ်းစားပြီး အောက်က မေးခွန်းကို ဖြေကြည့်ပါ။

[3~4] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်တွင် အသင့်တော်ဆုံး စကားလုံးကို ရွေးဖြည့်ပေးပါ။

3.
가: 이 파종상자를 어디에 둘까요? ဒီ မျိုးစေ့ထည့်ခြင်းတောင်းကို ဘယ်နား ထားရမလဲ။
나: 밭으로 가져갈 거니까 ____________에 실어 놓으세요.
စိုက်ခင်းထဲကို ယူသွားမှာမို့လို့ မော်တာထွန်စက်ထဲ ထည့်ထားပေးပါ။

① 호스　② 갈고리　③ 경운기　④ 물뿌리개

4.
가: 모종을 심기 전에 밭에 비료를 ____________ 돼요.
ပျိုးပင် မစိုက်ခင် စိုက်ခင်းကို မြေဩဇာ ဖြူးထားပေးရမယ်။
나: 네, 알겠습니다. ဟုတ်ကဲ့၊ သိပါပြီ။

① 캐야　② 따야　③ 심어야　④ 뿌려야

5. 다음 질문에 답하십시오. အောက်ပါ မေးခွန်းကို ဖြေပါ။

토마토는 보통 4월 말에 밭에 모종을 심습니다. 모종을 심기 전에 밭에 비료를 뿌리고 일주일 정도 기다린 후 모종을 심어야 합니다. 모종을 심고 난 후에는 물을 주고 거름도 줍니다. 토마토는 벌레가 많이 생기는 작물이라서 가끔 농약을 쳐야 합니다. 또 잡초가 생기면 잡초를 뽑아서 토마토가 잘 자랄 수 있게 해야 합니다.

ခရမ်းချဉ်သီးကို ပုံမှန် လေးလပိုင်းကုန်တွင် စိုက်ခင်းထဲ ပျိုးပင်စိုက်ပါသည်။ ပျိုးပင် မစိုက်ခင် စိုက်ခင်းကို မြေသြဇာဖြူးပြီး တစ်ပတ်လောက် စောင့်ပြီးမှ ပျိုးပင် စိုက်ရပါမည်။ ပျိုးပင် စိုက်ပြီးနောက် ရေလောင်းပေးပြီး ဓာတ်မြေသြဇာလည်း ပေးရမည်။ ခရမ်းချဉ်သီးက ပိုးကောင်ကျလွယ်တဲ့ အပင်မျိုး ဖြစ်တာကြောင့် တစ်ခါတစ်လေ ပိုးသတ်ဆေး ဖြန်းပေးရမည်။ ထို့ပြင် ပေါင်းပင်များ ထွက်လာပါက နှုတ်ပေးပြီး ခရမ်းချဉ်သီးပင် ကောင်းကောင်း ရှင်သန်ကြီးထွားစေရန် လုပ်ပေးရမည်။

토마토를 심을 때 가장 먼저 해야 하는 일은 무엇입니까? ခရမ်းချဉ်သီးပင် မစိုက်ခင် အရင်ဆုံး ဘာလုပ်ရမလဲ။

① 거름을 줍니다.
② 모종을 심습니다.
③ 비료를 뿌립니다.
④ 잡초를 뽑습니다.

정답 1. ① 2. ① 3. ③ 4. ④ 5. ③



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~3] 빈칸에 들어갈 가장 알맞은 것을 고르십시오. ကွက်လပ်တွင် အသင့်တော်ဆုံး အဖြေကို ရွေးထည့်ပေးပါ။

1. 기숙사 ______________가 고장 나서 온수도 안 나오고 난방도 안 됩니다. 빨리 고쳐 주시기 바랍니다.
အဆောင် ရေနွေးစက်က ပျက်နေလို့ ရေနွေးလည်း မရသလို ကြမ်းခင်းဟီတာလည်း မရပါဘူး။ အမြန် ပြင်ပေးဖို့ တောင်းဆိုပါတယ်။

① 환풍기 ② 자판기 ③ 하수구 ④ 보일러

2. 저는 ______________에는 취미 활동을 합니다. 토요일에는 등산을 하고 일요일에는 주로 영화를 봅니다.
ကျွန်တော် ပိတ်ရက်မှာ ဝါသနာပါတာလေးတွေ လုပ်ပါတယ်။ စနေနေ့မှာ တောင်တက်ပြီး တနင်္ဂနွေနေ့မှာတော့ အများအားဖြင့် ရုပ်ရှင်ကြည့်ပါတယ်။

① 아침 ② 평일 ③ 오후 ④ 주말

3. 저는 주말에 시간이 있으면 ______________에 갑니다. 산책도 하고 나무 밑에 앉아 책을 읽기도 합니다.
ကျွန်တော်ကတော့ ပိတ်ရက်မှာ အချိန်ရှိရင် ပန်းခြံကို သွားပါတယ်။ လမ်းလျှောက်ပြီး သစ်ပင်အောက်မှာ စာအုပ်ထိုင်ဖတ်တာလည်း လုပ်ပါတယ်။

① 시장 ② 공원 ③ 찜질방 ④ 체육관

정답 1. ④ 2. ④ 3. ②




# 더 신경 쓰도록 하자
ပိုပြီး ဂရုစိုက်ကြရအောင်

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်**
  ပြဿနာ အကြောင်းရင်း ရှာဖွေခြင်း၊ ပြဿနာ ဖြေရှင်းရန် ကြိုးစားခြင်း
- □ **သဒ္ဒါ** -도록 하다, -게 되다
- □ **ဝေါဟာရနှင့် အသုံးများ** သားငါးမွေးမြူရေးလုပ်ငန်း
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု**
  သားငါးမွေးမြူရေးလုပ်ငန်းတွင် လုပ်ကိုင်ရသော အလုပ် အမျိုးအစားများ



## 대화 1 စကားပြော ၁






ဆူဖီခါနဲ့ ပိုင်ရှင်ဦးလေးနဲ့ စကားပြောနေကြတယ်။ နစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

주인 아저씨　이걸 어쩌지. 수피카, 지난번에 바꾼 사료 말이야. 소한테 잘 안 **맞는** 것 같아.
ဒါ ဘယ်လိုလုပ်ရမလဲ။ ဆူဖီခါ အရင်တခေါက်က ပြောင်းထားတဲ့ အစာကို ပြောတာ။ နွားနဲ့ အဆင်မပြေဘူးနဲ့ တူတယ်။

수피카　그래요? 농협중앙회에서 좋은 거 나왔다고 해서 바꾸신 거잖아요.
ဟုတ်လား။ စိုက်ပျိုးရေးအဖွဲ့အစည်းက ပစ္စည်းကောင်း ထွက်လာတယ် ပြောလို့ ပြောင်းလိုက်တဲ့ ဟာလေ။

주인 아저씨　추천하길래 믿고 한번 써 봤는데……. 오늘은 배까지 이렇게 불룩해지고 가스도 많이 찬 것 같아.
အကြံဉာဏ်ပေးလို့ ယုံပြီး တစ်ခေါက်လောက် သုံးကြည့်တာ...... ဒီနေ့ဆို ဗိုက်က ဖောင်းကားပြီး လေတွေ အများကြီး ပြည့်နေပုံပဲ။

수피카　그럼, 어떻게 하죠? ဒါဆို ဘယ်လိုလုပ်မလဲ။

주인 아저씨　우선 아무 것도 먹이지 말고 수의사부터 불러야겠어. 그리고 앞으로는 더 **신경 쓰도록** 하자. 소들이 고생을 많이 한 것 같아, 휴.
အရင်ဆုံး ဘာမှ မကျွေးသေးဘဲ တိရိစ္ဆာန်ဆရာဝန် ခေါ်မှပဲ။ ပြီးတော့ ရှေ့လျှောက် ပိုပြီး ဂရုစိုက်ကြရအောင်။ နွားတွေ တော်တော် ခံစားနေရပုံပဲ။ ဟူး...

**맞다 ကိုက်ညီသည်**
**N이/가 N에/에게(한테) 맞다.**
**N က N နဲ့ ကိုက်တယ်။**
· 새로 산 신발이 발에 안 맞아서 다른 신발로 바꿨어요.
အသစ် ဝယ်လာတဲ့ ဖိနပ်က ခြေထောက်နဲ့ မတော်လို့ တခြားဖိနပ်နဲ့ လဲခဲ့တယ်။

**신경(을) 쓰다**
**ဂရုစိုက်ပေးသည်။**
· 가: 이반 씨, 감기는 좀 어때요?
အီဗန်၊ အဖျား ဘယ်လိုနေသေးလဲ။
나: 많이 나았어요. 신경 써 줘서 고마워요.
အများကြီး သက်သာလာပြီ။ ဂရုစိုက်ပေးလို့ ကျေးဇူးပဲ။



နားထောင်ပြီး လိုက်ဆိုပြီးပြီလား။ ဒါဆို မေးခွန်းများကို ဖြေကြည့်ပါ။

1. 아저씨는 사료를 왜 바꿨어요? ပိုင်ရှင်က ဘာလို့ အစာကို ပြောင်းလိုက်တာလဲ။
2. 왜 수의사를 부르려고 해요? တိရိစ္ဆာန်ဆရာဝန်ကို ဘာဖြစ်လို့ ခေါ်ဖို့ လုပ်တာလဲ။

정답　1. 농협중앙회에서 추천해서 바꿨어요.　2. 소에게 문제가 생겨서 수의사를 부르려고 해요.





## 어휘 1 ဝေါဟာရ ၁ — 축산업 တိရိစ္ဆာန်မွေးမြူရေး လုပ်ငန်း



တိရိစ္ဆာန်မွေးမြူရေးနဲ့ ပတ်သက်တဲ့ ဝေါဟာရတွေ လေ့လာသင်ယူရအောင်။






အထက်မှ ဝေါဟာရများကို မကြည့်ဘဲ အောက်ပါ မေးခွန်းကို ဖြေကြည့်ပါ။

1. 그림에 맞는 표현을 〈보기〉에서 골라 넣으세요.
ပုံကို ကြည့်ပြီး သင့်တော်သော စကားလုံးကို ရွေးထည့်ပေးပါ။




정답 1) 닭 2) 소 3) 축사 4) 돼지 5) 건초

## 문법 1 သဒ္ဒါ ၁ -도록 하다




ကြိယာနှင့် တွဲဆက်ပြီး ပြောသူက တစ်စုံတစ်ရာကို ဆက်ဆက် ပြုလုပ်မည် ဖြစ်ကြောင်း ပြောဆိုခြင်းကို ဖော်ပြသည်။ (လုပ်ဖြစ်အောင် /ဆက်ဆက် လုပ်ပါမယ်/လုပ်ပါ ဆိုသော ဆိုလိုချက်)

- 가: 먼저 먼지부터 **닦도록 하세요**. အရင်ဆုံး ဖုန် စသုတ်တာ လုပ်ရမယ်။
  나: 그럼 창문을 좀 열게요. ဒါဆို ပြတင်းပေါက် ဖွင့်လိုက်မယ်။
- 가: 중요한 시험이니까 열심히 **준비하도록 하세요**. အရေးကြီးတဲ့ စာမေးပွဲမလို့ ကြိုးကြိုးစားစား ပြင်ဆင်ထားရမယ်။
  나: 네, 최선을 **다하도록 할게요**. ဟုတ်ကဲ့။ တတ်နိုင်သလောက် ကြိုးစားပါမယ်။



'-도록 하다' ကို နားလည်ပြီဆိုရင် အောက်ပါ ဝါကျများကို ဖြည့်ပါ။

2. '-도록 하다'를 사용해서 대화를 완성하세요. '-도록 하다' ကို သုံးပြီး ဝါကျဆက်ပေးပါ။

1) 가: 사장님, 오늘 아침에는 어떤 일을 하면 돼요? သူဌေး ဒီနေ့ မနက် ဘာလုပ်ရမလဲ။
   나: ______________________. [축사를 청소하다 ဝက်ခြံကို သန့်ရှင်းရေး လုပ်သည်။]

2) 가: 건초는 잘 챙겨 두었지요? ကောက်ရိုးခြောက်တွေ သေချာ ထားထားတယ်မလား။
   나: ______________________. [바로 확인하다 ချက်ချင်း စစ်ကြည့်သည်။]

3) 가: 축사에 가서 ______________________. [소 먹이를 주다 နွားစာ ကျွေးသည်။]
   나: 네, 창고에 가서 사료 가져올게요. ဟုတ်ကဲ့။ ဂိုဒေါင်ကို သွားပြီး နွားစာ ယူလာခဲ့မယ်။

정답 1) 축사를 청소하도록 하세요 2) 바로 확인하도록 하겠습니다 3) 소 먹이를 주도록 하세요

'-도록 하다' ကို သုံးပြီး ဝါကျဖြည့်ပါ။

1. 가: 내일 몇 시에 출발해요? မနက်ဖြန် ဘယ်အချိန် ထွက်မှာလဲ။
   나: 6시에 출발하니까 ____________. ခြောက်နာရီ ထွက်မှာမလို့ နောက်မကျအောင် လာပါ။
2. 가: 부탁한 보고서는 어떻게 됐어요? အကူအညီတောင်းထားတဲ့ ရီပို့ အခြေအနေ ဘယ်လိုလဲ။
   나: 지금 하고 있는데 저녁까지 ____________. အခု လုပ်နေတာမလို့ ညနေအထိ ပြီးအောင် လုပ်ပေးမယ်။
3. 가: 올해는 담배를 ____________. ဒီနှစ်တော့ ဆေးလိပ် ပြတ်အောင် လုပ်ပါ။
   나: 네, 꼭 끊을게요. ဟုတ်ကဲ့၊ တကယ် ဖြတ်ပါ့မယ်။
4. 가: 작업장이 좀 지저분한데 청소 좀 해 주세요. လုပ်ငန်းခွင်က နည်းနည်း ရှုပ်ပွနေလို့ သန့်ရှင်းရေး လုပ်ပေးပါဦး။
   나: 네, 이 일만 끝내고 ____________. ဟုတ်ကဲ့၊ ဒါ လုပ်လို့ ပြီးရင် သန့်ရှင်းရေး လုပ်ဖြစ်အောင် လုပ်ပါ့မယ်။

정답 1. 늦지 않도록 하세요 2. 끝내도록 할게요 3. 끊도록 하세요 4. 청소하도록 할게요

### 유용한 표현 အသုံးဝင်သော အသုံးအနှုန်းများ

**익숙해졌어요. ရင်းနှီးကျွမ်းဝင်သွားပါပြီ။**

가: 한국에서 생활하는 게 힘들지요? ကိုရီးယားမှာ နေရတာ ပင်ပန်းတယ်မဟုတ်လား။
나: 처음에는 힘들었는데 이제 **익숙해졌어요.** အစပိုင်းမှာတော့ ပင်ပန်းခဲ့ပေမဲ့ အခုတော့ **ရင်းနှီးကျွမ်းဝင်သွားပါပြီ။**



## 대화 2 စကားပြော ၂





ဘာထုနဲ့ ခါရင်းက အလုပ်လုပ်နေကြပါတယ်။ သူတို့ ဘာတွေ ပြောနေကြလဲ။ နှစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

카림 그물 좀 미리미리 정리해 놓으라니까 또 그냥 이렇게 뒀네.
ငါးဖမ်းပိုက်ကွန်ကို ကြိုတင်ပြီး ပြင်ဆင်ထားပါဆို အခုတော့ ထပ်ပြီး ဒီတိုင်းပဲ ထားသွားပြန်ပြီ။

바트 어디 좀 봐. 몇 번이나 말했는데 또 그런 거야? 카림 형, 이건 실수가 아니야. 이번엔 마문 씨 불러서 단단히 혼을 좀 내.
ကြည့်ပါဦး။ အကြိမ်ကြိမ် ပြောထားတာကို ဒီလို ထပ်လုပ်တာလား။ အကိုခါလင်း ဒါ မတော်တဆ မှားတာ မဟုတ်ဘူး။ ဒီတခါတော့ မာမွန်းကို ခေါ်ပြီး သေချာ ဆုံးမလိုက်ပါ။

카림 한 번 쓴 그물은 다 엉켜서 다시 쓰기 어려우니까 꼭 풀어 놓으라고 했는데. 이것 때문에 오늘도 작업을 제때 못 하게 됐잖아.
တစ်ခါ သုံးပြီးသား ငါးဖမ်းပိုက်ကွန်က ရှုပ်ထွေးသွားရင် နောက်တစ်ခါ သုံးဖို့ ခက်တာမို့လို့ ဖြည်ထားပေးရမယ်လို့ ပြောထားရဲ့သားနဲ့။ ဒီဟာကြောင့် ဒီနေ့လည်း အလုပ် အချိန်မီ မလုပ်ဖြစ်တော့ဘူး။

바트 집어등도 새로 안 갈았고, 양망기도 그대로야.
ငါးမျှားမီးလုံးကိုလည်း အသစ် မလဲထားဘူး။ ပြီးတော့ ပိုက်ကွန်စက်သီးလည်း ဒီတိုင်းပဲ။

카림 안되겠다. 당장 마문 씨 좀 불러다가 얘기를 해야겠어.
မဖြစ်တော့ဘူး။ ခုချက်ချင်း မာမွန်းကို ခေါ်ပြီး ပြောမှပဲ။

**그냥 ဒီတိုင်း**
① အပိုအလို မရှိ သို့မဟုတ် အနေအထား အပြောင်းအလဲ မရှိပဲ ရှိနေသည့် အတိုင်း
② အဓိပ္ပါယ် သို့မဟုတ် သတ်မှတ်ချက် မရှိဘဲ

- 가: 여기 다 쓴 공구는 제가 정리할까요?
  ဒီမှာ သုံးလို့ ပြီးသွားတဲ့ ပစ္စည်းတွေကို ကျွန်တော် သိမ်းလိုက်ရမလား။
  나: 그냥 두세요. 이따가 다시 쓸 거예요.
  ဒီတိုင်း ထားထားပါ။ ခဏနေ ပြန်သုံးဦးမှာ။
- 가: 케이크는 왜 샀어요? 오늘 누구 생일이에요?
  ကိတ်မုန့် ဘာလို့ ဝယ်လာတာလဲ။ ဒီနေ့ ဘယ်သူ့ မွေးနေ့ လဲ။
  나: 아니요, 먹고 싶어서 그냥 샀어요.
  မဟုတ်ပါဘူး။ စားချင်လို့ ဒီတိုင်း ဝယ်လာတာ။

**당장 အခု ချက်ချင်း**
- 회의에 늦지 않으려면 지금 당장 출발해야 합니다.
  အစည်းအဝေး နောက်မကျအောင် အခုချက်ချင်း ထွက်မှ ရမယ်။



ခါလင်းနဲ့ ဘာထု နေရာက သရုပ်ဆောင်ပြီး လိုက်ပြောကြည့်ရအောင်။ ပြီးရင် အောက်ပါ မေးခွန်းများကို ဖြေကြည့်ပါ။

1. 두 사람은 뭘 하고 있어요? သူတို့ ဘာလုပ်နေကြလဲ။
2. 두 사람은 왜 화가 났어요? သူတို့ ဘာလို့ စိတ်ဆိုးနေကြတာလဲ။

정답 1. 그물을 정리하고 있어요. 2. 동료가 일을 제대로 해 놓지 않아서 화가 났어요.

## 어휘 2 စကားပြော ၂ 어업 ငါးဖမ်းလုပ်ငန်း



ငါးဖမ်းလုပ်ငန်းနဲ့ ပတ်သက်တဲ့ ဝေါဟာရတွေ လေ့လာသင်ယူရအောင်။



그물
ငါးဖမ်းပိုက်ကွန်



통발
ငါးဖမ်းတောင်း



집어등
ငါးမျှားမီးလုံး



양망기
ပိုက်ကွန်ရစ်ဘီး



밧줄
ကြိုး



쇠사슬
ချိန်းကြိုး



고리
ချိတ်တံ



닻
ကျောက်ဆူး



도르래
စက်သီး



뜰채
လက်ကိုင် ပိုက်ကွန်



낚시 바늘
ငါးမျှားချိတ်



부자/부표
အချက်ပြဖော့တုံး



바늘대
လွန်းပျံ



수중 펌프
ရေမြှုပ်ပန့်စက်



수경
ရေကူးမျက်မှန်



갈퀴
ခြစ်တံ



스티로폼 상자
အအေးခံဖော့ဘူး



အထက်မှ ဝေါဟာရများကို စဉ်းစားပြီး အောက်မှ မေးခွန်းကို ဖြေကြည့်ပါ။

1. 사진을 보고 알맞은 말을 연결하세요. ပုံကို ကြည့်ပြီး သင့်တော်သော စကားလုံးနှင့် ချိတ်ဆက်ပေးပါ။

① ② ③ ④ ⑤

㉠ 닻 ㉡ 통발 ㉢ 부표 ㉣ 양망기 ㉤ 집어등

정답 ①-㉡ ②-㉢ ③-㉤ ④-㉠ ⑤-㉣



## 문법 2 သဒ္ဒါ ၂ -게 되다


G46-2

ကြိယာနှင့် တွဲဆက်ပြီး ပြင်ပ အခြေအနေ၊ လွှမ်းမိုးမှုကြောင့် အခြေအနေတစ်ခုဖြစ်လာခြင်း ကို ဖော် ပြသည်၊

- 가: 날씨 때문에 오늘도 작업을 못 **하게 되었어**. ရာသီဥတုကြောင့် ဒီနေ့ လည်း အလုပ် မလုပ်ဖြစ်တော့ဘူး။
  나: 큰일이다. 내일은 좋아질까? တကယ့်ပြဿနာပဲ။ မနက်ဖြန်တော့ ကောင်းမလားမသိဘူး။
- 가: 이반 씨는 한국 음식을 잘 먹네요. ဘာထုက ကိုရီးယားအစားအသောက် ကောင်းကောင်း စားသားပဲ။
  나: 처음에는 못 먹었는데 몇 달 지나니까 잘 **먹게 되었어요**.
  အစက ကောင်းကောင်း မစားနိုင်ပေမဲ့ အချိန်ကြာလာတော့လည်း စားနိုင်သွားပါတယ်။



### 비교해 보세요 နှိုင်းယှဉ်ကြည့်ပါ။

**✔ '-게 되다' နဲ့ '-아지다/어지다'**

'-게 되다' နှင့် '-아지다/어지다' နှစ်မျိုးလုံးသည် အပြောင်းအလဲကို ဖော်ပြသော်လည်း '-게 되다' သည် အပြောင်းအလဲ၏ ရလဒ်ကို အဓိကထား ဖော်ပြပြီး '-아지다/어지다' သည် အပြောင်းအလဲ ဖြစ်စဉ်ကို အဓိကထား ဖော်ပြသည်။ ထို့ပြင် '-게 되다' ကို အများအားဖြင့် ကြိယာနှင့် ပေါင်းစပ်သုံးပြီး '-아지다/어지다' ကို အများအားဖြင့် နာမဝိသေသနနှင့် ပေါင်းစပ်သုံးသည်။

- 날씨가 **추워졌어요**. 날씨가 추워서 일을 못 **하게 되었어요**. (O)
- 날씨가 춥게 되었어요. (X)



'-게 되다' ကို နားလည်ရင် အောက်ပါ မေးခွန်းများကို ဖြေပါ။

2. 그림을 보고 '-게 되다'를 사용해서 문장을 완성하세요. ပုံကို ကြည့်ပြီး '-게 되다' ကို သုံးပြီး ဝါကျ ဖြည့်ပါ။

1) 
낚시를 잘 못 했는데 ____________________.
ငါး မမျှားတတ်ပေမဲ့ ခဏခဏ လုပ်တော့လည်း အခု ကောင်းကောင်း မျှားတတ်သွားပြီ။

2) 
날씨가 너무 안 좋아서 ____________________.
ရာသီဥတုက မကောင်းလို့ သင်္ဘော ထွက်လို့ မရတော့ဘူး။

정답 1) 자주 해서 지금은 잘하게 됐어요 2) 배를 못 타게 됐어요



'-게 되다' ကို သုံးပြီး အောက်ပါ မေးခွန်းများကို ဖြေကြည့်ပါ။

1. 한국에 처음 왔을 때는 한국어를 잘 못했어요. 하지만 지금은 한국 사람과 자주 얘기해서 ____________________.
ကိုရီးယား ရောက်ခါစတုန်းက ကိုရီးယားစကား မပြောတတ်ဘူး။ ဒါပေမဲ့ အခုတော့ ကိုရီးယားလူမျိုးတွေနဲ့ ခဏခဏ စကားပြောပါများတော့ ကောင်းကောင်းမွန်မွန် ပြောတတ်သွားပြီ။

2. 고향에 살 때는 요리를 못했어요. 하지만 지금은 요리를 자주 해서 ____________________.
ဇာတိမှာ နေတုန်းက ထမင်းဟင်း မချက်တတ်ဘူး။ ဒါပေမဲ့ အခုတော့ မကြာခဏ ချက်စားနေလို့ ချက်တတ်သွားပြီ။

3. 우리 회사가 이사를 했어요. 그래서 저도 회사 근처로 ____________________.
ကျွန်တော်တို့ ကုမ္ပဏီ နေရာပြောင်းသွားပြီ။ ဒါကြောင့် ကျွန်တော်လည်း ကုမ္ပဏီအနီးအနားကို ပြောင်းနေဖြစ်သွားတယ်။

정답 1. 잘하게 됐어요 2. 잘하게 됐어요 3. 이사하게 됐어요

## 활동 အသုံးချသင်ခန်းစာများ

**문제가 생겼을 때는 어떻게 해결하면 좋을까요? 〈보기〉처럼 말해 보세요.**
ပြဿနာ ပေါ်ပေါက်လာပါက ဘယ်လို ဖြေရှင်းရင် ကောင်းမလဲ။ ဥပမာအတိုင်း ပြောကြည့်ပါ။



<ဥပမာ>



그물이 엉키다, 그물을 풀다
ပိုက်ကွန်က ရှုပ်ထွေးသည်
ပိုက်ကွန် ဖြည်သည်

그물이 모두 엉켜 있으니까
어서 그물을 풀도록 하세요.
ပိုက်ကွန်က အကုန် ရှုပ်ထွေးနေတာပဲ
အမြန် ပိုက်ကွန် ဖြည်ဖို့ လုပ်ပါ။



1)



돼지가 먹이를 기다리다, 사료를 주다
ဝက်က အစာကျွေးတာ စောင့်နေသည်,
အစာကျွေးသည်



2)



축사가 더럽다, 분뇨를 치우다
နွားတင်းကုပ် ညစ်ပတ်သည်,
မစင်အညစ်အကြေး ကျုံးသည်



3)



양망기가 고장나다, 수리하다
ပိုက်ကွန်ရစ်ဘီး ပျက်သွားသည်။, ပြင်သည်။



정답 1) 돼지가 먹이를 기다리니까 사료를 주도록 하세요.
2) 축사가 더러우니까 분뇨를 치우도록 하세요.
3) 양망기가 고장이 났으니까 수리하도록 하세요.



## 정보 သတင်းအချက်အလက်

# 축산업과 어업 현장의 직업

သားငါးမွေးမြူရေး လုပ်ငန်းခွင်

### 축산업 တိရိစ္ဆာန်မွေးမြူရေး



사료 배합기 တိရိစ္ဆာန်အစာ ရောစက်

사료 배합기에 사료를 투입합니다.
ရောစက်ထဲ အစာများ ထည့်သည်။




스키드로더 အမှိုက်ကျုံးယာဉ်

스키드로더로 폐기물을 치웁니다.
စက်ဖြင့် အမှိုက်အညစ်အကြေးများ ကျုံးသည်။



축사 မွေးမြူရေးခြံ

축사 지붕을 점검하거나 수리합니다.
ခေါင်မိုးကို စစ်ဆေးသည် သို့မဟုတ် ပြင်သည်။



분뇨 탱크 မစင်အညစ်အကြေး သိုလှောင်ကန်

분뇨 탱크를 조작합니다.
မစင်အညစ်အကြေး သိုလှောင်ကန်ကို ပြုလုပ်သည်။

### 어업 ငါးဖမ်းလုပ်ငန်း



배를 타고 바다에 나가 물고기를 잡습니다.
သင်္ဘော စီးပြီး ပင်လယ်ထဲ သွားကာ ငါးဖမ်းသည်။



갯벌에서 조개나 낙지, 굴 등을 캡니다.
ပင်လယ်နုန်းမြေမှ ကမာ သို့ ကင်းမွန်၊ ခရု
စသည်တို့ကို နှိုက်သည်



양식장에서 물고기를 길러서 팝니다.
ငါးမွေးကန်တွင် ငါးမွေးပြီး ရောင်းသည်။



염전을 만들어 소금을 생산합니다.
ဆားငွေ့ပျံကန်များ ပြုလုပ်ပြီး
ဆား ထုတ်လုပ်သည်။



မေးခွန်း ၁နဲ့ ၂မှာ စကားပြောတာကို နားထောင်ပြီး အဖြေမှန် ရွေးပေးရမှာ ဖြစ်တယ်။

[1~2] 그림을 보고 알맞은 것을 고르십시오.
ပုံကို ကြည့်ပြီး သင့်တော်သော စကားလုံးကို ရွေးပေးပါ။

Track 144

1. ① ② ③ ④

2. ① ② ③ ④



မေးခွန်း ၃နဲ့ ၄မှာ နားထောင်ပြီး အဖြေမှန်ကို ရွေးပေးရမှာ ဖြစ်ပြီး မေးခွန်း ၅မှာ စာပိုဒ်ကို နားထောင်ပြီး သင့်တော်သော အဖြေကို ရွေးပေးရမှာပါ။ သေချာ နားထောင်ပြီး ဖြေပါ။

[3~4] 질문을 듣고 알맞은 대답을 고르십시오. မေးခွန်းကို နားထောင်ပြီး အဖြေမှန်ကို ရွေးပေးပါ။

3. ① 오리를 기르고 있어요. ② 토끼를 본 적이 있어요.
③ 오리 농장에 가 볼까요? ④ 토끼 먹이를 사러 왔어요.

4. ① 어제 갈았어요. ② 안 갈게 됐어요.
③ 내일 갈 거지요? ④ 빨리 갈도록 할게요.

5. 이야기를 듣고 질문에 알맞은 대답을 고르십시오.
မေးခွန်းကို နားထောင်ပြီး အဖြေမှန်ကို ရွေးပေးပါ။

남자는 무엇을 확인하려고 합니까? ယောက်ျားလေးက ဘာကို စစ်ဆေးဖို့ လုပ်နေလဲ။

① 그물 ② 통발 ③ 양망기 ④ 집어등

### 듣기 대본 စာသား

1. ① 여: 소를 길러요. နွားမွေးတယ်။ ② 여: 양을 길러요. သိုးမွေးတယ်။
   ③ 여: 닭을 길러요. ကြက်မွေးတယ်။ ④ 여: 돼지를 길러요. ဝက်မွေးတယ်။
2. ① 여: 어선을 준비해요. ငါးဖမ်းသင်္ဘော ပြင်ဆင်ထားပါ။
   ② 여: 갈퀴를 준비해요. ခြစ်တံ ပြင်ဆင်ထားပါ။
   ③ 여: 통발을 준비해요. ငါးဖမ်းပိုက်တောင်း ပြင်ဆင်ထားပါ။
   ④ 여: 그물을 준비해요. ငါးဖမ်းပိုက်ကွန် ပြင်ဆင်ထားပါ။
3. 남: 수피카 씨는 농장에서 어떤 일을 해요? ဆူဖီခါက ခြံထဲမှာ ဘယ်လို အလုပ်မျိုးလုပ်လဲ။
4. 남: 집어등이 좀 어두운 것 같네요. 갈아야겠어요.
   ငါးမျှားမီးလုံးက နည်းနည်း မှောင်နေသလိုပဲ။ လဲမှပဲ။
5. 여: 어제 작업할 때 보니까 양망기가 잘 돌아가지 않던데…….
   မနေ့က အလုပ်လုပ်တုန်းက ကြည့်တာ ရစ်ဘီးက ကောင်းကောင်း မလည်သလိုပဲ...
   남: 안 그래도 수리 맡겼으니까 곧 고칠 거예요. 그리고 오늘은 멀리 안 나갈 거니까 괜찮아요.
   그물 엉킨 게 있는지만 좀 확인해 봅시다.
   မပြောလည်း ပြင်ဖို့ အပ်ထားပြီးပြီမလို့ ခုနနေ ပြင်မှာပါ။ ပြီးတော့ ဒီနေ့ အဝေးကြီးလည်း မသွားတာကြောင့် ရပါတယ်။ ပိုက်ကွန် ရှုပ်နေလားပဲ တစ်ချက် စစ်ကြည့်ရအောင်။

정답 1. ① 2. ④ 3. ① 4. ④ 5. ①



### 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်




1. 대화를 듣고 질문에 알맞은 것을 고르십시오.
   မေးခွန်းကို နားထောင်ပြီး သင့်တော်သော အဖြေကို ရွေးပေးပါ။

   남자는 대화 후 먼저 어디로 가겠습니까?
   ဒီလူတွေ အခု ဘယ်မှာ ရှိနေလဲ။

   ① 축사 ② 양계장 ③ 양식장 ④ 사료 창고

### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

남: 아주머니, 계란 선별 다 했어요. 이제 뭐 하면 돼요?
အဒေါ် ကြက်ဥ အမျိုးအစားခွဲပြီးသွားပြီ။ အခု ဘာလုပ်ရမလဲ။

여: 벌써 다 했어요? 수고했어요. 그럼 이제 저쪽 닭장에 가서 닭한테 사료 좀 주세요.
ပြီးတောင်သွားပြီလား။ ဒါဆိုရင် ဟိုဘက်ကြက်ခြံကို သွားပြီး တဆိတ်လောက် ကြက်ကို အစာကျွေးလိုက်ပါ။

남: 네, 그런데 사료는 어디에 있어요? ဟုတ်ကဲ့။ ဒါနဲ့ အစာက ဘယ်နားမှာ ရှိလဲ။

여: 비닐하우스 옆에 있는 창고에 있어요. မိုးလုံစိုက်ခင်းဘေးမှာ ရှိတဲ့ ဂိုဒေါင်ထဲမှာ ရှိတယ်။

정답 1. ④



မေးခွန်း ၁နဲ့ ၂မှာ ပုံကို ကြည့်ပြီး သင့်တော်တဲ့ အဖြေကို ရွေးပေးရမှာပါ။ ဝါကျကို ဖတ်ပြီး အဖြေမှန်ကို ရွေးပေးပါ။

[1~2] 다음 그림을 보고 맞는 문장을 고르십시오. ပုံကို ကြည့်ပြီး ဝါကျမှန်ကို ရွေးပေးပါ။

1. 

① 부표예요. ② 어선이에요.
③ 수경이에요. ④ 바늘대예요.

2. 

① 사료를 주도록 하세요. ② 먹이를 버리도록 하세요.
③ 돼지를 기르도록 하세요. ④ 분뇨를 치우도록 하세요.



မေးခွန်း ၃နဲ့ ၄က ကွက်လပ်ဖြည့် မေးခွန်းတွေပါ။ မှန်ကန်တဲ့ အဖြေကို ဖြည့်ပေးပါ။

[3~4] 빈칸에 들어갈 가장 알맞은 단어를 고르십시오. ကွက်လပ်တွင် အသင့်တော်ဆုံး အဖြေကို ဖြည့်ပေးပါ။

3. 이 동네에는 소를 키우는 ____________ 농가가 많아요.
ဒီ ရပ်ကွက်မှာ နွားမွေးတဲ့ စားနွား ခြံတွေ များတယ်။

① 양돈 ② 양우 ③ 양계 ④ 양망

4. ____________은/는 조개를 캘 때 사용해요. ခြစ်တံကို ကမာကောင် တူးတဲ့အခါ သုံးတယ်။

① 통발 ② 갈퀴 ③ 부표 ④ 밧줄



မေးခွန်း ၅က စာပိုဒ်ကို ဖတ်ပြီး မေးခွန်းများကို ဖြေပေးရမှာပါ။ သင်ယူခဲ့တာတွေ ပြန်စဉ်းစားပြီး မေးခွန်းများကို ဖြေကြည့်ပါ။

5. 다음 질문에 답하십시오. မေးခွန်းကို ဖြေပါ။

축산 농가는 여름이 되면 신경 써야 할 일이 많아집니다. 가축들의 위생을 위해 아침저녁으로 축사 청소도 해야 하고, 사료의 상태도 자주 확인을 해야 합니다. 또한 가축들이 더운 여름을 건강하게 보낼 수 있도록 축사를 시원하게 유지하는 것도 중요합니다.
မွေးမြူရေးသမားသည် နွေရာသီ ရောက်ရင် ဂရုစိုက်ရမည့် အလုပ်တွေ များလာပါသည်။ အိမ်မွေးတိရိစ္ဆာန်တွေအတွက် နေ့နေ့ညည မွေးမြူရေးခြံကို သန့်ရှင်းရေးလုပ်ရပြီး တိရိစ္ဆာန်အစာ အခြေအနေကိုလည်း မကြာခဏ စစ်ဆေးပေးရပါမည်။ ပြီးတော့ တိရိစ္ဆာန်တွေ ပူပြင်းတဲ့ နွေရာသီမှာလည်း ကျန်းမာစေအောင် မွေးမြူရေးခြံကို အေးမြအောင် လုပ်ထားဖို့ အရေးကြီးပါသည်။

축산 농가가 여름에 하는 일이 아닌 것을 고르십시오.
မွေးမြူရေးသမားက နွေရာသီမှာ လုပ်တဲ့ အလုပ်ထဲက မဟုတ်တာကို ရွေးပေးပါ။

① 축사 청소를 자주 하는 것 ② 가축의 위생을 점검하는 것
③ 축사를 시원하게 유지하는 것 ④ 먹이 상태를 매일 확인하는 것

정답 1. ① 2. ④ 3. ② 4. ② 5. ②



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~3] 빈칸에 들어갈 가장 알맞은 것을 고르십시오. ကွက်လပ်တွင် အသင့်တော်ဆုံး အဖြေကို ရွေးထည့်ပေးပါ။

1. ________은 과일나무를 심은 밭으로 자주 먹는 열매를 얻기 위하여 배나무, 사과나무, 감나무, 밤나무 등을 가꿉니다.
သစ်သီးခြံမှာ သစ်သီးပင်ကို စိုက်တဲ့ စိုက်ခင်းအဖြစ် ပုံမှန် စားသုံးနိုင်တဲ့ အသီးကို ရဖို့ သစ်တော်သီးပင်၊ ပန်းသီးပင်၊ တည်သီးပင် စသည်တို့ကို စိုက်ပျိုးပါသည်။

① 공사장　② 식물원
③ 양식장　④ 과수원

2. 저는 ________에서 일을 합니다. 아침에 가서 제일 먼저 하는 일은 물고기에게 사료를 주는 일 입니다.
ကျွန်တော် ငါးမွေးကန်မှာ အလုပ်လုပ်ပါတယ်။ မနက်မှာ ထိပ်ဆုံး အရင် လုပ်တဲ့ အလုပ်ကတော့ ငါးတွေကို အစာကျွေးတဲ့ အလုပ်ဖြစ်ပါတယ်။

① 양식장　② 과수원
③ 공사장　④ 양계장

3. ________은/는 내부의 온도가 따뜻하여 겨울에도 농작물을 키울 수 있습니다.
မိုးလုံအိမ်မှာ အတွင်းရှိ အပူချိန်က ပူနွေးနေပြီးဆောင်းတွင်းမှာလည်း သီးနှံတွေ စိုက်လို့ရတယ်။

① 우사　② 과수원
③ 돼지우리　④ 비닐하우스

정답 1. ④ 2. ① 3. ④



## 발음 အသံထွက်



P-23

### သေချာ နားထောင်ပြီး လိုက်ဆိုပါ။

**သံပြတ်နှစ်ခု ဆုံကြတဲ့အခါ အနောက်က သံပြတ်ကို ပေါင်းစပ်ဖျည်းအသံထွက်ပေးရပါတယ်။**

(1) 식당, 속담, 꽃집
(2) 답장, 옆집, 국수, 꽃가게
(3) 교실에 책상이 있어요. / 메일에 답장이 없어요.




# 재고를 파악하는 것이 중요해요

ကုန်လက်ကျန် အခြေအနေကို သိထားဖို့ အရေးကြီးတယ်

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** အလုပ်တာဝန် ဂိုဒေါင် စီမံခန့်ခွဲခြင်း အလုပ်တွင် အမှားလုပ်မှုကို ပြောခြင်း
- □ **သဒ္ဒါ** -는 것이 중요하다, -(으)ㄹ 것이다
- □ **ဝေါဟာရနှင့် အသုံးများ** ဂိုဒေါင် စီမံခန့်ခွဲခြင်း ပရိဘောဂ ထုတ်လုပ်ခြင်း
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** အလုပ်တွင် ချီးကျူးစကား ပြောခြင်း



## 대화 1 စကားပြော ၁






မန်နေဂျာနဲ့ ခန်းနဲ့ စကားပြောနေကြတာပါ။ အရင်ဆုံး နှစ်ခါက် နားထောင်ပြီး လိုက်ပြောကြည့်ရအောင်။

관리자 오늘 출고할 상품은 모두 준비됐지요?
ဒီနေ့ ထုတ်လုပ်မယ့် ထုတ်ကုန်တွေ အကုန် ပြင်ဆင်ပြီးပြီမလား။

칸 네, 이쪽에 있는 물건들이 오늘 나갈 상품입니다. 그리고 재고는 여기에 기록해 **두었고요**.
ဟုတ်ကဲ့။ ဒီဖက်မှာ ရှိတဲ့ ပစ္စည်းတွေ ဒီနေ့ ထုတ်လုပ်မယ့် ဟာတွေပါ။ ပြီးတော့ ကုန်လက်ကျန်ကိုလည်း ဒီမှာ ရေးမှတ်ထားပါတယ်။

관리자 한번 봅시다. 음, 정리가 잘 되어 있어서 재고 파악이 쉽겠네요. 수고했어요.
ကြည့်ရအောင်။ အင်း၊ သေချာမှတ်ထားလို့ ကုန်လက်ကျန်အခြေအနေကို လွယ်လွယ်နဲ့ သိနိုင်တယ်။ တာဝန်ကျေပါတယ်။

칸 아닙니다. 창고 정리는 재고를 **파악하는 것이 중요하잖아요**.
မဟုတ်ပါဘူး။ ဂိုဒေါင် ထိန်းသိမ်းကွပ်ကဲဖို့ ကုန်လက်ကျန် အခြေအနေကို သိဖို့က အရေးကြီးတာမို့ပါ။

관리자 그래요. 그럼 칸 씨가 창고 관리 좀 신경 써 주세요. 재고도 얼마나 되는지 계속 **확인해** 주시고요.
အမှန်ပဲ။ ဒါဆို ခန်းက ဂိုဒေါင် ထိန်းသိမ်းကွပ်ကဲတာကို နည်းနည်း ဂရုစိုက်ပေးပါဦး။ ကုန်လက်ကျန် ဘယ်လောက်ရှိလဲဆိုတာလည်း တောက်လျှောက် စစ်ဆေးပေးပါ။

**-고요 လည်း--- တယ်**
ရှေ့မှ ပြောထားသော အချက်တွင် အခြား အချက်ကို ထပ်ဖြည့်ပြောဆိုသည့် အချိန် ရှေ့မှ ဝါကျအဆုံးသတ်စကားလုံးနှင့် တစ်ထပ်တည်း မတူချင်တဲ့အခါတွင် အသုံးပြုသည်။
- 가: 이 노트북 어때요?
  ဒီ ကွန်ပျူတာ ဘယ်လိုလဲ။
  나: 가벼워서 좋아요. 기능도 많고요.
  ပေါ့လို့ ကောင်းတယ်။ စွမ်းဆောင်ချက်တွေလည်း အများကြီးပါတယ်။
- 가: 기숙사가 어때요?
  အဆောင် ဘယ်လိုနေလဲ။
  나: 조용해서 좋아요. 방도 넓고요.
  တိတ်ဆိတ်လို့ ကောင်းတယ်။ အခန်းလည်း ကျယ်တယ်။

**확인하다 စစ်ဆေးသည်။**
- 회의 내용을 제대로 정리했는지 확인해 주세요.
  အစည်းအဝေး အကြောင်းအရာကို စနစ်တကျ လုပ်ထားလား စစ်ဆေးပေးပါ။
- 거래처에 보낼 물건을 잘 챙겼는지 확인해야 해요.
  ပါတနာဆီ ပို့မယ့် ပစ္စည်းတွေကို အသေအချာ ယူလာ မလာ စစ်ဆေးရမယ်။



အသေအချာ နားထောင်ပြီး လိုက်ဆိုကြည့်ရအောင်။ ပြီးရင် မေးခွန်းတွေကို ဖြေကြည့်ပါ။

1. 관리자는 무엇을 확인하고 있어요? မန်နေဂျာက ဘာကို စစ်ဆေးနေလဲ။
2. 칸 씨는 무슨 일을 해야 해요? ခန်းက ဘာလုပ်ရမလဲ။

정답 1. 오늘 출고할 상품을 확인하고 있어요. 2. 창고 관리와 재고 확인을 해야 해요.



## 어휘 1 ဝေါဟာရ ၁ 창고 관리 ဂိုဒေါင် ထိန်းသိမ်းကွပ်ကဲခြင်း

ဂိုဒေါင် ထိန်းသိမ်းကွပ်ကဲခြင်းနဲ့ ပတ်သက်တဲ့ ဝေါဟာရတွေ လေ့လာသင်ယူရအောင်။

| | | | |
|---|---|---|---|
| 물류 창고<br>ကုန်ဂိုဒေါင် | 냉동 창고<br>အအေးခန်း ဂိုဒေါင် | 컨테이너<br>ကွန်တင်နာ | |
| 입고하다<br>ဂိုဒေါင်ထဲ ထည့်သည် | 출고하다<br>ထုတ်သည် | 보관하다<br>သိုလှောင်သည် | 저장하다<br>သိုလှောင်သည်၊ သိမ်းဆည်းသည် |
| 덮개를 덮다<br>အကာ အုပ်သည် | 온도를 유지하다<br>အပူချိန် ထိန်းထားသည် | 재고를 파악하다<br>ကုန်လက်ကျန် အခြေအနေ သိသည် | 관리하다<br>စီမံကွပ်ကဲသည် |


အသေအချာ လေ့လာသင်ယူပြီးရင် အောက်ပါ မေးခွန်းများကို ဖြေကြည့်ပါ။

1. 그림을 보고 알맞은 말을 연결하세요. ပုံကို ကြည့်ပြီး သင့်တော်သော စကားလုံးနှင့် ချိတ်ဆက်ပေးပါ။



① ② ③ ④ ⑤

㉠ 컨테이너 ㉡ 입고하다 ㉢ 덮개를 덮다 ㉣ 냉동 창고 ㉤ 관리하다

정답 ①-㉣ ②-㉠ ③-㉡ ④-㉤ ⑤-㉢

## 문법 1 သဒ္ဒါ ၁ -는 것이 중요하다

G47-1

ကြိယာနှင့် တွဲသုံးပြီး အာရုံစူးစိုက် ဆောင်ရွက်သင့်သော အချက်ကို အလေးထား ဖော်ပြရာတွင် 
သုံးသည်။

- 가: 식품 창고에서는 온도를 잘 **유지하는 것이 중요합니다**.
  စားသောက်ကုန် ဂိုဒေါင်တွင် အပူချိန်ကို တသမတ်တည်း ထိန်းထားခြင်းဟာ အရေးကြီးပါတယ်။
  
  나: 그럼 모든 식품을 같은 온도로 유지합니까?
  ဒါဆို စားသောက်ကုန် အကုန်လုံးကို အပူချိန် အတူတူမှာ ထားတာလား။
- 가: 밖에 있는 물건에 덮개를 덮어 뒀어요. အပြင်မှ ပစ္စည်းကို အဖုံး အုပ်ထားပေးခဲ့တယ်။
  
  나: 네, 잘했어요. 물건이 파손되지 않도록 **하는 게 중요해요**.
  အင်း၊ တော်တယ်။ ပစ္စည်း မပျက်စီးအောင် ထားတာက အရေးကြီးတယ်။




### 대조적 정보 နှိုင်းယှဉ်ချက်

ကိုရီးယားစကားရဲ့ '-는 것이 중요하다' ကိုတော့ မြန်မာလို အသုံးမှာ 'တဲ့အရာက'လို့ တိုက်ရိုက်မှတ်ယူတာထက် 'ဖို့(က)'လို့ မှတ်ယူတာက ပို သဘာဝကျပါတယ်။

- 다른 나라에서 온 사람들끼리 서로 이해를 하는 것이 중요하다.
  မတူညီတဲ့ နိုင်ငံက လာသူအချင်းချင်း အပြန်အလှန် နားလည်ဖို့က အရေးကြီးပါတယ်။
- 글로벌 시대에는 외국어를 배우는 것이 중요하다.
  ဂလိုဘယ်ခေတ်မှာ နိုင်ငံခြားဘာသာစကားကို သင်ယူတာက အရေးပါတယ်။



'-는 것이 중요하다' ကို နားလည်ရင် အောက်ပါ ဝါကျများကို ဆက်ပေးပါ။

**2. 그림을 보고 '-는 것이 중요하다'를 사용해서 문장을 완성하세요.**
ပုံကို ကြည့်ပြီး '-는 것이 중요하다' ကို သုံး၍ အောက်ပါ ဝါကျများကို ဖြည့်စွက်ပေးပါ။

1) 재고를 파악하다

창고 관리는 ______________________.
ဂိုဒေါင် ထိန်းသိမ်းကွပ်ကဲတဲ့အခါ လက်ကျန် အခြေအနေကို သိထားဖို့ အရေးကြီးတယ်။

2) 
온도를 유지하다

식품을 보관할 때는 ______________________.
စားသောက်ကုန်ကို သိုလှောင်ချိန်တွင် အပူချိန်ကို ထိန်းထားတာက အရေးကြီးတယ်။

3) 
덮개를 덮다

밖에 물건을 둘 때는 ______________________.
အပြင်မှာ ပစ္စည်းကို ထားတဲ့ အချိန် အဖုံး အုပ်ထားပေးဖို့က အရေးကြီးတယ်။

정답 1) 재고를 파악하는 것이 중요하다 2) 온도를 유지하는 것이 중요하다 3) 덮개를 덮는 것이 중요하다



## 대화 2 စကားပြော ၂

Track 146



ဘာရူနဲ့ ဂျီဟွန်းက အလုပ်လုပ်နေကြတယ်။ သူတို့ ဘာတွေ ပြောနေကြလဲဆိုတာ အရင်ဆုံး နှစ်ခေါက် နားထောင်ပြီး လိုက်ပြောကြည့်ကြရအောင်။

바 루 아! 이런 어떡하지…….
ဟာ။ ဘယ်လိုလုပ်ရမလဲ....

지 훈 왜요? 무슨 일 있어요?
ဘာလို့လဲ။ ဘာဖြစ်လို့လဲ။

바 루 실수로 반대쪽에 구멍을 뚫었어요. 이 원목은 못 쓰게 됐는데 어떡하죠?
မှားပြီး ဆန့်ကျင်ဘက်မှာ အပေါက် ဖောက်မိသွားတယ်။ ဒီ သစ်သား သုံးလို့ မရတော့ရင် ဘယ်လိုလုပ်မလဲ။

지 훈 일이 아직 손에 익지 않아서 그런 거 같네요. 너무 속상해하지 마세요. 그건 다른 거 만들 때 쓰면 되죠, 뭐.
အလုပ်နဲ့ မရင်းနှီးသေးလို့ပါ။ စိတ်မကောင်း အရမ်း မဖြစ်ပါနဲ့။ အဲ့ဒါကို တခြားနေရာမှာ သုံးလို့ ရတာပဲ။ ဘာဖြစ်လဲ။ ဘာဖြစ်လဲ။

바 루 재단부터 다시 하려면 시간이 많이 걸릴 텐데…….
အစကနေ ပြန်ပြီး တိုင်းတာဖြတ်တောက်ရင် အချိန် အများကြီး ထပ်ကုန်ဦးမှာ....

지 훈 같이 하면 금방 할 수 있을 거예요. 자, 다시 해 봅시다.
အတူတူ လုပ်ရင် ခဏလေးနဲ့ လုပ်နိုင်သွားမှာပါ။ လာ.. ထပ်လုပ်ကြရအောင်။

> **실수 အမှား**
> - 술을 마시고 실수로 사장님께 '아저씨'라고 했어요.
>   အရက်သောက်ပြီး သူဌေးကို အာရောရှိလို့ မှားခေါ်မိတယ်။
> - 처음 이 일을 시작했을 때에는 일을 잘 몰라서 실수를 많이 했어요.
>   အရင်ဆုံး ဒီ အလုပ်ကို စလုပ်ခဲ့တုန်းက အလုပ်ကို ကောင်းကောင်း မသိလို့ အမှား အများကြီး လုပ်ခဲ့တယ်။

> **-(으)ㄹ 텐데 မယ်လို့ ထင်သည်**
> ရှေ့ဝါကျမှ ပြောသူ၏ ခန့်မှန်းထင်မြင်ချက်ကို ဖော်ပြပေးပြီး ထိုအကြောင်းအရာကို နောက်ဝါကျ၏ နောက်ခံအဖြစ် အသုံးပြုသည်။
> - 오늘 오후에 비가 올 텐데 우산을 가지고 가세요.
>   ဒီနေ့ မွန်းလွဲပိုင်းမှာ မိုးရွာမှာ၊ ထီးယူသွားပါ။
> - 지금 밥을 먹지 않으면 배가 고플 텐데…….
>   အခု ထမင်း မစားထားရင် ခဏနေ ဗိုက်ဆာနေမယ်လို့ ထင်တယ်။



လိုက်ဆိုပြီးရင် အောက်က မေးခွန်းများကို ဖြေကြည့်ပါ။

1. 바루 씨는 무슨 실수를 했어요? ဘာရူက ဘာအမှား လုပ်ခဲ့လဲ။
2. 대화 후 두 사람은 무엇을 할까요? စကားပြောပြီးနောက် သူတို့ ဘာလုပ်ကြမလဲ။

정답 1. 구멍을 잘못 뚫었어요. 2. 재단을 할 거예요.



## 어휘 2 စကားပြော ၂ 가구 제조 ပရိဘောဂ ထုတ်လုပ်ရေး

ပရိဘောဂ ထုတ်လုပ်ရေးနဲ့ ပတ်သက်တဲ့ ဝေါဟာရတွေ လေ့လာသင်ယူကြရအောင်။



원목을 재단하다
သစ်သားကို တိုင်းတာဖြတ်တောက်သည်



홈을 파다
ဆောက်ထွင်းသည်



구멍을 뚫다
အပေါက်ဖောက်သည်



연마하다/샌딩하다
ရွှေဘော်ထိုးသည်



사포질하다
ကော်ပတ်စားသည်



도장하다
ပေါလစ်တင်သည်



도색하다
ဆေးသုတ်သည်



줄자
ပေကြိုး



직각자
ဆောက်လုပ်ရေးသုံးပေတံ



수평대
ရေချိန်တိုင်းစက်



အပေါ်မှ ဝေါဟာရများကို သုံးပြီး အောက်ပါ မေးခွန်းများကို ဖြေကြည့်ပါ။

1. 그림에 맞는 표현을 〈보기〉에서 골라 넣으세요.
ပုံနဲ့ ကိုက်ညီသော ဝါကျကို ဥပမာအတိုင်း ရွေးပေးပါ။




보기: 홈을 파다 원목을 재단하다 도장하다 연마하다 도색하다

정답 1) 원목을 재단하다 2) 홈을 파다 3) 연마하다 4) 도장하다 5) 도색하다

## 문법 2 သဒ္ဒါ ၂ -(으)ㄹ 것이다



ပြောသူက အနာဂတ်တွင် ဖြစ်ပျက်တော့မည့် သို့မဟုတ် ပြုလုပ်တော့မည့် ကိစ္စကို ပြောချိန်တွင် အသုံးပြုသည်။ ကြိယာ သို့မဟုတ် နာမဝိသေသနနှင့် တွဲပြီး အသုံးပြုသည်။

| 자음 (ဗျည်း) → -을 것이다 | 모음 (သရ), 자음 (ဗျည်း) 'ㄹ' → -ㄹ 것이다 |
|---|---|
| 먹다 → 먹을 것이다<br>읽다 → 읽을 것이다 | 보다 → 볼 것이다<br>살다 → 살 것이다 |

- 가: 도색 작업이 언제 끝날까요? ဆေးသုတ်တာ ဘယ်အချိန် ပြီးမှာလဲ။
  나: 3시까지는 **끝날 거예요**. သုံးနာရီဆို ပြီးမှာပါ။
- 내일부터 날씨가 **맑을 것이다**. မနက်ဖြန်ကစပြီး ရာသီဥတု သာယာမယ်။
- 앞으로 한국에서 일하는 외국인 근로자의 수가 **증가할 것이다**.
  ရှေ့လျှောက် ကိုရီးယားကို အလုပ် လာလုပ်တဲ့ နိုင်ငံခြားသား အရေအတွက် ပိုများလာမယ်။

ပြုသူနဲ့ ပြောသူက တစ်ယောက်တည်း ဖြစ်တဲ့အခါ ပြောသူရဲ့ သဘောထားကို ဖော်ပြပါတယ်။

- 나는 오늘부터 한국어 공부를 열심히 **할 것이다**.
  ငါ ဒီနေ့ကစပြီး ကိုရီးယားစာလေ့လာမှုကို ကြိုးကြိုးစားစား လုပ်တော့မယ်။



'-(으)ㄹ 것이다' ကို နားလည်ပြီဆိုရင် အောက်ပါ ဝါကျများကို ဖြည့်ပေးပါ။

2. '-(으)ㄹ 것이다'를 사용해서 대화를 완성하세요.
'-(으)ㄹ 것이다' ကို အသုံးပြုပြီး ဝါကျများကို ဆက်ပေးပါ။

1) 가: 오늘 도장 작업을 다 끝낼 수 있을까요?
ဒီနေ့ ဒီနေ့ ပေါ်လစ်တင်တာ အကုန် ပြီးမလား။
나: 네, ______________________. [문제 없다 ပြဿနာ မရှိသည်]

2) 가: 직각자 못 봤어요?
ဆောက်လုပ်ရေးသုံးပေတံ တွေ့မိသေးလား။
나: 아마 ______________________. [저쪽에 있다 ဟိုဘက်မှာ ရှိသည်]

3) 가: 오전에 원목 재단 작업이 다 될까요?
မနက်ပိုင်း သစ်သား ဖြတ်တဲ့ အလုပ် အကုန်ပြီးလောက်လား။
나: 12까지는 ______________________. [끝나다 ပြီးသည်]

4) 가: 이번 주 금요일까지 이 서류를 사무실에 내야 하는 거 맞죠?
ဒီအပတ် သောကြာနေ့ အထိ ဒီစာရွက်စာတမ်း ရုံးမှာ တင်ရမယ်မလား။
나: 아마 ______________________. [그렇다 ဟုတ်မယ်ထင်သည်]

정답 1) 문제 없을 거예요 2) 저쪽에 있을 거예요 3) 끝날 거예요 4) 그럴 거예요

### 유용한 표현 အသုံးဝင်သော အသုံးအနှုန်းများ

**얼굴이 좋아 보여요. ပျော်နေပုံပဲ။**

가: **얼굴이 좋아 보여요**. 무슨 일 있어요? **ပျော်နေပုံပဲ။** ဘာဖြစ်လို့လဲ။
나: 승진했어요. 일도 재미있고요. ရာထူးတိုးသွားလို့ပါ။ အလုပ်ကလည်း စိတ်ဝင်စားစရာကောင်းတယ်။



## 활동 အသုံးချသင်ခန်းစာများ

가구 공장의 게시판입니다. 잘 읽고 질문에 답하세요.
ပရိဘောဂစက်ရုံရဲ့ ကြော်ငြာဘုတ် ဖြစ်ပါတယ်။ သေချာ ဖတ်ပြီး မေးခွန်းများကို ဖြေပါ။

### 칭찬 게시판 ချီးကျူးစာ



바루 씨를 칭찬합니다!
의자 만들 때는 구멍을 뚫는 것이 중요한데 바루 씨가 정확한 곳에 잘 뚫었어요. 정말 멋졌어요!
ဘာရူကို ချီးကျူးပါတယ်။
ထိုင်ခုံ လုပ်တဲ့ခါ အရေးကြီးတဲ့ အပေါက်ဖောက်တာကို ဘာရူက နေရာအတိအကျ ဖောက်နိုင်တယ်။ အရမ်း တော်တာပဲ။

칸 씨를 칭찬합니다!
오후에 비가 온다고 했는데 칸 씨가 미리 원목에 덮개를 덮어 줘서 문제가 생기지 않았어요!
ခန်းကို ချီးကျူးပါတယ်။
ညနေပိုင်း မိုးရွာမယ်လို့ ပြောခဲ့တာကို ခန်းက ကြိုပြီး သစ်သားတွေပေါ် အကာ အုပ်ပေးခဲ့လို့ ဘာပြဿနာမှ မပေါ်ခဲ့ဘူး။

민수 씨를 칭찬합니다!
탁자의 상태가 좋지 않아서 여러 번 사포질을 해야 했는데 민수 씨가 탁자를 아주 매끄럽게 만들어 줬어요.
မင်းဆုကို ချီးကျူးပါတယ်။
စားပွဲ အနေအထား ဆိုးရွားလို့ အကြိမ်ကြိမ် ကော်ပတ်တိုက်စားရမှာကို မင်းဆုက စားပွဲကို ပြောင်ချောနေအောင် တိုက်ပေးခဲ့တယ်။

정현 씨를 칭찬합니다!
입고된 상품이 너무 많아서 힘들었는데 정현 씨가 잘 정리해 줘서 금방 끝났어요!
ဂျောန်ဟယောင်းကို ကုန်ပစ္စည်း အဝင်တွေ အရမ်းများလို့ ပင်ပန်းနေတာကို ဂျောန်ဟယောင်းက ပစ္စည်းနေရာ သေချာ ချထားပေးလို့ ခဏလေးနဲ့ ပြီးသွားတယ်။

1. 네 사람은 왜 칭찬을 받았을까요? 맞는 그림을 연결하세요.
သူတို့ လေးယောက်က ဘာလို့ ချီးကျူးခံရတာလဲ။ အောက်မှ သင့်တော်တဲ့ ပုံနဲ့ ချိတ်ဆက်ပေးပါ။

① 바루 ② 칸 ③ 민수 ④ 정현

ㄱ 

ㄴ 

ㄷ 

ㄹ 

정답 ①-ㄷ ②-ㄱ ③-ㄹ ④-ㄴ



## 대화 2 စကားပြော ၂

Track 167



အောက်က စကားပြောကတော့ အလုပ်ခွင် မတော်တဆမှု အကြောင်းဖြစ်ပါတယ်။ အရင်ဆုံး စကားပြောကို နှစ်ခေါက် နားထောင်ကြည့်ရအောင်။

바루 작업하다가 손을 다쳤는데, 혹시 병원비를 지원 받을 수 있을까요?
အလုပ်လုပ်ရင်းက လက်ကို ထိသွားလို့ပါ။ ဆေးရုံစရိတ်ကို ပြန်ရနိုင်မလား။

빨려 들어가다
ပါသွားသည်

직원 언제 어디에서 어떻게 다치셨는지 말씀해 주시겠어요?
ဘယ်အချိန် ဘယ်နေရာမှာ ဘယ်လို ထိခိုက်ခဲ့တာလဲဆိုတာ ပြောပြပေးပါလား။

바루 3일 전에 작업장에서 연마 작업을 하다가 손이 기계 안으로 빨려 들어갔어요.
လွန်ခဲ့တဲ့ ၃ ရက်က အလုပ်ခွင်မှာ မျက်နှာပြင်အချောကိုင်နေရာက စက်ထဲ လက်ပါသွားတာပါ။

직원 많이 다치셨겠네요. 지금은 좀 괜찮으세요?
တော်တော် ထိခိုက်သွားမှာပဲ။ အခုကော သက်သာရဲ့လား။

바루 네, 사고 난 후에 빨리 수술을 받아서 괜찮아요.
ဟုတ်ကဲ့၊ မတော်တဆမှုဖြစ်ဖြစ်ချင်း အမြန် ခွဲစိတ်လိုက်လို့ သက်သာပါတယ်။

직원 다행이네요. 산재를 신청하려면 재해 발생 당시의 진료 기록이 중요합니다. 우선 이 신청서 한 부 작성해 주시고요, 병원에서 진단서를 받아 오시면 됩니다.
တော်သေးတာပေါ့။ အလုပ်ခွင်ထိခိုက်မှု လျှောက်ထားမယ်ဆိုရင် ထိခိုက်မှုဖြစ်ပွားချိန်က ဆေးကုသမှု မှတ်တမ်းက အရေးကြီးပါတယ်။ အရင်ဆုံး ဒီလျှောက်လွှာ တစ်စုံ ဖြည့်ပေးပြီး ဆေးရုံကနေ ဆေးမှတ်တမ်း ယူလာရင် ရပါပြီ။



ဒီတစ်ခါတော့ မိမိကိုယ်ကို ဘာရူနဲ့ ဝန်ထမ်းအဖြစ် သဘောထားပြီး စကားပြောကို လိုက်ဆိုကြည့်ပါ။ နားထောင်ပြီး လိုက်ဆိုပြီးရင် အောက်က မေးခွန်းတွေကို ဖြေကြည့်ပါ။

1. 바루는 어떻게 하다가 다쳤어요? ဘာရူက ဘယ်လိုကနေဘယ်လို ထိခိုက်သွားတာလဲ။
2. 산재를 신청하려면 어떻게 해야 해요? အလုပ်ခွင် ထိခိုက်မှု လျှောက်ထားမယ်ဆိုရင် ဘယ်လို လုပ်ရမလဲ။

정답 1. 연마 작업을 하다가 손이 기계 안으로 빨려 들어갔어요. 2. 진단서와 신청서를 제출하면 돼요.



## 어휘 2 စကားပြော ၂

## 보험금 청구 အာမခံကြေး တောင်းခံခြင်း

အာမခံကြေး တောင်းခံခြင်းနဲ့ သက်ဆိုင်တဲ့ စကားလုံးတွေကို ကြည့်ကြရအောင်။

| | | | |
|---|---|---|---|
|  |  |  |  |
| 보험을 청구하다<br>အာမခံကြေး လျှောက်ထားသည် | 지급 심사를 받다<br>ငွေပြန်ပေးရန် စစ်ဆေးခံသည် | 보험금을 지급하다<br>အာမခံကြေး ပြန်ပေးသည် | 보험금을 타다<br>အာမခံကြေး ပြန်ရသည် |
|  |  |  |  |
| 청구서<br>တောင်းခံလွှာ | 영수증<br>ပြေစာ | 내역서<br>ပါဝင်မှုအသေးစိတ် | 진단서<br>ဆေးစာ |
|  |  |  |  |
| 병원비<br>ဆေးရုံစရိတ် | 치료비/요양비<br>ဆေးကုသစရိတ်/ ကျန်းမာရေး စောင့်ရှောက်မှုစရိတ် | 휴업 급여<br>အလုပ်နားလစာ | 장애 보상금<br>မသန်မစွမ်းဖြစ်မှုလျော်ကြေး |

**Tip 산재를 신청하려면** အလုပ်ခွင်ထိခိုက်မှုအာမခံ လျှောက်ထားမယ်ဆိုရင်

먼저, 근로복지공단 홈페이지 (www.kcomwel.or.kr)에서 요양급여신청서를 다운로드 받아 작성해서 사업장 소재지 관할 근로복지공단 지사, 병원, 회사에 각 한부씩 총 3부를 제출해야 합니다. 병원에 제출할 신청서 뒷면에는 진단서를 작성해야 합니다.

အရင်ဆုံး အလုပ်သမားထောက်ပံ့ရေးစင်တာရဲ့ အင်တာနက်စာမျက်နှာမှာ ကျန်းမာရေးစောင့်ရှောက်မှုလစာ လျှောက်လွှာကို ဒေါင်းလုတ်လုပ်ပြီး ဖြည့်စွက်ပြီး အလုပ် လိပ်စာရဲ့ သက်ဆိုင်ရာ အလုပ်သမားထောက်ပံ့ရေးစင်တာ ရုံးခွဲ၊ ဆေးရုံနဲ့ ကုမ္ပဏီကို တစ်စုံစီ စုစုပေါင်း ၃ စုံ တင်ရပါမယ်။ ဆေးရုံကို တင်တဲ့ လျှောက်လွှာ အနောက်ခြမ်းမှာ ဆေးစာကို ဖြည့်ပေးရပါမယ်။

업무상 사유에 의한 재해여부가 명확한 경우 7일 이내에 결과가 나오지만 사실 관계 확인이 필요한 경우 오랜 시간이 소요될 수 있습니다.

အလုပ်ကြောင့် ထိခိုက်မှု ဟုတ်မဟုတ် ထင်ရှားရင် တစ်ပတ်အတွင်း အဖြေ ထွက်ပေမဲ့ ဖြစ်ရပ် ဆက်နွယ်မှုကို စိစစ်ဖို့ လိုတဲ့အခါ အချိန်အကြာကြီး ကြာတတ်ပါတယ်။



အပေါ်က စကားလုံးတွေကို မကြည့်ဘဲ မေးခွန်းတွေကို ဖြေကြည့်ပါ။

1. 그림에 맞는 표현을 〈보기〉에서 골라 넣으세요.
   ပုံနဲ့ ကိုက်ညီတဲ့ အသုံးကို ဥပမာထဲကနေ ရွေးပြီး ထည့်ပါ။

1) ____ → 2) ____ → 3) ____ → 4) ____

보기

| 보험금을 타다 | 지급 심사를 받다 | 보험금을 지급하다 | 보험금을 청구하다 |
|---|---|---|---|
| အာမခံကြေးရသည် | ငွေပြန်ပေးရန် စစ်ဆေးခံသည် | အာမခံကြေး ပြန်ပေးသည် | အာမခံကြေး တောင်းခံသည် |

2. 그림을 보고 알맞은 말을 연결하세요.
   ပုံကို ကြည့်ပြီး သင့်တော်တဲ့ စကားလုံးနဲ့ တွဲဆက်ပါ။

① • • ㉠ 청구서

② • • ㉡ 영수증

③ • • ㉢ 병원비

④ • • ㉣ 휴업 급여

정답 1. 1) 보험금을 청구하다 2) 지급 심사를 받다 3) 보험금을 지급하다 4) 보험금을 타다
2. ①-㉡ ②-㉠ ③-㉣ ④-㉢



## 활동 အသုံးချသင်ခန်းစာများ

**외국인 근로자 보험 안내입니다. 잘 읽고 질문에 답하세요.**
နိုင်ငံခြားသားအလုပ်သမား အာမခံ လမ်းညွှန်ဖြစ်ပါတယ်။ သေချာ ဖတ်ကြည့်ပြီး မေးခွန်းတွေကို ဖြေကြည့်ပါ။

**외국인 근로자 전용 보험** နိုင်ငံခြားသားသီးသန့် အလုပ်သမား အာမခံ

| | 출국 만기 보험<br>သက်တမ်းပြည့် ပြည်တော်ပြန် အာမခံ | 귀국 비용 보험<br>ပြည်တော်ပြန်စရိတ် အာမခံ |
|---|---|---|
| 도입 목적<br>ရည်ရွယ်ချက် | 퇴직금 지급에 따른 부담 완화<br>လုပ်သက်ဆုကြေး ပေးသွင်းရခြင်း ဝန်ထုပ်ဝန်ပိုးကို လျှော့နည်းစေရန် | 귀국 시 필요한 항공비 충당<br>ပြည်တော်ပြန်သည့်အခါ လိုအပ်သည့် လေယာဉ်စရိတ် ပံ့ပိုးပေးခြင်း |
| 근거<br>သက်ဆိုင်ရာဥပဒေ | 외국인 고용법 제13조<br>နိုင်ငံခြားသား ခန့်အပ်ခြင်းဥပဒေ အပိုဒ် ၁၃<br>동법 시행령 제21조<br>နည်းဥပဒေ အပိုဒ် ၂၁ | 외국인 고용법 제15조<br>နိုင်ငံခြားသား ခန့်အပ်ခြင်းဥပဒေ အပိုဒ် ၁၅<br>동법 시행령 제22조<br>နည်းဥပဒေ အပိုဒ် ၂၂ |
| 보험 가입<br>အာမခံ စာရင်းသွင်းခြင်း | 사업주 အလုပ်ရှင် | 외국인 근로자 နိုင်ငံခြားသား အလုပ်သမား |
| 가입 시기<br>စာရင်းသွင်းရမည့်ကာလ | 근로계약 효력 발생일로부터 15일 이내<br>အလုပ်စာချုပ် အကျုံးဝင်နေ့မှ စ၍ ၁၅ ရက်အတွင်း | 근로계약 효력 발생일로부터 80일 이내<br>အလုပ်စာချုပ် အကျုံးဝင်နေ့မှစ၍ ရက် ၈၀ အတွင်း |
| 보험금 납부 방법<br>အာမခံကြေး ပေးသွင်းရမည့်ပုံစံ | 매월 적립 လစဉ် ပေးသွင်း | 일시금 တစ်ကြိမ်တည်းပေးသွင်း |
| 보험금 지급 사유<br>အာမခံကြေး ပြန်ပေးခြင်း | 사업장 이탈 없이 1년 이상 근무한 외국인 근로자의 출국(일시 출국 제외)<br>အလုပ်ခွင်မှ ထွက်မပြေးဘဲ ၁နှစ်နှင့်အထက် လုပ်ကိုင်ခဲ့သော နိုင်ငံခြားသား အလုပ်သမားမှ အပြီးပြန်လျှင်(ခေတ္တပြန်သူများ မပါ) | 외국인 근로자 출국(일시 출국 제외)<br>-자진 출국 또는 강제 퇴거의 경우도 해당<br>နိုင်ငံခြားသား အလုပ်သမားမှ မိမိသဘောဖြင့် အပြီးပြန်လျှင်(ခေတ္တပြန်သူများ မပါ) သို့မဟုတ် ပြည်နှင်ခံရသူလည်း အကျုံးဝင်ပါသည်။ |

◆ 미리 보험금을 청구하면 인천공항에서도 보험금을 받고 환전까지 할 수 있는 서비스가 시행 중입니다.
အာမခံကြေး ကြိုတင် တောင်းခံလျှင် အင်ချွန်းလေဆိပ်တွင် အာမခံကြေးကို ထုတ်ယူ၍ ငွေလဲလှယ်နိုင်သည့် ဝန်ဆောင်မှုကို ရရှိနိုင်ပါသည်။

1. 위 표의 내용과 관계가 있는 것을 연결하세요.
အပေါ်က ဇယားထဲက အကြောင်းအရာတွေနဲ့ ဆက်စပ်တာတွေကို တွဲဆက်ပါ။

① 귀국 비용 보험
② 출국 만기 보험

㉠ 한 번에 보험료 납입
㉡ 외국인 근로자가 가입
㉢ 외국인 근로자의 퇴직금
㉣ 근로계약 후 보름 내 가입

정답 1. ①-㉠/㉡, ②-㉢/㉣



## 정보 သတင်းအချက်အလက်

# 외국인 근로자 보험 နိုင်ငံခြားသား အလုပ်သမား အာမခံ

### 외국인 근로자 전용 보험 နိုင်ငံခြားသားသီးသန့် အလုပ်သမား အာမခံ

외국인 근로자는 4대 보험 외에 외국인 근로자 전용 보험에 가입해야 합니다. 전용 보험으로는 출국 만기 보험, 귀국 비용 보험, 상해 보험, 임금 체불 보증 보험이 있습니다. 이 중에서 귀국 비용 보험과 상해 보험은 외국인 근로자가 반드시 가입해야 합니다.

နိုင်ငံခြားသား အလုပ်သမားများဟာ အာမခံကြီး ၄ခုအပြင် နိုင်ငံခြားသားသီးသန့် အလုပ်သမား အာမခံကိုလည်း ထားရှိရပါတယ်။ သီးသန့်အာမခံဆိုတာကတော့ သက်တမ်းပြည့်ပြည်တော်ပြန်အာမခံနဲ့ ပြည်တော်ပြန်စရိတ် အာမခံ၊ ထိခိုက်ဒဏ်ရာရအာမခံ၊ လစာမရရှိမှုအာမခံတို့ ဖြစ်ပါတယ်။ အဲဒီအထဲကမှ ပြည်တော်ပြန်စရိတ် အာမခံနဲ့ ထိခိုက်ဒဏ်ရာရအာမခံကတော့ နိုင်ငံခြားသား အလုပ်သမားများ မဖြစ်မနေ ပေးသွင်းရပါတယ်။

| 보험의 종류<br>အာမခံအမျိုးအစား | 가입 목적<br>ရည်ရွယ်ချက် | 가입 주체<br>ပေးသွင်းရမည့်သူ |
|---|---|---|
| 고용 보험<br>အလုပ်အာမခံ | 실업 예방, 고용 촉진 및 생활 안정, 재취업 지원<br>အလုပ်လက်မဲ့ မဖြစ်စေရန်၊ အလုပ်ခန့်အပ်မှု တိုးမြှင့်စေရန်နှင့် ဘဝရပ်တည်မှု တည်ငြိမ်ရန်၊ အလုပ်သစ်ရှာဖွေမှုတွင် အထောက်အကူဖြစ်စေရန် | 사용자,<br>외국인 근로자<br>အလုပ်ရှင်နှင့် နိုင်ငံခြားသားအလုပ်သမား |
| 산재 보험<br>အလုပ်ခွင်ထိခိုက်မှုအာမခံ | 업무상 재해에 대한 보상, 요양, 재활<br>အလုပ်ခွင်ထိခိုက်မှုအတွက် ပေးလျော်ရန်၊ ကျန်းမာရေးစောင့်ရှောက်ရန်နှင့် ဒဏ်ရာပြန်လည်ကောင်းမွန်လာရေး ကူညီပေးရန် | 사용자<br>အလုပ်ရှင် |
| 건강 보험<br>ကျန်းမာရေးအာမခံ | 질병, 부상에 대한 예방, 진단, 치료, 사망 및 보건 증진<br>ရောဂါနှင့် ထိခိုက်မှုများ ကြိုတင်ကာကွယ်ခြင်း၊ ဆေးစစ်ခြင်း၊ ကုသခြင်း၊ သေဆုံးခြင်း စသည့် ကျန်းမာရေးကဏ္ဍ ဖွံ့ဖြိုးစေရန် | 사용자,<br>외국인 근로자<br>အလုပ်ရှင်နှင့် နိုင်ငံခြားသားအလုပ်သမား |
| 국민 연금<br>ပင်စင်အာမခံ | 노령, 장애, 사망 등으로 소득이 없는 당사자 및 유족의 생활 보장<br>အသက်ကြီးလာခြင်း၊ မသန်စွမ်းတော့ခြင်း၊ သေဆုံးခြင်း စသည့် အကြောင်းများကြောင့် ဝင်ငွေမရှိတော့သူများနှင့် ကျန်ရစ်သူမိသားစုများ၏ ဘဝရပ်တည်မှုအတွက် ထောက်ပံ့ပေးရန် | 사용자,<br>외국인 근로자<br>အလုပ်ရှင်နှင့် နိုင်ငံခြားသားအလုပ်သမား |
| 귀국 비용 보험<br>ပြည်တော်ပြန်စရိတ်အာမခံ | 외국인 근로자의 귀국 시 필요한 비용 충당<br>နိုင်ငံခြားသား အလုပ်သမားများ ပြည်တော်ပြန်သည့်အခါ လိုအပ်သည့်စရိတ် ပံ့ပိုးရန် | 외국인 근로자<br>နိုင်ငံခြားသား အလုပ်သမား |
| 상해 보험<br>ထိခိုက်ဒဏ်ရာရအာမခံ | 업무상 재해 이외의 외국인 근로자의 사망·질병 대비<br>အလုပ်ခွင်ထိခိုက်မှု မဟုတ်သော နိုင်ငံခြားသား အလုပ်သမား သေဆုံးမှုနှင့် ရောဂါဘယများအတွက် ကြိုတင်ပြင်ဆင်ရန် | 외국인 근로자<br>နိုင်ငံခြားသား အလုပ်သမား |
| 출국 만기 보험<br>သက်တမ်းပြည့် ပြည်တော်ပြန်အာမခံ | 중소기업의 퇴직금 일시 지급에 따른 부담 완화<br>အသေးစားနှင့်အလတ်စားလုပ်ငန်းများမှ လုပ်သက်ဆုကြေးကို တစ်ကြိမ်တည်း ပေးသွင်းရသည့် ဝန်ထုပ်ဝန်ပိုးကို လျှော့ချပေးရန် | 사용자<br>အလုပ်ရှင် |
| 임금 체불 보증 보험<br>လစာမရရှိမှုအာမခံ | 외국인 근로자에 대한 임금 체불 대비<br>နိုင်ငံခြားသား အလုပ်သမားမှ လစာ မရရှိမှုကို ဖြေရှင်းရန် | 사용자<br>အလုပ်ရှင် |

### 보증 보험금 신청 및 수령 အာမခံကြေး လျှောက်ထားခြင်းနှင့် ရယူခြင်း

외국인 근로자는 사업장에서 임금체불이 발생한 경우 고용노동부 고용센터 또는 근로감독과에 임금 체불 사실을 신고하여 확인을 받은 후, 한국산업인력공단에 보험금 지급을 신청할 수 있습니다. 보험기간 이내에 임금체불이 아닌 기타 사유(이탈, 출국, 사망 등)로 외국인 근로자와 근로 계약이 해지된 경우 사용하는 보험금 사업자(서울보증보험)에 대해 납입한 보험료 중 경과 보험료(최저 보험료)를 제외한 미경과 보험료에 대해 환급을 받을 수 있습니다.

နိုင်ငံခြားသား အလုပ်သမားသည် အလုပ်ခွင်တွင် လစာ မရရှိမှု ဖြစ်ပွားခဲ့သော် အလုပ်သမားဝန်ကြီးဌာန အလုပ်သမားစင်တာ သို့မဟုတ် အလုပ်သမားကြီးကြပ်ရေးရုံးသို့ လစာမရရှိမှုကို တိုင်ကြား၍ စစ်ဆေးစေပြီး ကိုရီးယားလူ့စွမ်းအားအရင်းအမြစ်ဖွံ့ဖြိုးရေးဌာနသို့ အာမခံကြေးကို လျှောက်ထားနိုင်သည်။ အာမခံကာလအတွင်း လစာမရရှိမှု မဟုတ်ဘဲ အခြား အကြောင်းရင်း(အလုပ်မှ ထွက်ပြေးခြင်း၊ မိမိနိုင်ငံသို့ ပြန်သွားခြင်း၊ သေဆုံးခြင်း)ကြောင့် နိုင်ငံခြားသား အလုပ်သမားနှင့် အလုပ်စာချုပ် ပျက်ပြယ်သွားခဲ့သော် အာမခံကုမ္ပဏီ(ဆိုးလ်အာမခံ)သို့ ပေးသွင်းခဲ့သော အာမခံကြေး အနက်မှ အပိုအာမခံကြေး(အနိမ့်ဆုံး အာမခံကြေး)ကို ဖယ်၍ မူလအာမခံကြေးကို တောင်းခံရရှိနိုင်သည်။



မေးခွန်း ၁ နဲ့ ၂ ကတော့ အသံဖိုင်ကို နားထောင်ပြီး သူတို့ ဘာအကြောင်း ပြောနေတယ်ဆိုတာ ရွေးပေးရတာဖြစ်ပါတယ်။ နံပါတ် ၃ ကတော့ မေးခွန်းရဲ့ အဖြေအနေနဲ့ ကိုက်ညီတာကို ရွေးပေးရမှာဖြစ်ပါတယ်။ သေချာ နားထောင်ပြီး အဖြေမှန်ကို ရွေးပါ။

[1~2] 다음을 듣고 무엇에 대한 대화인지 고르십시오.
အောက်ပါတို့ကို သေချာ နားထောင်ပြီး ဘာအကြောင်း ပြောနေတာလဲဆိုတာ ရွေးပါ။




1. ① 보험 가입 ② 보험금 납입 ③ 보험금 환급 ④ 보험금 청구

2. ① 내역서 ② 진단서 ③ 청구서 ④ 영수증

3. 질문을 듣고 알맞은 대답을 고르십시오.
မေးခွန်းကို နားထောင်ပြီး သင့်တော်တဲ့ အဖြေကို ရွေးပါ။

① 네, 매달 보험료를 내요. ② 네, 지금 식사 중이에요.
③ 네, 귀국 전에 신청하려구요. ④ 네, 입국하자마자 가입했어요.



မေးခွန်း ၄ နဲ့ ၅ ကတော့ အသံဖိုင်ကို နားထောင်ပြီး မေးခွန်းရဲ့ အဖြေကို ရွေးပေးရမှာပါ။ အသံဖိုင်ကို နားမထောင်ခင် မေးခွန်းတွေကို အရင် ဖတ်ကြည့်ပါ။

[4~5] 이야기를 듣고 질문에 알맞은 대답을 고르십시오.
အကြောင်းအရာကို နားထောင်ပြီး မေးခွန်းနဲ့ ကိုက်ညီတဲ့ အဖြေကို ရွေးပါ။

4. 두 사람이 이야기하는 보험은 무엇입니까?
သူတို့ နှစ်ယောက်က ဘာ အာမခံအကြောင်း ပြောနေတာလဲ။

① 산재 보험 ② 상해 보험 ③ 귀국 비용 보험 ④ 출국 만기 보험

5. 두 사람은 무엇에 대해 이야기하고 있습니까?
သူတို့ နှစ်ယောက်က ဘာ အကြောင်း ပြောနေကြတာလဲ။

① 병원비 ② 치료비 ③ 휴업 급여 ④ 장애 보상금

### 듣기 대본 စာသား

1. 남: 보험을 들려고 하는데요. အာမခံ စာရင်းသွင်းမလို့ပါ။
   여: 네, 이쪽에 앉으세요. ဟုတ်ကဲ့၊ ဒီဘက်မှာ ထိုင်ပါ။
2. 여: 보험금을 청구할 때 어떤 치료를 받았는지 볼 수 있는 서류가 필요하다고 해요.
   အာမခံကြေးကို တောင်းခံတဲ့အခါ ဘယ်လို ကုသမှုမျိုး ခံယူခဲ့တယ်ဆိုတာ ကြည့်လို့ရတဲ့ စာရွက်စာတမ်း လိုတယ်လို့ ပြောပါတယ်။
   남: 아, 그 서류는 병원에서 발급 받을 수 있어요. အာ၊ အဲဒီ စာရွက်စာတမ်းက ဆေးရုံကနေ ထုတ်ယူလို့ရပါတယ်။
3. 남: 보험금을 청구했어요? အာမခံကြေး တောင်းထားတာလား။
4. 남: 이 보험은 반드시 가입해야 하는 보험이에요? ဒီ အာမခံက မဖြစ်မနေ ထားရမယ့် အာမခံလား။
   여: 네, 작업장이 아닌 곳에서 다칠 수도 있는 거잖아요. 꼭 가입해야죠.
   ဟုတ်ကဲ့၊ အလုပ်ခွင် မဟုတ်တဲ့ နေရာမှာ ထိခိုက်နိုင်တယ်မဟုတ်လား။ မဖြစ်မနေ ထားရမှာပေါ့။
5. 여: 지난번에 치료 받으신 후에도 계속 몸이 안 좋으시다는 거죠?
   ပြီးခဲ့တဲ့ တစ်ခေါက်က ကုသမှုခံယူပြီးတာတောင်မှ ဆက်တိုက် မသက်သာဘူးဟုတ်လား။
   남: 네, 이런 경우에 받을 수 있는 보상이 있어요?
   ဟုတ်ကဲ့၊ ဒီလို အခြေအနေမျိုးမှာ ရနိုင်တဲ့ နစ်နာကြေး ရှိလား။
   여: 네, 있습니다. ဟုတ်ကဲ့၊ ရှိပါတယ်။

정답 1. ① 2. ② 3. ③ 4. ② 5. ④



### 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန် L-54

1. 대화를 듣고 질문에 알맞은 것을 고르십시오.
   သေချာ နားထောင်ပြီး အဖြေမှန်ကို ရွေးပါ။

   여자는 지금 어디에 있습니까?
   မိန်းကလေးက အခု ဘယ်မှာရှိနေလဲ။

   ① 병원 ② 상담소 ③ 사무실 ④ 보험회사

### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

남: 모니카 씨, 그동안 고생 많았어요. မိုနီခါ၊ ပင်ပန်းသွားပြီ။
여: 고맙습니다, 사장님. 내일이면 퇴원할 수 있대요.
ဟုတ်ကဲ့၊ ကျေးဇူးတင်ပါတယ် သူဌေး။ မနက်ဖြန်ဆို ဆေးရုံဆင်းလို့ရပြီတဲ့။
남: 빨리 나아서 정말 다행이에요. 건강보험이 있으니까 입원비 걱정은 하지 마세요.
မြန်မြန် သက်သာလို့ တော်သေးတယ်။ ကျန်းမာရေးအာမခံ ရှိတော့ ဆေးရုံစရိတ်ကို စိတ်မပူနဲ့။
여: 네, 정말 감사합니다. ဟုတ်ကဲ့၊ တကယ် ကျေးဇူးတင်ပါတယ်။

정답 1. ①



## EPS-TOPIK 읽기 EPS-TOPIK အဖတ် စာမေးပွဲ



မေးခွန်း ၁ နဲ့ ၂ က ပုံနဲ့ ကိုက်ညီတဲ့ ဝါကျကို ရွေးပေးရမှာဖြစ်ပါတယ်။ ဝါကျကို သေချာ ဖတ်ကြည့်ပြီး အဖြေမှန်ကို ရွေးပါ။

[1~2] 다음 그림을 보고 맞는 문장을 고르십시오.
အောက်က ပုံကို ကြည့်ပြီး ကိုက်ညီတဲ့ ဝါကျကို ရွေးပါ။

1. 

① 사망했어요. ② 장애가 남았어요.
③ 질병에 걸렸어요. ④ 상해를 입었어요.

2.

① 영수증입니다. ② 내역서입니다.
③ 청구서입니다. ④ 진단서입니다.



မေးခွန်း ၃ နဲ့ ၄ ကတော့ ကွက်လပ်ထဲ ဖြည့်ရမယ့် သင့်တော်တဲ့ စကားလုံးကို ရွေးပေးရမှာပါ။ မေးခွန်း ၅ ကတော့ စကားပြောကို ဖတ်ပြီး မေးခွန်းကို ဖြေရမှာပါ။ သေချာ ဖတ်ကြည့်ပြီး မေးခွန်းတွေကို ဖြေပါ။

3. 보험금을 ______________ 먼저 보험금을 청구해야 합니다.
အာမခံကြေး ထုတ်ယူမယ်ဆိုရင် အရင်ဆုံး အာမခံကြေးကို တောင်းခံရပါမယ်။

① 내려면 ② 타려면 ③ 신청하려면 ④ 지급하려면

4. 이 보험은 ______________이/가 되면 그동안 낸 보험금을 전부 돌려 받을 수 있습니다.
ဒီ အာမခံကြေးကတော့ သက်တမ်းပြည့်သွားတဲ့အခါ ဒီနေ့အထိ ပေးသွင်းခဲ့တဲ့ အာမခံကြေးကို အကုန် ပြန်ရနိုင်ပါတယ်။

① 만기 ② 신청 ③ 소멸 ④ 보상

5. **다음 질문에 답하십시오.** အောက်က မေးခွန်းတွေကို ဖြေကြည့်ပါ။

여: 다쳐서 일도 못하고 생활이 어려워서 어떡해요.
ဒဏ်ရာရပြီး အလုပ်လည်း မလုပ်နိုင်၊ ဘဝရပ်တည်မှုလည်း ခက်ခဲ၊ ဒုက္ခပါပဲ။
남: 그래도 보험금으로 평균 임금의 70%를 받을 수 있으니까 다행이에요.
ဒါပေမဲ့ အာမခံကြေးက ပုံမှန် လုပ်အားခရဲ့ ၇၀% ရနိုင်သေးလို့ တော်သေးတာပေါ့။

두 사람은 무엇에 대해 이야기를 하고 있습니까? သူတို့က ဘာအကြောင်း ပြောနေကြတာလဲ။

① 병원비 ② 치료비 ③ 휴업 급여 ④ 장애 보상금

정답 1. ② 2. ① 3. ② 4. ① 5. ③



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~3] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်ထဲ ဖြည့်ရမယ့် အမှန်ဆုံး အဖြေကို ရွေးပါ။

1. 귀국할 때 필요한 비용을 준비하려면 귀국 비용 보험에 __________ 것이 좋습니다.
ကိုယ့်နိုင်ငံကို ပြန်တဲ့အခါ လိုအပ်တဲ့ ကုန်ကျစရိတ်ကို ပြင်ဆင်မယ်ဆိုရင် ပြည်တော်ပြန်အာမခံ သွင်းထားတာကောင်းပါတယ်။

① 기부하는 ② 가입하는 ③ 보상하는 ④ 지급하는

2. 우리 회사는 동료들끼리 아주 친하게 지냅니다. 그래서 저는 __________ 직장 생활을 하고 있습니다.
ကျွန်တော်တို့ ကုမ္ပဏီကတော့ လုပ်ဖော်ကိုင်ဖက်အချင်းချင်း အရမ်း ရင်းနှီးကြပါတယ်။ ဒါကြောင့် ကျွန်တော်ကတော့ ပျော်ရွှင်စွာနဲ့ အလုပ်ခွင်ဘဝကို ဖြတ်သန်းနေပါတယ်။

① 즐겁게 ② 외롭게 ③ 즐겁지만 ④ 외롭지만

3. 보호복을 입지 않고 일을 하면 위험합니다. 조금 불편하더라도 꼭 입고 작업해야 __________.
အကာအကွယ်ဝတ်စုံကို မဝတ်ဘဲ အလုပ်လုပ်ရင် အန္တရာယ်များပါတယ်။
နည်းနည်း အနေခက်ပေမဲ့လည်း မဖြစ်မနေ ဝတ်ပြီး အလုပ်လုပ်မှ ဘေးကင်းမှာပါ။

① 편리합니다 ② 복잡합니다 ③ 안전합니다 ④ 시원합니다



1. ② 2. ① 3. ③



## 발음 အသံထွက်




### သေချာ နားထောင်ပြီး လိုက်ဆိုပါ။

**ကြိယာစကားလုံးရဲ့ အသတ် ‘ㄴ, ㅁ’ ရဲ့ အနောက်မှာ ‘ㄱ, ㄷ, ㅅ, ㅈ’ နဲ့ စတဲ့ စကားဆက်(သဒ္ဒါ)တွေ ရှိရင် [ㄲ], [ㄸ], [ㅆ], [ㅉ] အသံကို ပြောင်းသွားပါတယ်။**

(1) (신발을) 신고, (아기를) 안다
(2) (실을) 감자, (음식이) 남고
(3) 운동화를 신고 왔어요. / 땀을 많이 흘렸으니까 머리를 감자




# 급여 명세서를 확인해 보세요
လစာ ပြေစာကို စစ်ကြည့်ပါ။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** လစာ ပြေစာ စစ်ဆေးခြင်း၊ လုပ်အားခ စစ်ဆေးခြင်း
- □ **အသုံးချသင်ခန်းစာ** လစာ ပြေစာ ဖတ်ရှုခြင်း
- □ **ဝေါဟာရ** လစာ၊ အခွန်နှင့် လုပ်အားခများ
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** လခ

## 대화 1 စကားပြော ၁

Track 169



သူတို့ နှစ်ယောက် လစာအကြောင်း ပြောနေကြပါတယ်။ အသားတင်ရရှိငွေကို ဘယ်လို ခေါ်သလဲ သိလား။ အရင်ဆုံး စကားပြောကို နှစ်ကြိမ် နားထောင်ကြည့်ပါ။

민수　이반 씨, **통장** 확인해 봤어요? 월급이 들어왔을 텐데요.
အီဗန်၊ ဘဏ်စာအုပ် စစ်ကြည့်ပြီးပြီလား။ လစာ ဝင်နေလောက်ပြီ။

이반　네, 그런데 생각보다 적은 것 같아요. 계약서에서 본 금액이 아니더라고요.
ဟုတ်ကဲ့၊ ဒါပေမဲ့ ထင်ထားတာထက် နည်းနေသလားလို့။ စာချုပ်မှာ တွေ့ခဲ့တဲ့ ငွေပမာဏ မဟုတ်ဘူး။

지은　아, 그건 **각종** 보험과 세금 때문이에요. 계약된 임금에서 세금하고 보험료를 뺀 만큼 받거든요.
အာ၊ အဲဒါက အာမခံကြေး မျိုးစုံနဲ့ အခွန်ကြောင့်ပါ။ စာချုပ်ထားတဲ့ လစာထဲက အခွန်နဲ့ အာမခံကြေးကို နုတ်ပြီး ကျန်သလောက် ရတာမို့ပါ။

이반　아, 계약서의 임금을 모두 받는 게 아니군요.
အာ၊ စာချုပ်က လစာကို အကုန် ရတာ မဟုတ်ဘူးပေါ့။

지은　네, 급여 명세서를 보면 실수령액이라는 게 있는데, 그게 이반 씨가 **실제로** 받는 돈이에요.
ဟုတ်ကဲ့၊ လစာ ပြေစာကို ကြည့်လိုက်ရင် အသားတင် လက်ခံရရှိတဲ့ ငွေပမာဏဆိုတာ ရှိပါတယ်။ အဲဒါ အီဗန် တကယ် လက်ခံရရှိတဲ့ ငွေပါ။

이반　그렇군요. 다시 급여 명세서를 확인해 봐야겠어요. 고마워요.
ဟုတ်လား။ အဲလိုလား။ လစာ ပြေစာကို တစ်ခေါက် စစ်ကြည့်ဦးမှပဲ။ ကျေးဇူးပါပဲ။

> **통장**
> ဘဏ်စာအုပ်
> ·통장을 확인하다 ဘဏ်စာအုပ်ကို စစ်ကြည့်သည်



> **각종**
> အမျိုးမျိုး



> **실제로**
> တကယ်(တမ်း)



သေချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေကို ဖြေကြည့်ပါဦး။

1. 이반 씨가 계약된 임금보다 임금을 적게 받은 이유는 뭐예요?
   အီဗန်က စာချုပ်ထားတဲ့ လစာထက် နည်းပြီး ရတဲ့ အကြောင်းရင်းက ဘာလဲ။
2. 실제로 받는 돈을 알고 싶으면 급여 명세서에서 무엇을 봐야 해요?
   တကယ်တမ်း ရတဲ့ ငွေကို သိချင်ရင် လစာပြေစာမှာ ဘာကို ကြည့်ရမလဲ။

정답　1. 계약된 임금에서 세금하고 보험료를 뺀 만큼 받기 때문이에요.　2. 실수령액이라고 해요.

## 어휘 1 ဝေါဟာရ ၁ 급여와 세금 လစာနှင့် အခွန်များ



သင့်ရဲ့ ပြေစာထဲမှာ ဘာတွေ တွေ့လဲ။ ဘာတွေကို စစ်ကြည့်ရမလဲဆိုတာ ကြည့်ကြရအောင်။

급여 명세서
လစာပြေစာ




급여 내역
လစာ အသေးစိတ်




기본급
အခြေခံလစာ




실수령액
အသားတင်လက်ခံရရှိငွေ




세금
အခွန်




식대
ထမင်းစရိတ်




총액
စုစုပေါင်း ငွေပမာဏ




공제하다
ဖြတ်တောက်သည်



상여금
အပိုဆုကြေး



퇴직금
သက်ပြည့်ဆုကြေး



국민연금
နိုင်ငံတော်ပင်စင်




연말정산
နှစ်ချုပ်စာရင်း



အပေါ်က စကားလုံးတွေကို မကြည့်ဘဲ မေးခွန်းတွေကို ဖြေကြည့်ပါ။

**1. 그림을 보고 〈보기〉처럼 대화를 완성하세요.**
ပုံကို ကြည့်ပြီး ဥပမာထဲကလို ဝါကျကို ဖြည့်စွက်ကြည့်ပါ။




가: 급여 명세서에서 뭘 확인해야 해요?
လစာ ပြေစာထဲမှာ ဘာကို စစ်ကြည့်ရမလဲ။
나: 세금이 맞는지 잘 계산해 보세요.
အခွန် မှန်သလားဆိုတာ သေချာ တွက်ကြည့်ပါ။




1)

2) 


3)

4) 


**2. 빈칸에 맞는 표현을 골라 대화를 완성하세요.**
ကွက်လပ်နဲ့ ကိုက်ညီတဲ့ စကားလုံးကို ရွေးပြီး ဝါကျကို ဖြည့်စွက်ပါ။

1)
가: 이번 달에는 월급이 조금 많은 것 같아요.
ဒီလမှာတော့ လစာက နည်းနည်း များသလိုပဲ။
나: 곧 있으면 추석이니까 ______________이 같이 나왔을 거예요.
မကြာခင် ချူဆော့(ကောက်သစ်စားပွဲ)ပွဲတော်မို့လို့ အပိုဆုကြေးပါ အတူ ထည့်ပေးလိုက်တာနေမယ်။

① 상여금　　② 퇴직금

2)
가: 주민세하고 소득세는 뭐예요? နေထိုင်မှုအခွန်နဲ့ ဝင်ငွေအခွန်က ဘာတွေလဲ။
나: 그건 월급에 대한 기본적인 ______________이에요/예요.
အဲဒါက လစာနဲ့ဆိုင်တဲ့ အခြေခံ အခွန်တွေပါ။

① 세금　　② 보험료

3)
가: 급여 명세서에서 실제로 받는 돈을 확인하려면 뭘 봐야 해요?
လစာ ပြေစာမှာ တကယ်တမ်း ရရှိမယ့်ငွေကို စစ်ချင်ရင် ဘာကို ကြည့်ရမလဲ။
나: ______________이라고 쓰여 있는 부분을 보세요.
အသားတင်လက်ခံရရှိငွေပမာဏလို့ ရေးထားတဲ့ နေရာကို ကြည့်ပါ။

① 실수령액　　② 공제 총액

4)
가: 보너스는 어떻게 계산해요? အပိုဆုကြေးကို ဘယ်လို တွက်လဲ။
나: 보통은 ______________을 기준으로 100%, 200% 이렇게 계산해요.
ပုံမှန်ကတော့ အခြေခံလစာကို စံထားပြီး ၁၀၀% ၂၀၀% အဲလို တွက်ပါတယ်။

① 수당　　② 기본급

정답
1. 1) 가: 급여 명세서에서 뭘 확인해야 해요? 나: 총액이 맞는지 잘 계산해 보세요.
2) 가: 급여 명세서에서 뭘 확인해야 해요? 나: 실수령액이 맞는지 잘 계산해 보세요.
3) 가: 급여 명세서에서 뭘 확인해야 해요? 나: 기본급이 맞는지 잘 계산해 보세요.
4) 가: 급여 명세서에서 뭘 확인해야 해요? 나: 식대가 맞는지 잘 계산해 보세요.
2. 1) ① 2) ① 3) ① 4) ②



## 대화 2 စကားပြော ၂

Track 170



အခုတလော ခန်းတစ်ယောက် အလုပ် အရမ်း များနေပါတယ်။ ဒါကြောင့်မို့ သူဟာ ညမှာ အိုဗာတိုင်တွေ လုပ်နေရပါတယ်။ စကားပြောကို နှစ်ခေါက် နားထောင်ကြည့်ပါ။ ခန်းနဲ့ အမျိုးသမီးဝန်ထမ်းတို့ ဘာပြောနေကြသလဲ။

여직원 칸 씨, 안녕하세요. 요즘 많이 바쁘지요?
ခန်း၊ မင်္ဂလာပါ။ အခုတလော အရမ်း အလုပ်များတယ်မဟုတ်လား။

칸 네, 일이 많아서 지난주에도 계속 야근을 했어요.
ဟုတ်ကဲ့၊ အလုပ် များလို့ ပြီးခဲ့တဲ့ အပတ်ကလည်း ဆက်တိုက် ညအထိ အလုပ်လုပ်ခဲ့ရတယ်။

여직원 그러게요. 곧 명절이라서 그런지 일이 몰리네요.
အင်းလေနော်။ မကြာခင် ပွဲတော်မို့လို့လားမသိဘူး အလုပ်တွေ ပြုံကျနေတယ်။

> **일이 몰리다**
> အလုပ်တွေ ပြုံကျသည်

> **-아서/어서 그런지**
> **- လို့လားမသိဘူး။**
> ကြိယာ၊ နာမဝိသေသသနှ၊ 'နာမ်+이다' စတာတွေနဲ့ တွဲဆက်ပြီး မသေချာတဲ့ အကြောင်း ပြချက်ကို ဖော်ပြတာဖြစ်ပါတယ်။
> · 오늘은 날씨가 좋아서 그런지 공원에서 산책하는 사람들이 많네요.
> ဒီနေ့ ရာသီဥတု သာယာလို့လား မသိဘူး။ ပန်းခြံထဲမှာ လမ်းလျှောက်တဲ့သူတွေ များတယ်။

칸 그래도 야근 수당도 받고 상여금도 받으니까 이번 달은 부자 되겠어요.
ဒါပေမဲ့လည်း အချိန်ပို လုပ်အားခလည်း ရ။ အပိုဆုကြေးလည်း ရတော့ ဒီလတော့ သူဌေးဖြစ်ပြီ။

여직원 하하, 휴일에는 좀 쉬세요. 돈도 좋지만 건강도 챙기셔야죠.
ဟားဟား၊ ပိတ်ရက်မှာတော့ နည်းနည်း နားပေါ့။ ငွေလည်း အရေးကြီးပေမဲ့ ကျန်းမာရေးလည်း ဂရုစိုက်ရမယ်။

칸 그럴게요. 고마워요.
ဟုတ်ကဲ့ပါ။ ကျေးဇူးတင်ပါတယ်။



ဒီတစ်ခါတော့ မိမိကိုယ်ကို ခန်းနဲ့ အမျိုးသမီးဝန်ထမ်းလို့ သဘောထားပြီး စကားပြောကို လိုက်ဆိုကြည့်ပါ။ ပြီးရင် အောက်က မေးခွန်းတွေကို ဆက်ဖြေကြည့်ပါ။

1. 칸 씨는 왜 계속 야근을 했어요?
   ခန်းက ဘာလို့ ဆက်တိုက် ညအထိ အလုပ်လုပ်ခဲ့တာလဲ။
2. 칸 씨가 여직원에게 이번 달은 부자가 되겠다고 한 이유는 뭐예요?
   ခန်းက အမျိုးသမီးဝန်ထမ်းကို ဒီလ သူဌေးဖြစ်ပြီလို့ ဘာကြောင့် ပြောတာလဲ။

정답 1. 일이 많았어요.
2. 이번 달에는 야근 수당도 받고 상여금을 받기 때문이에요.

## 어휘 2 စကားပြော ၂ 수당 လုပ်ခဝင်ငွေ



လုပ်အားခနဲ့ သက်ဆိုင်တဲ့ စကားလုံးတွေကို သင်ယူကြည့်ရအောင်။




법정 근로 시간
တရားဝင်အလုပ်ချိန်




연장 근로 시간
အချိန်ပို




야간 근로 시간
ညပိုင်း အလုပ်ချိန်




휴일 근로 시간
ပိတ်ရက်အလုပ်ချိန်




수당을 받다
လုပ်အားခ ရရှိသည်




포함되다
ပါပြီးသားဖြစ်သည်




별도로 지급하다
သီးသန့်ပေးသည်




가불하다
ကြိုပေးသည်

한 시간 : 5,210 원
두 시간 : 10,420 원
세 시간 : 15,640 원
…
…

시급
တစ်နာရီ
လုပ်အားခ

하루 : 41,680 원
이틀 : 83,360 원
…
…

일당
တစ်ရက်လုပ်အားခ

2012년 4,580원
2013년 4,860원
2014년 5,210 원
…
…

최저임금
အနိမ့်ဆုံးလုပ်အားခ



အပေါ်က စကားလုံးတွေကို မကြည့်ဘဲ မေးခွန်းတွေကို ဖြေကြည့်ရအောင်။

1. 빈칸에 맞는 표현을 골라 대화를 완성하세요.
ကွက်လပ်တွင် ကိုက်ညီသော စကားလုံးကိုရွေးပြီး စကားပြောကို ဖြည့်စွက်ပါ။

1)
가: 야간 근로 수당은 얼마예요? ညပိုင်း လုပ်အားခက ဘယ်လောက်လဲ။
나: 일한 시간만큼 줘요. 하지만 일반 근무 시간의 ____________ 보다는 높아요.
အလုပ်လုပ်ခဲ့တဲ့ အချိန်အတိုင်း ပေးပါတယ်။ ဒါပေမဲ့ ပုံမှန် အလုပ်ချိန်ရဲ့ တစ်နာရီ လုပ်အားခထက်တော့ များတယ်။

① 시급 ② 세금

2)

가: 수당은 언제 받을 수 있어요? လုပ်အားခတွေကို ဘယ်တော့ ရနိုင်သလဲ။
나: 보통은 월급에 ____________ 나오니까 월급하고 같이 지급돼요.
ပုံမှန်ကတော့ လစာနဲ့ ပေါင်းထည့်ပေးတာမို့ လစာနဲ့ အတူ ရပါတယ်။

① 가불해　　② 포함돼

3)

가: 이번 달에는 수당이 안 나온 것 같아요. ဒီလ လုပ်အားခ မဝင်လာသလိုပဲ။
나: 네, 경리과에서 문제가 있어서 이번 달만 ____________.
ဟုတ်ကဲ့၊ ငွေကိုင်ဌာနမှာ အခက်အခဲရှိလို့ ဒီလတစ်လတော့ သီးသန့် ပေးမယ်တဲ့။

① 수당을 받는대요　　② 별도로 지급한대요

4)

가: 시급은 얼마예요? တစ်နာရီလုပ်အားခက ဘယ်လောက်လဲ။
나: 보통은 ____________을 기준으로 계산하면 돼요.
ပုံမှန်ကတော့ အခြေခံလုပ်အားခကို စံအဖြစ် တွက်ရင် ရပါတယ်။

① 일당　　② 최저임금

2. 그림을 보고 알맞은 말을 연결하세요.
ပုံကို ကြည့်ပြီး သင့်တော်တဲ့ စကားလုံးနဲ့ တွဲဆက်ပါ။

①　②　③　④

㉠ 야간 근로 시간　㉡ 법정 근로 시간　㉢ 연장 근로 시간　㉣ 휴일 근로 시간

정답 1. 1) ① 2) ② 3) ② 4) ② 2. ①-㉡ ②-㉣ ③-㉠ ④-㉢

**유용한 표현** အသုံးဝင်သော အသုံးအနှုန်းများ

일손이 부족해요. လူအင်အား မလောက်ငှဘူး။

가: 요즘은 주문이 많아요. အခုတလော အော်ဒါတွေ များလိုက်တာ။
나: 네, **일손이 부족해요**. ဟုတ်ကဲ့၊ **လူအင်အား မလောက်တော့ဘူး။**



## 활동 အသုံးချသင်ခန်းစာများ

이반 씨의 급여 명세서입니다. 잘 읽고 질문에 답하세요.
အီဗန်ရဲ့ လစာ ပြေစာ ဖြစ်ပါတယ်။ သေချာ ဖတ်ပြီး မေးခွန်းတွေကို ဖြေကြည့်ပါ။

2014년 6월분 급여 명세서 ၂၀၁၄ ခုနှစ်၊ ဇွန်လအတွက် လစာ ပြေစာ

| | | | |
|---|---|---|---|
| 성명: 이반<br>အမည် - အီဗန် | 사원번호: 20130213<br>ဝန်ထမ်းကတ်အမှတ် - 20130213 | 급여산정기간: 2014년 6월 1일 ~ 6월 30일<br>လစာတွက်ချက်ကာလ - 2014.06.01~06.30 | |
| 은행 ဘဏ် | 한국은행 ကိုရီးယားဘဏ် | 계좌번호 ဘဏ်စာရင်းအမှတ် | 123-4567-898990 |

세부내역 အသေးစိတ်

| 급여 내역<br>လစာ အသေးစိတ် | | 세금 내역<br>အခွန် အသေးစိတ် | | 공제 내역<br>ဖြတ်ငွေ အသေးစိတ် | |
|---|---|---|---|---|---|
| 기본급<br>အခြေခံလစာ | 1,088,890원 | 소득세<br>ဝင်ငွေခွန် | 10,888원 | 국민연금<br>နိုင်ငံတော်ပင်စင် | 55,252원 |
| 연장 근로 수당<br>အချိန်ပိုလုပ်အားခ | 36,470원 | 주민세<br>နေထိုင်မှုအခွန် | 1,088원 | 건강 보험<br>ကျန်းမာရေးအာမခံ | 19,890원 |
| 야간 근로 수당<br>ညဆိုင်းလုပ်အားခ | 46,890원 | | | 고용보험<br>အလုပ်အာမခံ | 5,252원 |
| 휴일 근로 수당<br>ပိတ်ရက်လုပ်အားခ | 0원 | | | | |
| 식대<br>ထမင်းစရိတ် | | | | | |

| | | | | | |
|---|---|---|---|---|---|
| 급여 총액<br>လစာစုစုပေါင်း | 1,172,250(ဝမ်) | 세금 총액<br>အခွန် စုစုပေါင်း | 11,976(ဝမ်) | 공제 총액<br>စုစုပေါင်းဖြတ်ငွေ | 80,394(ဝမ်) |
| 실수령액 အသားတင်ရငွေ | | | | 1,079,880(ဝမ်) | |

1. 이반 씨가 이번 달에 실제로 받은 돈은 얼마입니까?
   အီဗန် ဒီလ အသားတင် ရငွေ ဘယ်လောက် ဖြစ်ပါသလဲ။

   ① 1,088,890원 ② 1,079,880원 ③ 1,172,250원 ④ 1,197,600원

2. 급여 명세서에 대한 설명으로 알맞은 것을 고르십시오.
   လစာ ပြေစာထဲက ရှင်းလင်းချက်တွေနဲ့ ကိုက်ညီတာကို ရွေးပါ။

   ① 이반 씨는 세금으로 10,888원을 냈습니다.

   ② 이반 씨는 고용보험에 가입하지 않았습니다.

   ③ 이반 씨는 법정 근로 시간 이외에 일을 했습니다.

   ④ 이반 씨가 2013년 6월에 일한 것에 대한 임금입니다.

정답 1. ② 2. ③

# 월급

## လစာ

### 월급을 받는 방법 လစာ လက်ခံရယူသည့် နည်းလမ်း

월급은 한 달에 한 번 일한 것에 대한 대가를 받는 것을 말합니다. 월급은 보통 한국에서 개설한 은행의 통장으로 바로 입금됩니다. 월급은 현금으로 바로 받는 것보다는 통장으로 계좌이체를 해서 받는 것이 안전합니다. 또한 월급을 받을 때는 기본급과 수당 공제 내역이 기재된 월급명세서를 함께 받아서 금액이 정확한지 확인하는 것이 좋습니다.

လစာကတော့ တစ်လကို တစ်ကြိမ် အလုပ်လုပ်ခဲ့တဲ့ အဖိုးအခကို လက်ခံခြင်း ဖြစ်ပါတယ်။ လစာကတော့ ပုံမှန်အားဖြင့် ကိုရီးယားမှာ ဖွင့်ထားတဲ့ ဘဏ်စာအုပ်ထဲကို တန်းပြီး ငွေထည့်ပေးပါတယ်။ လစာကို ငွေသားနဲ့ ကိုယ်တိုင် လက်ခံတာထက် ဘဏ်စာအုပ်ထဲကို အကောင့်ကနေ ငွေလွှဲပြီးတော့ လက်ခံတာက စိတ်ချရပါတယ်။ နောက်ပြီး လစာကို လက်ခံတဲ့အခါ အခြေခံလစာနဲ့ လုပ်ခဝင်ငွေ၊ ဖြတ်ငွေ အသေးစိတ်ကို ရေးသားထားတဲ့ လစာ ပြေစာကို အတူ လက်ခံပြီး ငွေပမာဏ တိကျမှန်ကန်သလားဆိုတာ စစ်ဆေးကြည့်တာ ကောင်းပါတယ်။

### 월급 계산하기 လစာ တွက်ချက်ခြင်း

급여는 기본급과 수당으로 구성됩니다. 기본급은 최저 임금보다 높게 책정되어야 합니다. 수당은 연장 근로 수당, 야간 근로 수당, 휴일 근로 수당이 있습니다. 각 수당들은 기준 시급의 1.5배에서 2.5배로 계산됩니다. 수당의 기준과 계산식은 대략 다음과 같습니다.

လစာကို အခြေခံလစာနဲ့ လုပ်ခဝင်ငွေဆိုပြီး ခွဲထားပါတယ်။ အခြေခံလစာကတော့ အခြေခံလုပ်ခဝင်ငွေထက် များအောင် ဖြစ်ပေးရပါတယ်။ လုပ်ခဝင်ငွေကတော့ အချိန်ပို လုပ်ခဝင်ငွေ၊ ညပိုင်း လုပ်ခဝင်ငွေ၊ ပိတ်ရက် လုပ်ခဝင်ငွေဆိုပြီး ရှိပါတယ်။ လုပ်ခဝင်ငွေ အသီးသီးကတော့ တစ်နာရီ လုပ်ခဝင်ငွေရဲ့ ၁.၅ ဆနဲ့ တွက်ရပါတယ်။ လုပ်ခဝင်ငွေရဲ့ စံနဲ့ တွက်ချက်ပုံကတော့ အကြမ်းအားဖြင့် အောက်ပါအတိုင်း ဖြစ်ပါတယ်။

| 수당<br>လုပ်ခဝင်ငွေ | 기준<br>စံသတ်မှတ်ချက် | 공제 내역<br>ပေးငွေ အသေးစိတ် |
|---|---|---|
| 연장 근로<br>အချိန်ပို လုပ်ခြင်း | 1일 8시간 초과 일할 경우<br>၁ရက် ၈နာရီထက် ကျော်လုပ်လျှင် | 기준 시급×근로 시간×1.5배<br>တစ်နာရီလုပ်ခဝင်ငွေ×အလုပ်ချိန်×1.5ဆ |
| 야간 근로<br>ညပိုင်း လုပ်ခြင်း | 밤 10시부터 새벽 6시 사이에 일할 경우<br>ည ၁၀နာရီမှ မနက်၆နာရီအတွင်း အလုပ်လုပ်လျှင် | 기준 시급×근로 시간×2배<br>တစ်နာရီလုပ်ခဝင်ငွေ×အလုပ်ချိန်×2ဆ |
| 휴일 근로<br>ပိတ်ရက် လုပ်ခြင်း | 휴일에 일할 경우<br>ပိတ်ရက်တွင် အလုပ်လုပ်လျှင် | 기준 시급×근로 시간×1.5배<br>တစ်နာရီလုပ်ခဝင်ငွေ×အလုပ်ချိန်×1.5ဆ |
| 휴일 연장<br>ပိတ်ရက် အချိန်ပို | 휴일에 8시간 이상 일할 경우<br>ပိတ်ရက်မှာ ၈နာရီထက် ပိုပြီး အလုပ်လုပ်လျှင် | 기준 시급×근로 시간×2배<br>တစ်နာရီလုပ်ခဝင်ငွေ×အလုပ်ချိန်×2ဆ |
| 휴일 야간<br>ပိတ်ရက် ညပိုင်း | 휴일밤 10시부터 새벽 6시 사이에 일할 경우<br>ပိတ်ရက်မှာ ည ၁၀နာရီမှ မနက် ၆နာရီအတွင်း အလုပ်လုပ်လျှင် | 기준 시급×근로 시간×2.5배<br>တစ်နာရီလုပ်ခဝင်ငွေ×အလုပ်ချိန်×2.5ဆ |

### 최저 임금제 အနိမ့်ဆုံး လုပ်ခဝင်ငွေ ဥပဒေ

근로자들의 생활 안전을 위해 임금의 최저 기준을 법으로 보장하는 제도입니다. 최저 임금은 매년 발표하며, 매년 그 금액이 다릅니다.

အလုပ်သမားများရဲ့ ဘဝ တည်ငြိမ်မှုအတွက် အနိမ့်ဆုံးလုပ်ခဝင်ငွေ စံကို ဥပဒေနဲ့ ထိန်းကွပ်ပေးထားတဲ့ ဥပဒေဖြစ်ပါတယ်။ အနိမ့်ဆုံး လုပ်ခဝင်ငွေကို နှစ်စဉ် ထုတ်ပြန်ကြေညာပြီး ငွေပမာဏက နှစ်တိုင်း ကွာခြားပါတယ်။

| 구분<br>ခုနှစ် | 시간급<br>တစ်နာရီ လုပ်ခဝင်ငွေ | 일급<br>(8시간 근무)<br>တစ်ရက်တာ လုပ်ခဝင်ငွေ<br>(၈နာရီစာ) | 월급 လစာ<br>주 40시간제<br>(5인 이상 사업장)<br>တစ်ပတ် နာရီ ၄၀<br>(ဝန်ထမ်း ၅ဦးနှင့်အထက် စက်ရုံ) | 월급 လစာ<br>주 44시간제<br>(4인 이하 사업장)<br>တစ်ပတ် ၄၄ နာရီ<br>(ဝန်ထမ်း ၄ဦးနှင့်အောက် စက်ရုံ) |
|---|---|---|---|---|
| 2011년 | 4,320원 | 34,560원 | 902,880원 | 976,320원 |
| 2012년 | 4,580원 | 36,640원 | 957,220원 | 1,035,080원 |
| 2013년 | 4,860원 | 38,880원 | 1,015,740원 | 1,098,360원 |
| 2014년 | 5,210원 | 41,680원 | 1,088,890원 | |







မေးခွန်း ၁ နဲ့ ၂ ကတော့ အသံဖိုင်ကို နားထောင်ပြီး သူတို့ ဘာပြောသလဲဆိုတာကို ရွေးပေးရတာပါ။
နားမထောင်ခင် စကားလုံးတွေကို အရင် ဖတ်ကြည့်ပါ။

[1~2] 다음을 듣고 무엇에 대한 대화인지 고르십시오.
အသံဖိုင်ကို နားထောင်ကြည့်ပြီး ဘာအကြောင်း ပြောနေတာလဲဆိုတာ ရွေးပါ။




1. ① 상여금　② 실수령액　③ 공제 총액　④ 세금 총액

2. ① 보험　② 기본급　③ 보너스　④ 연장 근로 수당



မေးခွန်း ၃ နဲ့ ၄ ကတော့ မေးခွန်းရဲ့ အဖြေကို ရွေးပေးရမှာ ဖြစ်ပါတယ်။ မေးခွန်းနံပါတ် ၅ ကတော့ စကားပြောကို နားထောင်ပြီး မေးခွန်းရဲ့ အဖြေကို ရွေးရမှာပါ။ စကားပြောကို နားမထောင်ခင် မေးခွန်းတွေကို ဖတ်ကြည့်ပါ။

[3~4] 질문을 듣고 알맞은 대답을 고르십시오.
မေးခွန်းကို နားထောင်ပြီး မှန်ကန်တဲ့ အဖြေကို ရွေးပါ။

3. ① 네, 별도로 지급한대요.　② 네, 세금이 공제된 금액이에요.
③ 네, 가불을 신청해 보세요.　④ 네, 월급하고 같이 받으면 돼요.

4. ① 네, 급여 명세서를 보세요.　② 네, 보험료를 다 더해 보세요.
③ 네, 최저 임금을 확인해 보세요.　④ 네, 기본급하고 수당을 더해 보세요.

5. 이야기를 듣고 질문에 알맞은 대답을 고르십시오.
အကြောင်းအရာကို နားထောင်ပြီး မေးခွန်းနဲ့ ကိုက်ညီတဲ့ အဖြေကို ရွေးပါ။

여자는 왜 월급을 많이 받았습니까? မိန်းကလေးက ဘာကြောင့် လစာ အများကြီး ရတာလဲ။

① 세금이 많아져서　② 수당이 포함돼서
③ 기본급이 올라서　④ 상여금을 받아서

### 듣기 대본 စာသား

1. 남: 이 금액을 제가 받는 월급이지요? ဒီ ငွေပမာဏက ကျွန်တော် ရမယ့် လစာလား။

   여: 네, 총액에서 세금을 뺀 금액을 실제로 받게 돼요.
   ဟုတ်ကဲ့၊ စုစုပေါင်း ငွေပမာဏထဲက အခွန်ကို နှုတ်ထားတဲ့ ငွေပမာဏကို တကယ်တမ်း လက်ခံရတာပါ။

2. 여: 이번 달에는 월급이 많네요. ဒီလ လခက များသားပဲ။

   남: 네, 연장 근무랑 야간 근무가 많았거든요. ဟုတ်ကဲ့၊ အချိန်ပိုနဲ့ ညပိုင်း အလုပ်တွေ များခဲ့လို့ပါ။

3. 남: 월급을 미리 받을 수 있어요? လစာကို ကြိုထုတ်ယူလို့ရလား။

4. 여: 세금이 얼마인지 알아요? အခွန် ဘယ်လောက်လဲဆိုတာ သိလား။

5. 남: 이번 달에 월급 나왔어요? ဒီလ လစာ ထွက်ပြီလား။

   여: 네, 그런데 생각보다 조금 많네요. ဟုတ်ကဲ့၊ ဒါပေမဲ့ ထင်ထားတာထက် နည်းနည်း များတယ်။

   남: 휴일 근로 수당이 같이 들어왔을 거예요. 한번 확인해 보세요.
   ပိတ်ရက် လုပ်ခငွေပါ အတူ ဝင်လာတာ နေလိမ့်မယ်။ တစ်ခေါက် စစ်ကြည့်လိုက်ပါ။

정답 1. ② 2. ④ 3. ③ 4. ① 5. ②



### 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်




1. 질문을 듣고 알맞은 대답을 고르십시오.
   သေချာ နားထောင်ပြီး ဆက်ပြောရမယ့် စကားကို ရွေးပါ။

   ① 야간 근무를 많이 했거든요.
   ② 세금과 보험료를 많이 냈어요.
   ③ 최저 임금이 오르면 좋겠어요.
   ④ 월급이 얼마인지 모르겠는데요.

### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

남: 수피카 씨, 이번 달은 월급이 많은 편이네요. ဆူဖီခါ၊ ဒီလ လစာ များသားပဲနော်။

정답 ①



## EPS-TOPIK 읽기 EPS-TOPIK အဖတ် စာမေးပွဲ



မေးခွန်း ၁ နဲ့ ၂ ကတော့ သင့်တော်တဲ့ စကားလုံးကို ရွေးပေးရတာဖြစ်ပါတယ်။ သင်ပြီးသား စကားလုံးတွေကို ပြန်စဉ်းစားပြီး မေးခွန်းတွေကို ဖြေပါ။

**[1~2] 빈칸에 들어갈 가장 알맞은 것을 고르십시오.** ကွက်လပ်ထဲ ဖြည့်ရမယ့် အမှန်ဆုံး အဖြေကို ရွေးပါ။

1. 1년 이상 근무한 근로자가 회사를 그만둘 때는 ＿＿＿＿＿ 을/를 지급해야 합니다.
ခုနှစ်နှင့်အထက် အလုပ်လုပ်ခဲ့တဲ့ အလုပ်သမားက ကုမ္ပဏီကနေ ထွက်တဲ့အခါ လုပ်သက်ဆုကြေးကို ပေးရပါတယ်။

① 상여금　② 기본급　③ 보너스　④ 퇴직금

2. 실수령액은 월급의 총액에서 세금을 ＿＿＿＿＿ 금액입니다.
အသားတင်ရရှိငွေဆိုတာ လစာစုစုပေါင်းကနေ အခွန်ကို ဖြတ်ထားတဲ့ ငွေပမာဏဖြစ်ပါတယ်။

① 포함한　② 가불한　③ 공제한　④ 지불한

မေးခွန်း ၃ နဲ့ ၄ ကတော့ အကြောင်းအရာရဲ့ ခေါင်းစဉ်ကို ရွေးပေးရတာဖြစ်ပါတယ်။ မေးခွန်းနံပါတ် ၅ ကတော့ အခွန်ငွေပြန်အမ်းခြင်းအကြောင်းကို ဖတ်ပြီး အဖြေမှန်ကို ရွေးပေးရမှာပါ။

**[3~5] 다음 질문에 답하십시오.** အောက်ပါ မေးခွန်းများကို ဖြေပါ။

3.
가: 어젯밤 몇 시까지 일을 했어요? မနေ့ညက ဘယ်နနာရီအထိ အလုပ်လုပ်ခဲ့လဲ။
나: 조금 늦게까지 일을 했지만 10시 전에 퇴근했어요.
နည်းနည်း နောက်ကျတဲ့အထိ လုပ်ခဲ့ပေမဲ့ ၁၀ နာရီ မတိုင်ခင်မှာ အလုပ်သိမ်းခဲ့ပါတယ်။

두 사람은 무엇에 대해 이야기하고 있습니까? သူတို့က ဘာအကြောင်း ပြောနေကြတာလဲ။

① 법적 근로 시간　② 야간 근로 시간　③ 연장 근로 시간　④ 휴일 근로 시간

4.
가: 수당을 계산할 때 왜 6,030원으로 해요? လုပ်ခဝင်ငွေကို တွက်ချက်တဲ့အခါ ဘာကြောင့် ၆၀၃၀(ဝမ်)နဲ့ တွက်တာလဲ။
나: 그 금액이 법으로 정한 임금의 최소 기준이거든요.
အဲဒီ ငွေပမာဏက ဥပဒေနဲ့ သတ်မှတ်ထားတဲ့ လုပ်ခဝင်ငွေရဲ့ အနိမ့်ဆုံး စံမို့လို့ပါ။

두 사람은 무엇에 대해 이야기하고 있습니까? သူတို့က ဘာအကြောင်း ပြောနေကြတာလဲ။

① 국민연금　② 고용 보험　③ 최저 임금　④ 급여 내역

5.
근로자들은 기본급 이외에 상여금과 수당 등 매월 다른 금액의 급여를 받게 됩니다. 그렇지만 매월 발생하는 근로 소득에 대한 세금을 정확하게 계산하는 것은 굉장히 복잡합니다. 따라서 급여를 지급할 때 간단한 세금 계산표로 세금을 공제하고, 다음해 2월에 실제 부담해야 할 세금을 정확하게 계산합니다. 이것을 ㉠＿＿＿＿＿(이)라고 합니다.
အလုပ်သမားများဟာ အခြေခံလစာအပြင် ဆုကြေးနဲ့ လုပ်ခဝင်ငွေ စသည်ဖြင့် လစဉ် မတူညီတဲ့ လစာငွေပမာဏကို လက်ခံရရှိပါတယ်။ ဒါပေမဲ့ လစဉ် ရရှိတဲ့ ဝင်ငွေအပေါ် အခွန်ကို အတိအကျ တွက်ချက်ရတာဟာ အလွန် ရှုပ်ထွေးလှပါတယ်။ ဒါကြောင့်မို့ လစာကို ပေးသွင်းတဲ့အခါ ရိုးရှင်းတဲ့ စာရင်းဇယားနဲ့ အခွန်ကို ဖြတ်တောက်ပြီး နောက်နှစ် ၂လပိုင်းမှာ တကယ်တမ်း ပေးဆောင်ရမယ့် အခွန်ကို အတိအကျ တွက်ချက်ပါတယ်။ ဒါကို နှစ်ချုပ်ရှင်းတမ်းလို့ ခေါ်ပါတယ်။

㉠에 들어갈 알맞은 말을 고르십시오. ကွက်လပ်အတွက် အဖြေမှန်ကို ရွေးပါ။

① 연말 정산　② 세금 공제　③ 보험료 납부　④ 급여 명세서

정답 1. ④ 2. ③ 3. ② 4. ③ 5. ①



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~3] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်မှာ ဖြည့်ရမယ့် အသင့်တော်ဆုံး စကားကို ရွေးပါ။

1. 쓰레기를 버릴 때에는 정해진 봉투에 쓰레기를 __________ 버려야 합니다. 다른 봉투에 넣으면 안 됩니다.
အမှိုက်ပစ်တဲ့အခါ သတ်မှတ်ထားတဲ့ အိတ်မှာ အမှိုက်ကို ထည့်ပြီး ပစ်ရပါမယ်။ တခြား အိတ်ထဲ ထည့်လို့ မရပါဘူး။

① 달아도 ② 담아도 ③ 달아서 ④ 담아서

2. 공구는 사용 전후에 항상 점검을 해야 합니다. 고장이 난 것은 반드시 __________ 사용하도록 하십시오.
ပစ္စည်းတွေကို မသုံးခင်နဲ့ သုံးပြီးတဲ့အခါ အမြဲ စစ်ဆေးရပါမယ်။ ပျက်နေတဲ့ဟာကိုတော့ မဖြစ်မနေ ပြင်ပြီး သုံးပါ။

① 씻어서 ② 고쳐서 ③ 닦아서 ④ 치워서

3. 직장에서 일할 때에는 동료들끼리 사이좋게 지내야 합니다. 그렇지 않으면 일이 즐겁지 않고 __________.
အလုပ်ခွင်မှာ အလုပ်လုပ်တဲ့အခါ လုပ်ဖော်ကိုင်ဖက်အချင်းချင်း သင့်မြတ်အောင် နေရပါမယ်။ အဲလိုမှမဟုတ်ရင် အလုပ်က ပျော်စရာမကောင်းဘဲ စိတ်ပင်ပန်းနိုင်ပါတယ်။

① 편해져야 합니다 ② 힘들어져야 합니다
③ 편해질 수 있습니다 ④ 힘들어질 수 있습니다

정답 1. ④ 2. ② 3. ④



## 발음 အသံထွက်




### သေချာ နားထောင်ပြီး လိုက်ဆိုပါ။

**တရုတ်စာလုံးရဲ့ အသံထွက်က 'ㄹ' အသတ်နဲ့ ဆုံးပြီး သူ့အနောက်မှာ 'ㄷ, ㅅ, ㅈ' ရှိမယ်ဆိုရင် ㄸ[t'], ㅆ[s'], ㅉ[ʧ'] အသံကို ပြောင်းပါတယ်။**

(1) 발달, 열심, 말살
(2) 열정, 발전, 실전
(2) 컴퓨터가 발달했어요. / 저는 한국어를 열심히 공부해요.



# 이번 여름 휴가 계획은 세웠어?

ဒီတစ်ခေါက် နွေရာသီ ပိတ်ရက်ရှည် အစီအစဉ် ဆွဲပြီးပြီလား။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** နားရက်အကြောင်း မေးမြန်းခြင်း၊ ကျန်းမာရေးခွင့် လျှောက်ထားခြင်း
- □ **အသုံးချသင်ခန်းစာ** ခွင့်လျှောက်လွှာ ရေးသားခြင်း
- □ **ဝေါဟာရ** နားရက်ယူခြင်း၊ ကျန်းမာရေးခွင့်ယူခြင်း
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** အလုပ်သမားဥပဒေမှ နားရက်အကြောင်း



## 대화 1 စကားပြော ၁






သူတို့နှစ်ယောက် နွေရာသီ နားရက်နဲ့ ပတ်သက်ပြီး ပြောနေကြပါတယ်။ အီဗန်က ဘယ်တော့ နားရက် လျှောက်လို့ရမလဲ။ အရင်ဆုံး စကားပြောကို နှစ်ကြိမ် နားထောင်ပြီး လိုက်ပြောကြည့်ပါ။

지훈 이반, 이번 여름 휴가 계획은 세웠어?
အီဗန်၊ ဒီတစ်ခေါက် နွေရာသီ ပိတ်ရက်ရှည် အစီအစဉ် ဆွဲပြီးပြီလား။

이반 아직 아무도 휴가 얘기를 안 해서 휴가를 써도 될지 눈치를 보는 중이야.
အခုထိ ဘယ်သူမှ ပိတ်ရက်ရှည် အကြောင်း မပြောကြလို့ ခွင့်ယူလို့ရပဲ့မလားဆိုတာ အရိပ်အခြေ ကြည့်နေတုန်းပဲ။

> **눈치를 보다**
> မျက်နှာအရိပ်အခြေ ကြည့်သည်

지훈 7월 말에는 쉬는 공장이 많으니까 일이 그렇게 많지 않을 거야. 그때쯤 휴가를 신청해 봐.
၇ လပိုင်းအကုန်မှာ နားတဲ့ စက်ရုံတွေ များတော့ အလုပ်က အဲလောက် မများလောက်ပါဘူး။ အဲဒီအချိန်လောက် ခွင့်လျှောက်ကြည့်လေ။

이반 그래야겠다. 근데 보통 휴가는 얼마나 쓸 수 있어?
အဲလိုပဲလုပ်ရမှာပဲ။ ဒါနဲ့ များသောအားဖြင့် ခွင့်ကို ဘယ်လောက်လောက် ယူလို့ရလဲ။

지훈 1년에 연차 15일까지 쓸 수 있는데, 여름 휴가로는 일반적으로 3~4일 정도 쓰는 편이야.
တစ်နှစ်မှာ နှစ်ပြည့်နားရက် ၁၅ ရက်အထိ ယူလို့ရပြီး နွေရာသီ ပိတ်ရက်ရှည်အနေနဲ့ကတော့ သာမန်အားဖြင့် ၃-၄ရက်လောက် ယူကြပါတယ်။

> **일반적으로**
> သာမန်အားဖြင့်



သချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေကို ဖြေကြည့်ပါဦး။

1. 이반 씨는 여름 휴가 계획을 세웠어요? ? အီဗန်က နွေရာသီပိတ်ရက်ရှည် အစီအစဉ် ဆွဲပြီးပြီလား။
2. 보통 휴가는 일 년에 얼마나 쓸 수 있어요?
   များသောအားဖြင့် ပိတ်ရက်ရှည်ကို တစ်နှစ်မှာ ဘယ်လောက်လောက် ယူလို့ရလဲ။

정답 1. 아니요, 아직 세우지 못했어요. 2. 일 년에 연차 15일까지 쓸 수 있어요.



## 어휘 1 ဝေါဟာရ ၁ 휴가 ခွင့်ရက်



ပိတ်ရက်နဲ့ ပိတ်ရက်ရှည်က ဘယ်လို ကွာသလဲဆိုတာ ပိတ်ရက်ရှည်နဲ့ ဆိုင်တဲ့ စကားလုံးတွေကို လေ့လာကြည့်ရအောင်။



휴가를 신청하다
ခွင့်လျှောက်ထားသည်



휴가를 내다
ခွင့်တင်သည်



휴가를 받다
ခွင့်ရသည်



휴가를 쓰다
ခွင့်ယူသည်



유급 휴일
လစာခွင့်



무급 휴일
လစာမဲ့ခွင့်



법정 휴일
တရားဝင်နားရက်



약정 휴일
ညှိနှိုင်း နားရက်



연차 휴가
နှစ်ပြည့် အနားယူခွင့်



출산 휴가
မီးဖွားခွင့်



**Tip 휴가와 휴일** ခွင့်ရက်နှင့် ပိတ်ရက်

휴가와 휴일은 근로자가 쉬는 날이라는 점에서 공통점을 갖습니다. 그러나 휴일이 처음부터 근로 의무가 없는 날인 반면, 휴가는 근로 의무가 있는 날이지만 근로자의 청구나 특별한 사유의 충족으로 인해 이를 면제 받은 날이라는 점에서 차이가 있습니다.

ခွင့်ရက်နဲ့ ပိတ်ရက်ဆိုတာကတော့ အလုပ်သမား နားတဲ့ရက်ဆိုတဲ့ အချက်ကတော့ တူပါတယ်။ ဒါပေမဲ့ ပိတ်ရက်ဆိုတာက အစကတည်းက အလုပ်လုပ်စရာ မလိုတဲ့ ရက်ဖြစ်ပြီး ခွင့်ရက်ကတော့ အလုပ်လုပ်ရမယ့် ရက်ဖြစ်ပေမဲ့ အလုပ်သမားရဲ့ တောင်းဆိုမှု သို့မဟုတ် အကြောင်းကိစ္စ တစ်ခုခုကြောင့် ဒါကို ဖြည့်ဆည်းပေးတဲ့အနေနဲ့ ခွင့်ပြုပေးတဲ့နေ့ဆိုတဲ့ အချက်မှာ ကွာခြားပါတယ်။



အပေါ်က စကားလုံးတွေကို မကြည့်ဘဲ အောက်က မေးခွန်းတွေကို ဖြေကြည့်ပါ။

**1. 그림을 보고 알맞은 말을 연결하세요.** ပုံကို ကြည့်ပြီး သင့်တော်တဲ့ စကားလုံးနဲ့ ချိတ်ဆက်ပါ။

①　　　　　　　　　　㉠ 무급 휴가

②　　　　　　　　　　㉡ 유급 휴가

③　　　　　　　　　　㉢ 연차 휴가

④　　　　　　　　　　㉣ 출산 휴가

**2. 빈칸에 맞는 표현을 골라 대화를 완성하세요.**
ကွက်လပ်နဲ့ ကိုက်ညီတဲ့ စကားလုံးကို ရွေးပြီး ဝါကျကို ဖြည့်စွက်ပါ။

1)
가: 내일은 달력에 빨간 날도 아닌데 쉬네요.
မနက်ဖြန် ပြက္ခဒိန်မှာ အနီရက်လည်း မဟုတ်ဘဲ နားတယ်နော်။
나: 네, __________ 휴일이라서 우리 회사는 쉬어요.
ဟုတ်တယ်၊ ညှိနှိုင်းရုံးပိတ်ရက်မို့ ကျွန်တော်တို့ ကုမ္ပဏီကတော့ နားပါတယ်။

① 법정　　　② 약정

2)
가: 연차를 사용하는 기간 동안은 임금이 나오지 않는 거예요?
နှစ်ပြည့် နားရက် ယူတဲ့ ကာလအတွင်း လစာ မရဘူးလား။
나: 아니요, __________ 휴일이니까 임금이 지불돼요.
မဟုတ်ပါဘူး။ လစာခွင့် ဖြစ်တဲ့အတွက်ကြောင့် လစာ ပေးပါတယ်။

① 무급　　　② 유급

3)
가: 우리 회사는 __________ 휴가를 얼마나 줘요? တို့ ကုမ္ပဏီက မီးဖွားခွင့်ကို ဘယ်လောက် ပေးလဲ။
나: 아기를 낳기 전후로 3개월 준대요. ကလေး မမွေးခင်ကနေ မွေးပြီးအတွင်း ၃ လ ပေးပါတယ်။

① 연차　　　② 출산

4)
가: 이번에 휴가를 __________ 어디에 가고 싶어요?
ဒီတစ်ခေါက် ခွင့်တင်ရင် ဘယ်ကို သွားချင်လဲ။
나: 친구들하고 부산에 가 보려고요. သူငယ်ချင်းတွေနဲ့ ဘူဆန် သွားမလို့။

① 받으면　　　② 신청하면

정답 1. ①-㉡ ②-㉠ ③-㉣ ④-㉢ 2. 1) ② 2) ② 3) ② 4) ①

## 대화 2 စကားပြော ၂






အီဗန်က ကျန်းမာရေးခွင့်အတွက် ဝန်ထမ်းကို အကူအညီတောင်းနေပါတယ်။ စကားပြောကို နှစ်ခေါက် နားထောင်ကြည့်ပါ။

이반 병가를 신청하고 싶은데요.
ဆေးခွင့် လျှောက်ချင်လို့ပါ။

직원 네, 병가라면 어디 아프신 거예요?
ဟုတ်ကဲ့၊ ဆေးခွင့်ဆိုတော့ ဘာဖြစ်လို့လဲ။

이반 네, 허리가 좀 아파서 병원에 갔는데 수술을 받는 게 좋겠다고 하네요.
ဟုတ်ကဲ့၊ ခါး နည်းနည်း နာလို့ ဆေးရုံသွားတော့ ခွဲစိတ်မှု ခံတာ ကောင်းမယ်တဲ့။

심하다 ပြင်းထန်သည်

직원 수술이요? 그럼 심한 거 아니에요?
ခွဲစိတ်မှု ဟုတ်လား၊ ဒါဆိုရင် စိုးရိမ်ရတာပေါ့။

이반 간단한 수술이라고 하셨어요. 한 일주일 정도 병가를 쓰면 될 것 같아요.
ပေါ့ပေါ့ပါးပါး ခွဲစိတ်မှုလို့ ပြောပါတယ်။ ခန့်မှန်းခြေ တစ်ပတ်လောက် ဆေးခွင့်တင်ရင် ရမယ်ထင်တယ်။

간단하다 အသေးအဖွဲ/ရိုးရိုးရှင်းရှင်း/ပေါ့ပေါ့ပါးပါး

가급적 빨리 အတတ်နိုင်ဆုံးမြန်မြန်

직원 네, 알겠습니다. 여기 병가 신청서와 필요한 서류들이에요. 잘 읽어 보시고 가급적 빨리 제출해 주세요.
ဟုတ်ကဲ့၊ သဘောပေါက်ပါပြီ။ ဒီမှာ ဆေးခွင့် လျှောက်လွှာနဲ့ လိုအပ်တဲ့ စာရွက်စာတမ်းတွေပါ။ သေချာ ဖတ်ကြည့်ပြီး အတတ်နိုင်ဆုံး မြန်မြန် တင်ပေးပါ။

မိမိကိုယ်ကို အီဗန်နဲ့ ဝန်ထမ်းအဖြစ် သဘောထားပြီး စကားပြောကို လိုက်ပြောကြည့်ပါ။ သေချာ နားထောင်ပြီး လိုက်ဆိုပြီးပြီဆိုရင် မေးခွန်းတွေကို ဖြေပါ။

1. 이반 씨는 왜 병가를 신청하러 왔어요? အီဗန်က ဘာကြောင့် ဆေးခွင့် တင်ဖို့ လာခဲ့တာလဲ။
2. 이반 씨는 얼마 동안 병가를 쓰려고 해요? အီဗန်က ဘယ်လောက်ကြာကြာ ဆေးခွင့်ယူဖို့ ရည်ရွယ်ထားပါသလဲ။

정답 1. 허리가 좀 아파서 수술을 받아야 해요.
2. 한 일주일 정도 병가를 쓰려고 해요.



## 어휘 2 စကားပြော ၂ 병가 ဆေးခွင့်

ဆေးခွင့်ကို ဘယ်လို တင်လို့ရနိုင်သလဲ။ ဆေးခွင့်နဲ့ သက်ဆိုင်တဲ့ စကားလုံးတွေကို ကြည့်ကြရအောင်။



병가
ဆေးခွင့်



병가 사유
ဆေးခွင့်တင်ရသည့် အကြောင်းရင်း



병가 기간
ဆေးခွင့်ကာလ




소속
ဌာန



직위
ရာထူး




비상 연락처
အရေးပေါ်ဆက်သွယ်ရန်



통원 치료를 하다
ပြင်ပလူနာအဖြစ်ကုသည်



입원을 하다
ဆေးရုံတက်သည်




조퇴하다
အလုပ်စောဆင်းသည်



결근하다
အလုပ်ပျက်ကွက်သည်



무단결근하다
ခွင့်မဲ့ပျက်ကွက်သည်



အပေါ်က စကားလုံးတွေကို မကြည့်ဘဲ မေးခွန်းတွေကို ဖြေကြည့်ပါ။



1. 그림을 보고 알맞은 말을 연결하세요.
ပုံကို ကြည့်ပြီး သင့်တော်တဲ့ စကားလုံးနဲ့ ချိတ်ဆက်ပါ။

① 2:00 PM ② ③ ④

㉠ 무단결근하다 ㉡ 조퇴하다 ㉢ 입원하다 ㉣ 통원 치료를 하다

정답 1. ①-㉡ ②-㉠ ③-㉣ ④-㉢

2. 빈칸에 맞는 표현을 〈보기〉에서 골라 넣으세요.
ကွက်လပ်နဲ့ ကိုက်ညီတဲ့ စကားလုံးကို ဥပမာမှာ ရွေးထည့်ပါ။

| | |
|---|---|
| 소속<br>ဌာန | 전기과 လျှပ်စစ်ဌာန |
| 성명<br>အမည် | 이반 အီဗန် |
| 1) | 사원 ကုမ္ပဏီဝန်ထမ်း |
| 2) | 허리통증으로 인한 수술 ခါးနာခြင်းကို အကြောင်းပြု၍ ခွဲစိတ်ရန် |
| 3) | 2015년 4월 6일 ~ 2015년 4월 12일 ( 7 )일간<br>2015 ခုနှစ် 4 လ 6 ရက်မှ 2015 ခုနှစ် 4 လ 12 ရက်အထိ (7)ရက်တာ |
| 1) | 031-777-5678 |

위와 같이 병가를 신청하오니 허락하여 주시기 바랍니다.
အထက်ပါအတိုင်း ဆေးခွင့်ကို လျှောက်ထားအပ်ပါသဖြင့် ခွင့်ပြုပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

2015년 4월 1일
2015 ခုနှစ် 4 လ 1 ရက်

소속: 전기과 ဌာန - လျှပ်စစ်ဌာန
성명: 이반 အမည် - အီဗန်

*신청기간이 1주일 이상일 경우 진단서 첨부
လျှောက်ထားကာလ (၁)ပတ်နှင့်အထက် ဖြစ်ပါက ဆေးစာ ပူးတွဲတင်ပြရန်

보기: 기간 비상 연락처 직위 사유

정답 2. 1) 직위 2) 사유 3) 기간 4) 비상 연락처



## 활동 အသုံးချသင်ခန်းစာများ

다음을 읽고 질문에 답하세요.
အောက်ပါတို့ကို ဖတ်ပြီး မေးခွန်းများကို ဖြေပါ။

**휴가 신청서** ခွင့်ရက် လျှောက်လွှာ

| 결재<br>ခွင့်ပြုချက် | |
|---|---|

아래와 같이 허가 신청서를 제출하오니 허락해 주시길 바랍니다
အောက်ပါအတိုင်း ခွင့်ပြုချက် လျှောက်ထားလွှာကို တင်ပြအပ်ပါသဖြင့် ခွင့်ပြုပေးပါရန်ဖြစ်ပါသည်။

2015년 7월 24일

| 휴가 신청자<br>ခွင့်လျှောက်ထားသူ | 성명<br>အမည် | 박지훈 (확인) | 소속 및 직위<br>ဌာနနှင့် ရာထူး | 기계과 대리<br>စက်ယန္တရားဌာန အငယ်တန်းမန်နေဂျာ |
|---|---|---|---|---|
| 휴가 내용<br>ခွင့်အကြောင်းအရာ | 구분<br>ခွင့်အမျိုးအစား | 생리 휴가 ( ) ဓမ္မတာကာလခွင့် 출산 휴가 ( ) မီးဖွားခွင့်<br>병가 ( ) ဆေးခွင့် 연월차휴가 ( ✓ ) နှစ်ပြည့်/လပြည့်ခွင့် 기타 ( ) အခြား | | |
| | 사유 အကြောင်းရင်း | 여름 휴가 နွေရာသီ ခွင့်ရက်ရှည် | | |
| | 기간(시간)<br>ကာလ(အချိန်) | 2015년 7월 25일 ~ 2015년 7월 28일<br>2015 ခုနှစ် 7 လ 25 ရက်မှ 2015 ခုနှစ် 7 လ 28 ရက် | | |
| 행선지<br>သွားရောက်မည့်ဒေသ | 전라남도 순천<br>ဂျော်လာနမ်ဒို၊ ဆွန်းချောင်း | | | |
| 긴급 연락처<br>အရေးပေါ်ဖုန်း | 010-234-5678 | | | |

1. 위의 휴가 신청서의 내용과 다른 것을 고르세요.
အပေါ်က ခွင့်လျှောက်လွှာထဲက အကြောင်းအရာနဲ့ မတူတာကို ရွေးပါ။

① 연차 휴가를 신청하려고 합니다.

② 여름휴가로 전라남도 순천에 갈 예정입니다.

③ 휴가 기간 3일 전에 휴가 신청서를 제출했습니다.

④ 박지훈 씨는 현재 기계과 대리로 일하고 있습니다.

정답 1. ③

# 휴가에 대한 근로 기준법의 이해
## ခွင့်ရက်နှင့် ပတ်သက်သော အလုပ်သမား ဥပဒေအကြောင်း

### 법정 휴일(휴가) တရားဝင်နားရက်(ခွင့်ရက်)

「근로 기준법」에 의해 규정된 휴가 또는 휴일을 말합니다. 근로 기준법상 휴일은 제 55조에 의한 '유급 주휴일'(사용자는 근로자에게 1주일 평균 1회 이상의 유급 휴일을 주어야 한다.)과 「근로자의 날 제정에 관한 법률」에 의한 '근로자의 날(매년 5월 1일)'입니다.

အလုပ်သမားဥပဒေအရ သတ်မှတ်ထားသော ခွင့်ရက်နှင့် ပိတ်ရက်များကို ဆိုလိုသည်။ အလုပ်သမားဥပဒေ အပိုဒ် ၅၅ အရ ပိတ်ရက်များတွင် လစာဖြင့် တစ်ပတ်အတွင်းပိတ်ရက်(အလုပ်ရှင်သည် အလုပ်သမားအား ၁ပတ်လျှင် ၁ကြိမ်နှင့်အထက် လစာဖြင့် ပိတ်ရက် ထားရှိပေးရမည်။)နှင့် အလုပ်သမားနေ့ သတ်မှတ်ခြင်းဆိုင်ရာဥပဒေအရ အလုပ်သမားနေ့ပိတ်ရက်(နှစ်စဉ် မေလ ၁ ရက်နေ့)ဟူ၍ ရှိပါသည်။

### 약정 휴일(휴가) ညှိနှိုင်း ပိတ်ရက်(ခွင့်ရက်)

회사의 단체 협약 등에서 정하여 시행하는 휴가 또는 휴일을 말합니다. 약정 휴일에 관해서는 근로 기준법에서 규정하고 있지 않습니다. 약정 휴일에 관하여는 회사의 단체협약 등에서 정하여 시행하고 있으며 단체 협약에서 정해진 사항에 대해서는 노사 당사자가 준수해야 합니다.

ကုမ္ပဏီ အဖွဲ့အစည်းများမှ ညှိနှိုင်း သတ်မှတ် ကျင့်သုံးသော ခွင့်ရက်နှင့် ပိတ်ရက်များကို ဆိုလိုသည်။ ညှိနှိုင်းပိတ်ရက်နှင့် ပတ်သက်၍ အလုပ်သမားဥပဒေတွင် ပြဌာန်းထားခြင်း မရှိပါ။ ညှိနှိုင်းပိတ်ရက်နှင့် ပတ်သက်၍ ကုမ္ပဏီ အဖွဲ့အစည်းများမှ ညှိနှိုင်းသတ်မှတ်ကြပြီး လိုက်နာကျင့်သုံးလျက် ရှိပါသည်။ အဖွဲ့အစည်းမှ ညှိနှိုင်းသတ်မှတ်ထားသော အချက်အလက်များနှင့် ပတ်သက်၍ အလုပ်ရှင်နှင့် အလုပ်သမား ကာယကံရှင်များမှ လိုက်နာရမည်ဖြစ်သည်။

| 구분<br>အမျိုးအစား | 법정<br>ဥပဒေအရ ရုံးပိတ်ရက် | 약정<br>ညှိနှိုင်း ခွင့်ရက် |
|---|---|---|
| 휴일<br>ပိတ်ရက် | - 주휴일 တစ်ပတ်အတွင်း ပိတ်ရက်<br>- 근로자의 날 အလုပ်သမားနေ့ | - 공휴일 အစိုးရ ရုံးပိတ်ရက်<br>- 회사 창립일 ကုမ္ပဏီနှစ်ပတ်လည်နေ့<br>- 기타 휴무일 အခြား ပိတ်ရက်များ |
| 휴가<br>ခွင့်ရက် | - 연차 휴가 နှစ်ပြည့် ခွင့်<br>- 생리 휴가 ဓမ္မတာ ခွင့်<br>- 산전·후 휴가 မီးဖွားခွင့် | - 하계휴가 နွေရာသီ ခွင့်ရက်ရှည်<br>- 경조 휴가 သာရေးနာရေး ခွင့်ရက် |

### 유급 휴일 လစာရ ပိတ်ရက်

근로의 의무는 있으나 근로 기준법 등에 의거 근로가 면제되는 날로 유급으로 하고 쉬는 휴일입니다. 1주일에 평균 1회 이상 주어야 하는 임금이 지불되는 휴일을 말합니다(근로 기준법 제 55조). 이와 달리 근로의 의무가 있으나 취업 규칙, 단체 협약 등을 통하여 무급으로 하고 쉬는 휴일을 무급 휴일이라고 합니다.

အလုပ်လုပ်ရန် တာဝန်ရှိသော်လည်း အလုပ်သမားဥပဒေအရ အလုပ်သမားမှ ခံစားခွင့် ရှိသောရက်အဖြစ် လစာယူ၍ အနားယူနိုင်သည့် ပိတ်ရက်ဖြစ်သည်။ တစ်ပတ်လျှင် ပျမ်းမျှ တစ်ကြိမ်နှင့်အထက် ပေးရသော လစာရသည့် ပိတ်ရက်ကို ဆိုလိုပါသည်(အလုပ်သမားဥပဒေ အပိုဒ် ၅၅)။ ဆန့်ကျင်ဘက်သဘောအားဖြင့် အလုပ်လုပ်ရန် တာဝန်ရှိသော်လည်း အလုပ်စည်းမျဉ်းနှင့် အဖွဲ့အစည်းမှ ညှိနှိုင်း၍ လစာမရရှိဘဲ နားသည့် ပိတ်ရက်ကို လစာမဲ့ပိတ်ရက်ဟု ခေါ်သည်။



မေးခွန်း ၁ နဲ့ ၂ ကတော့ သူတို့ ဘာတွေ ပြောနေကြသလဲဆိုတာကို ရွေးပေးရတာဖြစ်ပါတယ်။
အသံဖိုင်ကို နားမထောင်ခင် စကားလုံးတွေကို ဖတ်ကြည့်ပါ။

[1~2] 다음을 듣고 무엇에 대한 대화인지 고르십시오.
အောက်ပါတို့ကို နားထောင်ပြီး ဘာအကြောင်း ပြောနေကြတယ်ဆိုတာ ရွေးပါ။




1. ① 병가 신청 ② 병가 휴직 ③ 병가 사유 ④ 병가 기간

2. ① 무급 휴일 ② 법정 휴일 ③ 약정 휴일 ④ 유급 휴일



မေးခွန်း ၃ နဲ့ ၄ ကတော့ အဖြေမှန်ကို ရွေးပေးရတာပါ။ မေးခွန်း ၅ ကတော့ စကားပြောကို နားထောင်ပြီး မေးခွန်းအတွက် သင့်တော်တဲ့ အဖြေကို ရွေးပေးရတာဖြစ်ပါတယ်။ စကားပြောကို နားမထောင်ခင် မေးခွန်းတွေကို ဖတ်ကြည့်ပါ။

[3~4] 질문을 듣고 알맞은 대답을 고르십시오.
မေးခွန်းကို နားထောင်ပြီး အဖြေမှန်ကို ရွေးပါ။

3. ① 네, 휴직을 신청하세요. ② 네, 진단서를 제출하세요.
③ 네, 사유를 이야기하세요. ④ 네, 병가 기간을 확인하세요.

4. ① 연차 휴가를 냈어요. ② 지금 휴가 중이에요.
③ 휴가를 5일 받았어요. ④ 먼저 휴가를 신청하세요.

5. 이야기를 듣고 질문에 알맞은 대답을 고르십시오.
အကြောင်းအရာကို နားထောင်ပြီး မေးခွန်းနဲ့ သင့်တော်တဲ့ အဖြေကို ရွေးပါ။

여자는 왜 고향에 가려고 합니까? မိန်းကလေးက ဘာကြောင့် ဇာတိကို သွားဖို့လုပ်နေပါသလဲ။

① 어머니가 아프셔서 ② 동생이 결혼을 해서
③ 중요한 약속이 있어서 ④ 가족과 휴가를 보내려고

### 듣기 대본 စာသား

1. 남: 얼마 동안 병가를 내실 예정이에요? ဘယ်လောက်ကြာကြာ ဆေးခွင့်တင်မှာလဲ။
   여: 5일이면 될 것 같아요. ၅ ရက်ဆိုရင် ရမယ်ထင်တယ်။
2. 여: 임금을 받고 쉬는 날이 있다던데요? လစာ ရတဲ့ နားရက် ရှိတယ်ဆို။
   남: 네, 일주일에 하루는 일하지 않아도 임금을 받아요.
   ဟုတ်ကဲ့၊ တစ်ပတ်မှာ တစ်ရက်ကတော့ အလုပ်မလုပ်လည်း လစာ ရပါတယ်။
3. 남: 아파서 지난주에 1주일 동안 결근했는데 내야 할 서류가 있어요?
   နေမကောင်းလို့ ပြီးခဲ့တဲ့အပတ်က တစ်ပတ်လုံးလုံး အလုပ်ပျက်ခဲ့တာ တင်ရမယ့် စာရွက်စာတမ်း ရှိလား။
4. 여: 올해 쓸 수 있는 휴가가 있어요? ဒီနှစ် ယူလို့ရတဲ့ ခွင့်ရက် ရှိလား။
5. 남: 이번 휴가에 고향에 가려고요?
   ဒီတစ်ခေါက် ပိတ်ရက်ရှည်မှာ ဇာတိကို ပြန်မလို့လား။
   여: 네, 어머니가 몸이 안 좋으셔서 다녀와야 할 것 같아요.
   ဟုတ်ကဲ့၊ အမေက နေလို့သိပ်မကောင်းလို့ သွားပြီး ပြန်လာရမယ်ထင်တယ်။
   남: 걱정이 많겠어요. 조심해서 다녀오세요.
   စိတ်ပူနေရမှာပဲ။ ဂရုတစိုက် သွားပြီးပြန်လာပါ။

정답 1. ④ 2. ④ 3. ② 4. ④ 5. ①



### 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန် L-56

1. 대화를 듣고 질문에 알맞은 대답을 고르십시오.
   သေချာ နားထောင်ပြီး အဖြေမှန်ကို ရွေးပါ။

   여자는 다음 주에 왜 휴가를 받습니까?
   မိန်းကလေးက နောက်အပတ်မှာ ဘာကြောင့် နားရက်ယူတာလဲ။

   ① 화요일이 공휴일입니다.
   ② 그동안 일이 많았습니다.
   ③ 병원에서 검사를 받습니다.
   ④ 다음 주에 회사 일이 없습니다.

### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

여: 사장님, 다음 주에 3일 정도 휴가를 쓸 수 있을까요? 병원에 가서 검사를 받을 게 있어서요?
 သူဌေး၊ နောက်အပတ်မှာ ၃ရက်လောက် နားရက်ယူလို့ရလား။ ဆေးရုံ သွားပြီး ဆေးစစ်ခံဖို့ ရှိလို့ပါ။
남: 그래요? 몸이 많이 안 좋아요? ဟုတ်လား၊ နေမကောင်းဘူးလား။
여: 그런 건 아닌데 큰 병원에 가서 검사를 받아 보라고 해서요.
အဲလိုတော့ မဟုတ်ပါဘူး။ ဆေးရုံကြီးကို သွားပြီး စစ်ဆေးခံကြည့်ပါ ဆိုလို့ပါ။
남: 알았어요. 일이 많아서 바쁘기는 하겠지만 화요일부터 쉬도록 하세요. 건강이 제일 중요하니까 건강 잘 챙기고요.
ကောင်းပါပြီ။ အလုပ်များပြီး မအားတာတော့ မအားဘူးပေါ့။ အင်္ဂါနေ့ကစပြီး နားလိုက်ပါ။ ကျန်းမာရေးက အရေးကြီးဆုံးပဲဆိုတော့ ကျန်းမာရေးကို ဂရုစိုက်ပါ။

정답 1. ③



# EPS-TOPIK 읽기 EPS-TOPIK အဖတ် စာမေးပွဲ



မေးခွန်း ၁ နဲ့ ၂ ကတော့ သင့်တော်တဲ့ စကားလုံးကို ရွေးပေးရမှာ ဖြစ်ပါတယ်။ အပေါ်က စကားလုံးတွေကို တစ်ခေါက် ပြန်စဉ်းစားကြည့်ပြီး မေးခွန်းတွေကို ဖြေပါ။

[1~2] 빈칸에 들어갈 가장 알맞은 것을 고르십시오. ကွက်လပ်ထဲ ဖြည့်ရမယ့် အမှန်ဆုံး အဖြေကို ရွေးပါ။

1. 올 여름에 회사에서 휴가를 ________ 고향에 다녀올 거예요.
လာမယ့် နွေရာသီမှာ ကုမ္ပဏီက ခွင့်ရရင် ဇာတိကို သွားပြီးပြန်လာမယ်။

① 내면　② 쓰면　③ 받으면　④ 신청하면

2. 가: 안색이 안 좋아요. 일찍 들어가서 쉬는 게 어때요?
မျက်နှာမကောင်းပါလား။ စောစော ပြန်ပြီး နားပါလား။
나: 네, ________ 먼저 들어가 보겠습니다. ဟုတ်ကဲ့၊ အလုပ်စောဆင်းပြီး ပြန်ပါတော့မယ်။

① 결근하고　② 조퇴하고　③ 신청하고　④ 휴직하고

မေးခွန်း ၃ နဲ့ ၄ ကတော့ စကားပြောရဲ့ ခေါင်းစဉ်ကို ရွေးပေးရတာဖြစ်ပါတယ်။ မေးခွန်းနံပါတ် ၅ ကတော့ ပိတ်ရက်အကြောင်း စာပိုဒ်ကို ဖတ်ပြီး မေးခွန်းတွေကို ဖြေပေးရမှာပါ။

[3~5] 다음 질문에 답하십시오 အောက်ပါ မေးခွန်းများကို ဖြေပါ။

3. 가: 아기를 낳을 때는 얼마 동안 쉬어요? ကလေး မွေးတဲ့အခါ ဘယ်လောက်ကြာကြာ နားရလဲ။
나: 3개월 동안 쉴 수 있도록 근로 기준법에 정해져 있어요.
၃လကြာ နားလို့ရတယ်လို့ အလုပ်သမားဥပဒေမှာ သတ်မှတ်ထားပါတယ်။

두 사람은 무엇에 대해 이야기하고 있습니까? သူတို့ ဘာအကြောင်း ပြောနေကြတာလဲ။

① 무급 휴가　② 병가 휴가　③ 연차 휴가　④ 출산 휴가

4. 가: 그럼 회사에 연락도 없이 출근 안 한 거예요?
ဒါဆိုရင် ကုမ္ပဏီကို ဖုန်းတောင်မဆက်ဘဲ အလုပ်မလာတာလား။
나: 그런가 봐요. ဟုတ်မယ်ထင်တယ်။

두 사람은 무엇에 대해 이야기하고 있습니까? သူတို့ ဘာအကြောင်း ပြောနေကြတာလဲ။

① 병가 내다　② 휴직하다　③ 조퇴하다　④ 무단결근하다

5. ㉠________ 은 법으로 정한 날은 아니지만 회사가 휴일로 정하고 있는 날입니다. 유급으로 할 것인지 무급으로 할 것인지도 회사의 규정에 따라 다릅니다. 근로자의 날은 법정 휴일로 ㉠________에 포함되지 않습니다.
ညှိနှိုင်းပိတ်ရက်ကတော့ ဥပဒေနဲ့ သတ်မှတ်ထားတဲ့ ရက်တော့ မဟုတ်ပေမဲ့ ကုမ္ပဏီက ပိတ်ရက်အဖြစ် သတ်မှတ်ထားတဲ့ ရက်ဖြစ်ပါတယ်။ လစာပေးမလား၊ လစာမဲ့ဖြစ်မလားကတော့ ကုမ္ပဏီရဲ့ စည်းမျဉ်းအပေါ် မူတည်ပါတယ်။ အလုပ်သမားနေ့ကတော့ တရားဝင်ပိတ်ရက်ဖြစ်တဲ့အတွက် ညှိနှိုင်းပိတ်ရက်ထဲ မပါပါဘူး။

㉠에 들어갈 알맞은 말을 고르십시오. ㉠ နေရာမှာ ထည့်ရမယ့် စကားလုံးကို ရွေးပါ။

① 무급 휴일　② 연차 휴일　③ 약정 휴일　④ 유급 휴일

정답 1. ③ 2. ② 3. ④ 4. ④ 5. ③



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~3] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်မှာ ဖြည့်ရမယ့် အသင့်တော်ဆုံး စကားကို ရွေးပါ။

1. 연차 휴가는 유급 휴가이기 때문에 쉬지 않고 일한 사람한테는 ________ 을 줍니다.
နှစ်ပြည့်နားရက်ကတော့ လုပ်အားခရတဲ့ နားရက်ဖြစ်တာမို့ မနားဘဲ အလုပ်လုပ်ခဲ့သူကို လုပ်အားခ ပေးပါတယ်။

① 수당 ② 월급
③ 일당 ④ 세금

2. 월급이 생각보다 적게 들어온 것 같습니다. 급여 명세서를 한번 ________ 봐야겠습니다.
လစာက ထင်ထားတာထက် နည်းပြီး ဝင်လာတယ်ထင်ပါတယ်။ လစာပြေစာကို တစ်ခေါက် စစ်ကြည့်ဦးမှပဲ။

① 바꿔 ② 옮겨
③ 확인해 ④ 취소해

3. 저는 한국에서 일을 하고 싶습니다. 한국에 있는 회사에 ________ 먼저 한국어능력시험을 봐야 합니다.
ကျွန်တော်ကတော့ ကိုရီးယားမှာ အလုပ်လုပ်ချင်ပါတယ်။ ကိုရီးယားမှာ ရှိတဲ့ ကုမ္ပဏီမှာ အလုပ်ဝင်မယ်ဆိုရင် အရင်ဆုံး ကိုရီးယားဘာသာစာမေးပွဲကို ဖြေရပါမယ်။

① 해고하려면 ② 퇴직하려면
③ 고용하려면 ④ 취업하려면

정답 1. ① 2. ③ 3. ④



## 유용한 표현 အသုံးဝင်သော အသုံးအနှုန်းများ

### 한눈 팔면 안 돼요. အာရုံများလို့ မရဘူး။

가: **한눈 팔면 안 돼요.** 기계를 사용할 때는 위험해요.
စက်ကို အသုံးပြုနေတဲ့အချိန်မှာ အန္တရာယ်များတယ်။ **အာရုံများလို့ မရဘူး။**
나: 네, 주의할게요. ဟုတ်ကဲ့၊ သတိထားပါ့မယ်။




# 사업장을 변경하고 싶은데

အလုပ်ရုံပြောင်းချင်ပါတယ်

**학습 안내**
သင်ရိုး အညွှန်း

- **သင်ခန်းစာ ရည်ရွယ်ချက်** လုပ်ငန်းခွင် ရွှေ့ပြောင်းခြင်းနှင့် ခေတ္တ အလည်ပြန်ခြင်း လုပ်ငန်းစဉ်အဆင့်ဆင့်
- **အသုံးချသင်ခန်းစာ** ဒုတိယအကြိမ်ပြည်ဝင်ခွင့် ခွင့်ပြုစာ
- **ဝေါဟာရ** လုပ်ငန်းခွင် ရွှေ့ပြောင်းခြင်း၊ ကာလမပြည့်မီ အပြီးပြန်ခြင်းနှင့် ခေတ္တ အလည်ပြန်ခြင်း
- **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** လုပ်ငန်းခွင် ရွှေ့ပြောင်းခြင်း



## 대화 1 စကားပြော ၁






အာဒစ်က အလုပ်ပြောင်းဖို့အတွက် ရုံပြောင်းလျှောက်လွှာ တင်ဖို့ လုပ်နေပါတယ်။ စကားပြောကို နှစ်ခေါက် နားထောင်ပြီး လိုက်ဆိုကြည့်ပါ။

카림 아딧, 너 회사 옮길 거라며? 무슨 일 있어?
အာဒစ်၊ မင်း အလုပ် ပြောင်းမယ်ဆို။ ဘာဖြစ်လို့လဲ။

아딧 우리 회사가 사정이 안 좋아서 곧 문을 닫을 것 같아. 그래서 사장님이 사업장 변경 신청서를 내라고 하시더라고.
ငါတို့ ကုမ္ပဏီက အခြေအနေသိပ်မကောင်းလို့ မကြာခင် ပိတ်ရတော့မယ်ထင်တယ်။ ဒါကြောင့်မို့ သူဌေးက ရုံပြောင်းလျှောက်လွှာ တင်ဖို့ပြောတယ်။

> **사정이 안 좋다**
> အခြေအနေ မကောင်းဘူး

카림 그랬구나. 사장님도 힘드실 텐데 널 많이 생각해 주시는 것 같다.
အဲလိုလား။ သူဌေးလည်း စိတ်ညစ်နေမှာပဲ။ မင်းကို အတော် တွေးပေးသားပဲ။

> **섭섭하다**
> စိတ်မကောင်း ဖြစ်သည်

아딧 맞아. 같이 일하면서 정이 많이 들었는데 너무 섭섭해. 그래도 난 계속 일을 해야 하니까……. 근데 사업장 변경 신청서는 근로 계약이 끝나고 한 달 이내에 해야 한다면서?
ဟုတ်တယ်။ အတူ အလုပ်လုပ်ရင်း သံယောဇဉ်လည်း ဖြစ်နေပြီ။ တော်တော် စိတ်မကောင်းဘူးကွာ။ ဒါပေမဲ့လည်း ငါလည်း အလုပ်ဆက်လုပ်မှဖြစ်မှာမို့ .....ဒါနဲ့ ရုံပြောင်း လျှောက်လွှာက အလုပ်စာချုပ် ပြီးဆုံးပြီး တစ်လအတွင်း တင်ရတာဆို။

> **정이 들다**
> သံယောဇဉ် ဖြစ်သည်

카림 응, 한 달 안에 고용 센터에 가서 제출해야 돼.
အင်း၊ တစ်လအတွင်း အလုပ်သမားစင်တာကို သွားပြီး တင်ရမှာ။



သေချာ နားထောင်ပြီး လိုက်ဆိုခဲ့ရဲ့လား။ ဒါဆိုရင် အောက်က မေးခွန်းတွေကို ဖြေကြည့်လိုက်ပါဦး။

1. 아딧 씨는 왜 회사를 옮기려고 해요? အာဒစ်က ဘာကြောင့် ကုမ္ပဏီကို ပြောင်းဖို့လုပ်တာလဲ။
2. 사업자 변경 신청서는 언제까지 내야 해요? ရုံပြောင်း လျှောက်လွှာက ဘယ်အချိန်နောက်ဆုံး တင်ရတာလဲ။

정답 1. 회사 사정이 안 좋아서 다닐 수가 없어요. 2. 근로 계약이 끝나고 한 달 이내에 내야 해요.






## 어휘 1 ဝေါဟာရ ၁ — 사업장 변경 အလုပ်ရုံ ပြောင်းခြင်း



အလုပ်ရုံကို ဘယ်လို ပြောင်းလို့ရသလဲ။ အလုပ်ပြောင်းခြင်းနဲ့ သက်ဆိုင်တဲ့ စကားလုံးအချို့ကို ကြည့်ကြရအောင်။




근로계약이 만료되다
အလုပ်စာချုပ် သက်တမ်းပြည့်သည်




근로계약이 해지되다
အလုပ်စာချုပ်ပျက်ပျယ်သည်



계약을 갱신하다
စာချုပ်သက်တမ်းတိုးသည်



갱신을 거절하다
သက်တမ်းတိုးရန် ငြင်းဆိုသည်




사업장 변경 이유
ရုံပြောင်းရသည့် အကြောင်းရင်း



임금을 체불하다
လစာကြန့်ကြာသည်




휴업하다
လုပ်ငန်းနားထားသည်




폐업하다
လုပ်ငန်းပိတ်သိမ်းသည်




폭언을 하다
ဆဲရေးပြောဆိုသည်



폭행을 하다
လက်ပါသည်




사업장 변경 신청서
ရုံပြောင်းလျှောက်လွှာ



사업장 추가
အလုပ်ရုံ တိုးသည်

### 유용한 표현 အသုံးဝင်သော အသုံးအနှုန်းများ

**큰일 날 뻔했네요. တော်သေးတာပေါ့။**

가: 버스 안에서 넘어졌어요. ဘတ်စ်ကားထဲမှာ လဲကျသွားတာ။
나: **큰일 날 뻔했네요**. 괜찮아요? **တော်သေးတာပေါ့**၊ နာနေသေးလား။



အပေါ်က စကားလုံးတွေကို မကြည့်ဘဲ မေးခွန်းတွေကို ဖြေကြည့်ပါ။

**1. 빈칸에 맞는 표현을 골라 대화를 완성하세요.**
ကွက်လပ်ထဲ ဖြည့်ရမယ့် စကားလုံးကို ရွေးပြီး စကားပြောကို ပြည့်စုံအောင် ဖြည့်စွက်ပါ။

1)
가: 근로계약이 만료되면 어떻게 할 거예요?
အလုပ်စာချုပ် ပြည့်ရင် ဘယ်လို လုပ်မှာလဲ။
나: 계약을 ___________ 하려고요. 지금 다니는 회사가 좋은 것 같아서요.
စာချုပ် သက်တမ်းတိုးမလို့၊ အခု လုပ်နေတဲ့ ကုမ္ပဏီက ကောင်းတယ်ထင်လို့။

① 갱신　　② 해지

2)
가: 더 이상 공장은 운영 안 하는 거예요? စက်ရုံ မလည်ပတ်တော့ဘူးလား။
나: 아니요, 사정이 있어서 지금은 잠시 ___________ 중이에요.
ဟင့်အင်း၊ အခက်အခဲ ရှိလို့ အခုတော့ ခဏ နားထားပါတယ်။

① 휴업　　② 폐업

3)
가: 근무지 ________은 몇 번까지 가능해요? အလုပ်လိပ်စာ ပြောင်းတာက ဘယ်နှကြိမ်အထိ ရလဲ။
나: 3번까지는 바꿀 수 있는 걸로 알고 있어요.
၃ ကြိမ်အထိကတော့ ပြောင်းလို့ရတယ်လို့ သိထားပါတယ်။

① 신청　　② 변경

4)
가: 근무지를 바꾸고 싶은 이유가 있어요?
အလုပ်ရုံ ပြောင်းချင်ရတဲ့ အကြောင်းရင်းက ဘာလဲ။
나: 몇 달째 임금을 못 받았어요. ___________도 변경 사유가 되지요?
လစာ မရတာ ၃-၄လ ရှိပြီ။ လစာကြန့်ကြာခြင်းကလည်း အလုပ်ပြောင်းတဲ့ အကြောင်းရင်း ဖြစ်တယ်မဟုတ်လား။

① 해고　　② 임금 체불

**2. 그림을 보고 알맞은 말을 연결하세요.**
ပုံကို ကြည့်ပြီး သင့်တော်တဲ့ စကားလုံးနဲ့ ချိတ်ဆက်ပါ။

①　②　③　④

㉠ 폭행을 하다　㉡ 폭언을 하다　㉢ 휴업하다　㉣ 폐업하다

정답 1. ① 2) ① 3) ② 4) ②　2. ①-㉡ ②-㉠ ③-㉣ ④-㉢

## 대화 2 စကားပြော ၂






အာဒစ်က အဖေ နေမကောင်းလို့ ဇာတိကို ပြန်မလို့တဲ့။ သူတို့ ဘာတွေ ပြောနေကြသလဲဆိုတာ စကားပြောကို အရင် နားထောင်ကြည့်ပါ။

아딧 아버지가 지난달에 큰 수술을 받으셨어.
အဖေက ပြီးခဲ့တဲ့လက ခွဲစိတ်မှုကြီး ခံယူခဲ့တယ်တဲ့။

이반 정말? 이제 좀 어떠셔?
တကယ်လား။ အခုရော ဘယ်လိုနေသေးလဲ။

아딧 많이 안 좋으신 것 같아. 아무래도 고향에 다녀와야 할 것 같은데…….
အရမ်းကြီး မကောင်းသေးသလိုပဲ။ ဘာပဲဖြစ်ဖြစ် ဇာတိကို ပြန်မှဖြစ်မယ်ထင်တယ်။

말을 꺼내다
စကားစသည်

이반 걱정이 많겠다. 고향에 가게 되면 지금 일은 어떻게 하고?
စိတ်ပူနေရမှာပဲ။ ဇာတိကို သွားရင် အခု အလုပ်ကို ဘယ်လို လုပ်မလဲ။




아딧 일시 출국했다가 재입국하는 방법이 있다고 들었어. 그런데 회사가 한창 바쁠 때라서 말 꺼내기가 쉽지 않네.
ခဏ ပြန်ပြီး ပြန်ဝင်လာတဲ့ နည်းလမ်း ရှိတယ်လို့ ကြားဖူးတယ်။ ဒါပေမဲ့ ကုမ္ပဏီက အရမ်း အလုပ်များချိန်မို့ စကားစရမှာ မလွယ်ဘူး။

이반 그렇겠다. 그래도 사장님께 한번 이야기해 봐.
အေးပေါ့။ ဒါပေမဲ့လည်း သူဌေးကို တစ်ခေါက် ပြောကြည့်ပေါ့။



မိမိကိုယ်ကို အာဒစ်နဲ့ အီဗန်လို့ သဘောထားပြီး စကားပြောကို လိုက်ပြောကြည့်ပါ။ သေချာ နားထောင်ပြီး လိုက်ပြောပြီးပြီဆိုရင် အောက်က မေးခွန်းတွေကို ဖြေကြည့်ပါ။

1. 아딧 씨는 왜 고향에 다녀오려고 해요? အာဒစ်က ဘာကြောင့် ဇာတိကို သွားပြီးပြန်လာဖို့ လုပ်တာလဲ။
2. 아딧 씨는 사장님께 왜 일시 출국하고 싶다는 말을 쉽게 얘기하지 못해요?
   အာဒစ်က သူဌေးကို ဘာကြောင့် ခဏ ပြန်ချင်တယ်ဆိုတဲ့စကားကို အလွယ်တကူ မပြောနိုင်တာလဲ။

정답 1. 아버지가 편찮으셔서 고향에 다녀오려고 해요. 2. 회사가 한창 바쁘기 때문에 얘기하기가 쉽지 않아서요.



## 어휘 2 စကားပြော ၂ 조기 귀국과 일시 출국 စောပြန်ခြင်းနှင့် ခေတ္တ ပြည်တော်ပြန်ခြင်း

အကယ်၍ ကိုယ်ရေးကိုယ်တာ ကိစ္စနဲ့ ပြည်တော်ပြန်ချင်တယ်ဆိုရင် ခေတ္တပြည်တော်ပြန်ခြင်းနဲ့ စောပြန်ခြင်းတို့နဲ့ သက်ဆိုင်တဲ့ စကားလုံးတွေကို သိထားရမယ်နော်။



조기 귀국하다
စော၍ ပြည်တော်ပြန်သည်



일시 출국하다
ခေတ္တ ပြည်တော်ပြန်သည်




재입국하다
နိုင်ငံအတွင်းသို့ ပြန်ဝင်လာသည်




면제되다
ကင်းလွတ်ခွင့်ရသည်



개인 사정
ကိုယ်ရေးကိုယ်တာကိစ္စ



집안 사정
မိသားစု အရေးကိစ္စ



병환
ရောဂါ



편찮으시다
(လူကြီး)နေမကောင်းဖြစ်သည်

재입국 허가 신청서
ပြည်ပြန်ဝင်ခွင့် လျှောက်လွှာ

동의서(허가서)
သဘောတူစာ(ခွင့်ပြုစာ)

출국 예정 신고서
ပြည်တော်ပြန် ကြိုတင်သတင်းပို့စာ

**Tip 일시 출국** ခေတ္တ ပြည်တော်ပြန်ခြင်း

본인의 결혼이나 부모님의 병환 등과 같은 사정으로 일시적으로 출국하기를 원할 경우, 사업주의 동의를 얻어서 고향에 다녀올 수 있습니다. 출국 전에 미리 재입국 허가 신청서를 제출하면 재입국 시 재입국 허가가 면제됩니다.

မိမိ၏ မင်္ဂလာကိစ္စ သို့မဟုတ် မိဘများ၏ ကျန်းမာရေး စသည့် အရေးကိစ္စများကြောင့် ခေတ္တခဏအားဖြင့် ပြည်တော်ပြန်ရန် ဆန္ဒရှိသည့်အခါ အလုပ်ရှင်၏ ခွင့်ပြုချက်ကို ရယူ၍ ဇာတိသို့ သွားပြီးပြန်လာနိုင်ပါသည်။ ကိုရီးယားမှ မထွက်ခွာမီ ကြိုတင်၍ နိုင်ငံအတွင်းသို့ ပြန်ဝင်လာခွင့် လျှောက်လွှာကို တင်ခဲ့လျှင် ပြန်ဝင်ရောက်လာသည့်အခါ ခွင့်ပြုချက် ရရှိပြီးသားဖြစ်ပါမည်။



အပေါ်က စကားလုံးတွေကို မကြည့်ဘဲ မေးခွန်းတွေကို ဖြေကြည့်ပါ။

1. 그림에 맞는 표현을 〈보기〉에서 골라 넣으세요.
ပုံနဲ့ ကိုက်ညီတဲ့ စကားလုံးကို ဥပမာထဲကနေ ရွေးပြီး ထည့်ပါ။

1) ______ → 2) ______ → 3) ______ → 4) ______

보기
퇴사하다 조기 귀국하다 출국 예정 신고서를 제출하다 개인 사정이 생기다

2. 빈칸에 맞는 표현을 골라 대화를 완성하세요.
ကွက်လပ်နဲ့ ကိုက်ညီတဲ့ စကားလုံးကို ရွေးပြီး စကားပြောကို ပြည့်စုံအောင် ဖြည့်စွက်ပါ။

1)
가: 개인적인 사정이 생겨서 고향에 잠시 다녀오게 됐어요.
ကိုယ်ရေးကိုယ်တာကိစ္စ ပေါ်လာလို့ ဇာတိကို ခဏ သွားပြီးပြန်လာမလို့။
나: 네, 반장님께 들었어요. ___________ 신청서는 제출했어요?
ဟုတ်ကဲ့၊ အလုပ်ကြပ်ဆီက ကြားပါတယ်။ ပြည်ပြန်ဝင်ခွင့် လျှောက်လွှာ တင်ပြီးပြီလား။

① 사업장 변경 ② 재입국 허가

2)
가: 이렇게 빨리 고향에 돌아가는 거예요? ဒီလောက် မြန်မြန် ဇာတိကို ပြန်တော့မှာလား။
나: 네, 어머니가 편찮으셔서 ___________하게 됐어요.
ဟုတ်ကဲ့၊ အမေက နေမကောင်းလို့ စောပြီး ပြန်ရတော့မယ်။

① 재입국 ② 조기 귀국

3)
가: 이번 주까지 근무하고 다음 주 출국이죠?
ဒီအပတ်အထိ အလုပ်လုပ်ပြီး နောက်အပတ် ပြန်တော့မှာမဟုတ်လား။
나: 네, 금요일에 ___________ 나면 출국 준비하려고요.
ဟုတ်ကဲ့၊ သောကြာနေ့မှာ အလုပ်က ထွက်ပြီးရင် ပြန်တော်ပြန်ဖို့ ပြင်တော့မယ်။

① 신고하고 ② 퇴사하고

4)
가: 재입국 허가 신청서를 제출하고 일시 출국했다가 입국하면 다시 허가를 받아야 해요?
နိုင်ငံအတွင်းသို့ ပြန်ဝင်ခွင့် လျှောက်လွှာကို တင်ပြီး ခေတ္တ ပြည်တော်ပြန်ပြီး ပြန်ဝင်လာရင် ထပ်ပြီး ခွင့်ပြုချက်ယူရသေးလား။
나: 아니요, 이 경우에는 재입국 허가가 ___________.
ဟင့်အင်း၊ ဒီလို အခြေအနေမျိုးမှာတော့ နိုင်ငံအတွင်း ပြန်ဝင်ခွင့်က ကင်းလွတ်ခွင့်ရပြီးသားပါ။

① 가능해요 ② 면제돼요

정답 1. 1) 개인 사정이 생기다 2) 출국 예정 신고서를 제출하다 3) 퇴사하다 4) 조기 귀국하다 2. 1) ② 2) ② 3) ② 4) ②



## 활동 အသုံးချသင်ခန်းစာများ

재입국 허가 동의서입니다. 읽고 질문에 답하세요.
ကိုရီးယားနိုင်ငံသို့ ပြန်ဝင်ရောက်ခွင့် ခွင့်ပြုချက်စာဖြစ်ပါတယ်။ ဖတ်ပြီး မေးခွန်းကို ဖြေကြည့်ပါ။

### 재입국 허가 동의서
ပြည်ပြန်ဝင်ခွင့် သဘောတူခွင့်ပြုစာ

- 업체명 ကုမ္ပဏီအမည် : 고려식품
- 주소 လိပ်စာ : 충남 아산시 사장길 29 ☎(041) 541-4567
- 연수생 인적 사항 အလုပ်သမား ကိုယ်ရေးအချက်အလက်များ

| 성명 အမည် | 성별 ကျား/မ | 외국인 등록번호 နိုင်ငံခြားသားမှတ်ပုံတင်အမှတ် | 여권 번호 ပတ်စ်ပို့နံပါတ် |
|---|---|---|---|
| 칸 | 남 | 890726-******* | E0246890 |

- 재입국 사유 ပြည်ပြန်ဝင်အကြောင်းရင်း : 부모님 병환으로 일시 출국합니다.
  မိဘ နေမကောင်းသောကြောင့် ခေတ္တ ပြည်တော်ပြန်ပါသည်။
- 재입국 기간 ပြည်ပြန်ဝင်မည့်ကာလ : 출국 예정일 ပြည်ထွက်ရက် (2015. 05. 03)
  허가 기간 ခွင့်ပြုကာလ (2015. 05. 03 ~ 2015. 05. 17)

대표자 : 김철수 (인) 

1. 위의 재입국 허가 신청서의 내용과 다른 것을 고르세요.
အပေါ်က ပြည်ပြန်ဝင်ခွင့်ပြုချက် လျှောက်လွှာထဲက အကြောင်းအရာနဲ့ မတူတာကို ရွေးပါ။
① 칸 씨는 김철수 씨와 함께 출국을 해야 합니다.
② 칸 씨는 부모님의 건강 문제로 일시 출국을 합니다.
③ 칸 씨는 충남에 있는 고려 식품에서 일하고 있습니다.
④ 칸 씨는 5월 3일부터 5월 17일까지 고향에 다녀올 수 있습니다.

2. 재입국 허가 동의서에 대한 내용으로 맞으면 ○, 틀리면 X에 표시하세요.
ပြည်ပြန်ဝင်ခွင့် သဘောတူခွင့်ပြုစာထဲက အကြောင်းအရာနဲ့ တူရင် (ဝလုံး) မတူရင် (ကြက်ခြေခတ်)ကို ရွေးပါ။
1) 허가 기간을 알 수 있습니다. ○ X
2) 근무지와 근로자의 정보를 적습니다. ○ X
3) 출국해서 가려는 장소의 주소를 밝힙니다. ○ X
4) 근무하는 업체 대표의 확인이 필요합니다. ○ X

정답 1. ① 2. 1) O 2) O 3) × 4) O

# 사업장 변경

## စက်ရုံ ပြောင်းခြင်း

### 사업장 변경이란 စက်ရုံ ပြောင်းခြင်းဆိုသည်မှာ

사업장 변경이란 일하고 있는 근무지를 바꾸는 것을 말합니다. 외국인 근로자는 최초의 근로 개시를 한 사업장에서 계속 근무하는 것이 원칙입니다. 다만, 정상적인 근로 관계 지속이 어렵다고 인정되는 경우에 한해 외국인 근로자의 기본적인 인권 보장을 위해 예외적으로 사업장 이동을 최대 3회까지 허용합니다.

စက်ရုံ ပြောင်းခြင်း ဆိုသည်မှာ အလုပ်လုပ်နေသည့် အလုပ်နေရာကို ပြောင်းခြင်းကို ဆိုလိုသည်။ နိုင်ငံခြားသား အလုပ်သမားသည် ပထမဦးဆုံး အလုပ်ဝင်သည့် စက်ရုံတွင် ဆက်တိုက် အလုပ်လုပ်ရမည့် တာဝန်ရှိသော်လည်း ပုံမှန်ဖြစ်သော အလုပ်ခွင်ဆိုင်ရာ ပတ်သက်မှု ဆက်လက်တည်တံ့ရန် ခက်ခဲသည်ဟု သတ်မှတ်သည့် အခြေအနေမျိုးတွင် နိုင်ငံခြားသား အလုပ်သမား၏ အခြေခံလူ့အခွင့်အရေးကို ကာကွယ်ပေးသောအားဖြင့် ခြွင်းချက်အနေဖြင့် စက်ရုံ ပြောင်းရွှေ့ခြင်းကို ၃ကြိမ်အထိ ခွင့်ပြုပါသည်။

### 사업장 변경 사유 စက်ရုံ ပြောင်းရသည့် အကြောင်းရင်း

1. 사용자가 정당한 사유로 근로계약 기간 중 근로계약을 해지하려고 하거나 근로계약이 만료된 후 갱신을 거절한 경우
   အလုပ်ရှင်က ခိုင်လုံသော အကြောင်းပြချက်ဖြင့် အလုပ်စာချုပ် ကာလအတွင်း စာချုပ်ဖျက်သိမ်း၍ဖြစ်စေ သို့မဟုတ် စာချုပ်ပြီးဆုံးပြီးနောက် သက်တမ်းတိုးရန် ငြင်းဆိုခဲ့သည့်အခါ

2. 외국인 근로자의 책임이 아닌 사유로 사회 통념상 그 사업 또는 사업장에 근로를 계속할 수 없게 되었다고 인정하고 고용노동부 장관이 고시한 경우
   နိုင်ငံခြားသား အလုပ်သမား၏ တာဝန်မဟုတ်သော အကြောင်းရင်းဖြင့် လူ့ဘောင်အဖွဲ့အစည်းအတွင်း နားလည်သိရှိထားမှုအရ ထို လုပ်ငန်း သို့မဟုတ် စက်ရုံတွင် ဆက်၍ အလုပ်မလုပ်နိုင်တော့ဟု သတ်မှတ်ကြောင်း အလုပ်သမားဝန်ကြီးဌာနမှ ကြေညာသည့်အခါ

3. 상해 등으로 외국인 근로자가 해당 사업장에서 계속 근무하기는 부적합하나 다른 사업 또는 사업장에서 근무하는 것은 가능하다고 인정되는 경우
   ထိခိုက်ဒဏ်ရာရမှု စသည်တို့ကြောင့် နိုင်ငံခြားသား အလုပ်သမားက သက်ဆိုင်ရာ စက်ရုံတွင် ဆက်၍ အလုပ်လုပ်ရန် မသင့်တော်သော်လည်း အခြား လုပ်ငန်း သို့မဟုတ် စက်ရုံတွင် အလုပ်လုပ်ရန် ဖြစ်နိုင်သေးသည်ဟု သတ်မှတ်သည့်အခါ

〈참고 : 사업장 변경 허용 사유(외국인 고용법 제25조 제1항, 시행령 제30조)〉

<ရည်ညွှန်း - စက်ရုံ ပြောင်းရွှေ့ခွင့်ပြုသည့်အကြောင်းရင်းများ
(နိုင်ငံခြားသား ခန့်အပ်ခြင်းဆိုင်ရာ ဥပဒေ အပိုဒ် ၂၅၊ အပိုဒ်ခွဲ ၁၊ နည်းဥပဒေ အပိုဒ် ၃၀)>

### 사업장 변경 절차 စက်ရုံပြောင်းရွှေ့ခြင်းလုပ်ငန်းစဉ် အဆင့်ဆင့်

사업장 변경 사유가 발생한 외국인 근로자는 사용자와 근로계약을 종료한 후 1개월 이내 사업장 소재지 관할 고용 센터에 사업장 변경 신청서를 제출하여야 합니다. 3개월 이내에 재취업을 하면 됩니다.

စက်ရုံ ပြောင်းရန် အကြောင်းပေါ်လာသော နိုင်ငံခြားသား အလုပ်သမားသည် အလုပ်ရှင်နှင့် အလုပ်သမား စာချုပ် သက်တမ်းကုန်ဆုံးပြီး တစ်လအတွင်း စက်ရုံ လိပ်စာတည်ရှိရာ သက်ဆိုင်ရာ အလုပ်သမား စင်တာသို့ စက်ရုံ ပြောင်းခွင့် လျှောက်လွှာကို တင်ပြရမည်ဖြစ်သည်။ ၃လအတွင်း အလုပ်သစ်ကို ရှာတွေ့ရပါမည်။





မေးခွန်း ၁ နဲ့ ၂ ကတော့ အဖြေမှန်ကို ရွေးပေးရတာပါ။ စကားပြောကို နားမထောင်ခင် မေးခွန်းတွေကို ဖတ်ကြည့်ပါ။

[1~2] 이야기를 듣고 질문에 알맞은 대답을 고르십시오.
အကြောင်းအရာကို နားထောင်ပြီး မေးခွန်းနဲ့ ကိုက်ညီတဲ့ အဖြေကို ရွေးပါ။




1. 여자는 지금 무엇을 하고 있습니까? မိန်းကလေးက အခု ဘာ လုပ်နေပါသလဲ။

① 근로계약 갱신　② 근무지 변경 사유
③ 근로계약 만료　④ 근무지 변경 신청

2. 남자는 무엇에 대해 이야기를 하고 있습니까? ယောက်ျားလေးက ဘာအကြောင်း ပြောနေပါသလဲ။

① 휴업　② 폐업
③ 폭언　④ 폭행



မေးခွန်း ၃ ကတော့ မေးခွန်းနဲ့ ကိုက်ညီတဲ့ အဖြေကို ရွေးပေးရမှာ ဖြစ်ပါတယ်။ မေးခွန်း ၄ နဲ့ ၅ ကတော့ စကားပြောကို နားထောင်ပြီး မေးခွန်း တစ်ခုစီအတွက် သင့်တော်တဲ့ အဖြေကို ရွေးပေးရတာပါ။ စကားပြောကို နားမထောင်ခင် မေးခွန်းတွေကို အရင် ဖတ်ကြည့်ပါ။

3. 질문을 듣고 알맞은 대답을 고르십시오.
မေးခွန်းကို နားထောင်ပြီး အဖြေမှန်ကို ရွေးပါ။

① 네, 사유를 이야기하세요.　② 네, 표준 근로계약서를 내세요.
③ 네, 사증 발급 신청서를 내세요.　④ 네, 재입국 허가 신청서를 내세요.

[4~5] 이야기를 듣고 질문에 알맞은 대답을 고르십시오.
အကြောင်းအရာကို နားထောင်ပြီး မေးခွန်းနဲ့ ကိုက်ညီတဲ့ အဖြေကို ရွေးပါ။

4. 남자는 무엇을 이야기하고 있습니까?
ယောက်ျားလေးက ဘာအကြောင်း ပြောနေတာလဲ။

① 근무 조건　② 일시 출국
③ 조기 귀국　④ 사업장 변경

5. 남자는 왜 근무지를 옮겼습니까?
ယောက်ျားလေးက ဘာကြောင့် အလုပ်ကို ပြောင်းခဲ့တာလဲ။

① 폭행 때문에　② 폭언 때문에
③ 폐업 때문에　④ 임금 체불 때문에

## 듣기 대본 စာသား

1. 여: 근무지를 바꾸고 싶은데요. အလုပ် ပြောင်းချင်လို့ပါ။
   남: 네, 서류는 이쪽에 제출하세요. ဟုတ်ကဲ့၊ စာရွက်စာတမ်းတွေကို ဒီဘက်ကို တင်ပါ။
2. 남: 회사가 사정이 있어서 작업을 일시적으로 중단했어요.
   စက်ရုံက အကြောင်းကိစ္စရှိလို့ အလုပ်ကို ယာယီ ရပ်ထားပါတယ်။
3. 여: 개인 사정으로 일시 출국할 때 미리 제출할 서류가 있어요?
   ကိုယ်ရေးကိုယ်တာ ကိစ္စကြောင့် ခေတ္တ ပြည်တော်ပြန်တဲ့အခါ ကြိုပြီး တင်ရတဲ့ စာရွက်စာတမ်း ရှိလား။

4-5. 남: 지난달에 근무지를 옮겼어요. ပြီးခဲ့တဲ့လက အလုပ် ပြောင်းခဲ့ပါတယ်။
   여: 계약 기간이 끝나서 옮긴 거예요? စာချုပ်ကာလ ပြီးသွားလို့ ပြောင်းတာလား။
   남: 아니요. 회사 사정이 안 좋아서 문을 닫았어요.
   မဟုတ်ပါဘူး။ ကုမ္ပဏီက အခြေအနေမကောင်းလို့ ပိတ်သွားလို့ပါ။

정답 1. ④ 2. ① 3. ④ 4. ④ 5. ③



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်


L-57

1. 대화를 듣고 질문에 알맞은 것을 고르십시오.
   သေချာ နားထောင်ပြီး အဖြေမှန်ကို ရွေးပါ။

   남자가 생각하는 좋은 공부 방법은 무엇입니까?
   ယောက်ျားလေး တွေးတဲ့ စာလေ့လာခြင်းနည်းလမ်းကောင်းဆိုတာ ဘာလဲ။

   ① 학원에 다닌다. ② 인터넷 강의를 듣는다.
   ③ 한국어 책을 사서 읽는다. ④ 한국 영화나 드라마를 본다.

## 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

여: 한국어 공부를 하려고 하는데 어떻게 하면 좋을까요?
ကိုရီးယားစာ လေ့လာမလို့ ဘယ်လိုလုပ်ရင် ကောင်းမလဲ။

남: 한국 영화나 드라마를 보면서 공부해 봐요. 학원에 다니거나 인터넷 강의를 듣는 것보다 좋은 것 같아요.
ကိုရီးယား ရုပ်ရှင် သို့မဟုတ် ဇာတ်လမ်းတွဲကို ကြည့်ရင်း လေ့လာကြည့်ပါ။ ကျူရှင်တက်တာ၊ အင်တာနက်သင်ခန်းစာ နားထောင်တာထက် ကောင်းမယ်ထင်တယ်။

여: 그렇군요. 저도 그렇게 해 봐야겠어요.
ဟုတ်လား။ ကျွန်မလည်း အဲဒီလို လုပ်ကြည့်ဦးမှပဲ။

정답 1. ④



# EPS-TOPIK 읽기 EPS-TOPIK အဖတ် စာမေးပွဲ



မေးခွန်း ၁ ကနေ ၄ အထိက သင့်တော်တဲ့ စကားလုံးကို ရွေးပေးရတာဖြစ်ပါတယ်။ ကိုယ်သိထားတဲ့ စကားလုံးတွေကို ပြန်စဉ်းစားကြည့်ပြီး မေးခွန်းတွေကို ဖြေကြည့်ပါ။

[1~4] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်ထဲ ဖြည့်ရမယ့် အမှန်ဆုံး အဖြေကို ရွေးပါ။

1. 사업주와 근로계약 종료 후 한 달 안에 __________을/를 신청해야 합니다.
အလုပ်ရှင်နဲ့ အလုပ်စာချုပ် ပြီးဆုံးပြီး တစ်လအတွင်း စက်ရုံပြောင်းခြင်း လျှောက်ထားရမယ်။

① 계약 갱신 ② 계약 만료 ③ 근로계약 ④ 사업장 변경

2. 개인 사정으로 __________을 할 때 재입국 허가 신청서에 사업자의 동의서를 첨부하여 제출합니다.
ကိုယ်ရေးကိုယ်တာကိစ္စနဲ့ ခေတ္တ ပြည်တော်ပြန်တဲ့အခါ ပြည်ပြန်ဝင်ခွင့် လျှောက်လွှာမှာ အလုပ်ရှင်ရဲ့ သဘောတူခွင့်ပြုစာကို ပူးတွဲ တင်ရပါတယ်။

① 재입국 ② 일시 출국 ③ 조기 귀국 ④ 근무지 변경

3. 사업장 변경 __________에는 근로계약의 만료나 해지, 일하던 사업장의 휴업이나 폐업, 근로자의 상해 등이 있습니다.
စက်ရုံပြောင်းရခြင်း အကြောင်းရင်းများမှာ အလုပ်စာချုပ် ပြီးဆုံးခြင်း သို့မဟုတ် ဖျက်သိမ်းခြင်း၊ အလုပ်လုပ်ခဲ့တဲ့ စက်ရုံက ပိတ်ထားခြင်း၊ ပိတ်သွားခြင်း၊ အလုပ်သမားမှ ထိခိုက်ဒဏ်ရာရခြင်း စသည်တို့ ရှိပါတယ်။

① 기간 ② 사유 ③ 신고 ④ 신청

4. 가: 일시 출국 전에 허가를 받으면 다시 입국할 때 재입국 허가가 __________.
ခေတ္တ ပြည်တော်မပြန်ခင် ခွင့်ပြုချက် ယူထားရင် ထပ်ပြီး ပြည်ပြန်ဝင်လာတဲ့အခါ ခွင့်ပြုချက်ကင်းလွတ်ပြီးသား ဖြစ်ပါတယ်။

나: 재입국 허가를 안 받아도 되니까 훨씬 편하겠네요.
ပြည်ပြန်ဝင်ခွင့်ကို ထပ်လျှောက်နေစရာမလိုဘူးဆိုတော့ ပို အဆင်ပြေတာပေါ့။

① 등록돼요 ② 면제돼요 ③ 신고해요 ④ 제출돼요



မေးခွန်းနံပါတ် ၅ ကတော့ ခေတ္တ ပြည်တော်ပြန်ခြင်းအကြောင်းကို ဖတ်ပြီး မေးခွန်းတွေကို ဖြေပေးရမှာဖြစ်ပါတယ်။

5. 다음 질문에 답하십시오. အောက်ပါ မေးခွန်းများကို ဖြေပါ။

한국에서 일을 하다가 본인의 결혼이나 부모님의 병환 등 개인 사정이 생겨서 일시 출국을 할 때는 미리 신고를 해야 합니다. 신고를 할 때는 재입국 허가 신청서를 작성하고, 사업주의 동의서를 함께 받아서 출입국 관리소에 제출하면 됩니다.

ကိုရီးယားတွင် အလုပ်လုပ်ရာမှ မိမိ၏ မင်္ဂလာကိစ္စ သို့မဟုတ် မိဘများ၏ ကျန်းမာရေး စသည့် ကိုယ်ရေးကိုယ်တာကိစ္စများ ပေါ်ပေါက်၍ ခေတ္တ ပြည်တော်ပြန်သည့်အခါ ကြိုတင်၍ သတင်းပို့ရပါမည်။ သတင်းပို့သည့်အခါ ပြည်ပြန်ဝင်ခွင့်လျှောက်လွှာကို ဖြည့်စွက်၍ အလုပ်ရှင်၏ သဘောတူခွင့်ပြုချက်စာကို အတူ ရယူ၍ လူဝင်မှုကြီးကြပ်ရေးရုံးသို့ တင်ပြရန်ဖြစ်ပါသည်။

재입국 허가 신청서를 제출할 때 주의해야 할 것은 무엇입니까?
ပြည်ပြန်ဝင်ခွင့် လျှောက်လွှာတင်သည့်အခါ သတိပြုရမည့် အချက်ကို ရွေးပါ။

① 사업주의 동의서를 받아야 합니다.
② 자신의 건강 상태를 확인해야 합니다.
③ 한국에 다시 돌아올 때 제출해야 합니다.
④ 결혼한 사람은 혼인 신고서를 내야 합니다.

정답 1. ④ 2. ② 3. ② 4. ② 5. ①



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~2] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်မှာ ဖြည့်ရမယ့် အသင့်တော်ဆုံး စကားကို ရွေးပါ။

1. 저는 아침마다 ________에 갑니다. 거기에서 산책도 하고 운동도 합니다.
ကျွန်တော်ကတော့ မနက်တိုင်း ပန်းခြံကို သွားပါတယ်။ အဲဒီမှာ လမ်းလည်း လျှောက်ပြီး အားကစားလည်း လုပ်ပါတယ်။

① 공원 ② 은행 ③ 식당 ④ 서점

2. 저는 매년 여름휴가 때 여행을 갔습니다. 그런데 이번 휴가는 짧아서 그냥 집에서 ________.
ကျွန်တော်ကတော့ နှစ်တိုင်း နွေရာသီနားရက်မှာ ခရီးသွားခဲ့ပါတယ်။ ဒါပေမဲ့ ဒီနှစ် နားရက်ကတော့ တိုလို့ အိမ်မှာပဲ နေပါတော့မယ်။

① 보내기도 합니다
② 바꾸기도 합니다
③ 보내려고 합니다
④ 바꾸려고 합니다

정답 1. ① 2. ③




# 체류 기간을 연장한 후에 꼭 신고해야 해
နေထိုင်ခွင့်သက်တမ်း တိုးပြီးရင် ဆက်ဆက် အကြောင်းကြားရမယ်။

**학습 안내**
သင်ရိုး အညွှန်း

- □ **သင်ခန်းစာ ရည်ရွယ်ချက်** နေထိုင်ခွင့်သက်တမ်းတိုးခြင်း အဆင့်ဆင့်၊ ဗီဇာပြောင်းလဲပုံများ
- □ **အသုံးချသင်ခန်းစာ** နေထိုင်ခွင့်သက်တမ်းတိုးခြင်းအတွက် လျှောက်လွှာဖြည့်စွက်ခြင်း
- □ **ဝေါဟာရ** နေထိုင်ခွင့်သက်တမ်းတိုးခြင်းနှင့် ဗီဇာ
- □ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** နေထိုင်ခွင့်သက်တမ်းတိုး လျှောက်ထားခြင်း



## 대화 1 စကားပြော ၁






သူတို့တွေ နေထိုင်ခွင့်ကာလ သက်တမ်းတိုးခြင်းအကြောင်း ပြောနေကြပါတယ်။ စာချုပ် သက်တမ်းတိုးရင် နေထိုင်ခွင့်ကာလရော အလိုအလျောက် သက်တမ်းတိုးပါသလား။ အရင်ဆုံး စကားပြောကို နှစ်ကြိမ် နားထောင်ကြည့်ရအောင်။

리한 투안 씨, 계약 연장했어요?
ထူအန်း၊ စာချုပ် သက်တမ်းတိုးပြီးပြီလား။

투안 네, 지난달에 계약 기간이 끝나서 재계약했어요.
ဟုတ်ကဲ့၊ ပြီးခဲ့တဲ့လက စာချုပ်သက်တမ်း ပြီးဆုံးလို့ သက်တမ်းတိုးခဲ့ပါတယ်။

리한 그래요? 재계약을 하면 체류 기간은 자동으로 연장되는 거예요?
ဟုတ်လား၊ စာချုပ် သက်တမ်းတိုးရင် နေထိုင်ခွင့် ကာလက အလိုအလျောက် သက်တမ်းတိုးတာလား။

> **자동으로** အလိုအလျောက်

투안 그건 아니래요. 따로 체류 기간 연장 허가를 받아야 해요.
အဲလိုတော့ မဟုတ်ဘူး။ နေထိုင်ခွင့် ကာလ သက်တမ်းတိုးခွင့်ကို သီးသန့် လျှောက်ရသေးတယ်။

리한 그렇군요. 그럼 연장 허가는 아직 안 받은 거예요?
အဲလိုလား။ ဒါဆိုရင် သက်တမ်းတိုးခွင့် အခုထိ မရသေးဘူးလား။

투안 네, 체류 기간 만료 전까지만 받으면 돼요. 저는 한국에 온 지 3년이 되기 때문에 따로 준비해야 하는 서류가 좀 있더라고요. 그래서 오늘 고용 지원 센터에 가 보려고 해요.
ဟုတ်ကဲ့၊ နေထိုင်ခွင့် ကာလ သက်တမ်းမကုန်ခင် လျှောက်လိုက်ရင်ရပါတယ်။ ကျွန်တော်ကတော့ ကိုရီးယားကို လာတာ ၃နှစ် ပြည့်ပြီဆိုတော့ သီးသန့် ပြင်ဆင်ရမယ့် စာရွက်စာတမ်း နည်းနည်း ရှိတယ်။ ဒါကြောင့်မို့ ဒီနေ့ အလုပ်သမားစင်တာကို သွားမလို့။

> **따로** သီးသန့်



သေချာ နားထောင်ပြီး လိုက်ဆိုပြီးပြီဆိုရင် အောက်က မေးခွန်းလေးတွေကို ဖြေကြည့်ပါ။

1. 투안 씨는 계약 기간이 끝나서 어떻게 했어요?
   ထူအန်းက စာချုပ်ကာလ ပြီးဆုံးတော့ ဘယ်လို လုပ်ခဲ့သလဲ။
2. 체류 기간 연장 허가는 언제까지 받아야 해요?
   နေထိုင်မှု ကာလ သက်တမ်းတိုးခွင့်က ဘယ်အချိန်နောက်ဆုံးထား လျှောက်ရတာလဲ။

정답 1. 계약을 연장했어요. 2. 체류 기간 만료 전까지 받으면 돼요.






## 어휘 1 ဝေါဟာရ ၁ — 체류 기간 연장 နေထိုင်မှုကာလ သက်တမ်းတိုးခြင်း



နေထိုင်ခွင့်ကာလ သက်တမ်းတိုးဖို့ ဘာ စာရွက်စာတမ်းတွေနဲ့ လုပ်ငန်းစဉ်တွေ လိုအပ်ပါသလဲ။ အောက်က စကားလုံးတွေထဲမှာ နေထိုင်ခွင့်နဲ့ ပတ်သက်ပြီး လေ့လာကြည့်ကြရအောင်။



체류하다
နေထိုင်သည်



체류 기간
နေထိုင်ခွင့်ကာလ




체류 가능 기간
နေထိုင်နိုင်သည့်ကာလ




변경 가능 횟수
ပြောင်းလဲနိုင်သည့် အကြိမ်အရေအတွက်




연장하다
သက်တမ်းတိုးသည်




체류지 입증 서류
နေရပ်လိပ်စာ သက်သေစာရွက်



자진 출국 각서
မိမိဆန္ဒဖြင့် ပြည်တော်ပြန်ခွင့် လျှောက်လွှာ



부동산임대차계약서

임대차 계약서
အိမ်အငှားစာချုပ်



신원보증서

신원 보증서
လူပုဂ္ဂိုလ် အာမခံစာ

취업 활동 기간 연장 신청서
အလုပ်လုပ်ခွင့်ကာလ သက်တမ်းတိုးလျှောက်လွှာ



구직등록필증

| | |
|---|---|
| 구직등록번호 | 2430114-125 |
| 구직등록유효기간 | 2019. 11. 24 |
| 상담담당자 | 최복희 |

2014년 6월 2일

직업안정기관장 중소기업청

구직등록필증
အလုပ်ရှာဖွေခွင့်ကတ်



အပေါ်က စကားလုံးတွေကို မကြည့်ဘဲ မေးခွန်းတွေကို ဖြေကြည့်ပါ။

1. 그림을 보고 알맞은 말을 연결하세요. ပုံကို ကြည့်ပြီး ကိုက်ညီတဲ့ စကားလုံးနဲ့ ချိတ်ဆက်ပါ။

①　•　　•　㉠ 체류하다

②　•　　•　㉡ 연장하다

③　•　　•　㉢ 신원보증서

④　•　　•　㉣ 체류지 입증 서류

2. 빈칸에 맞는 표현을 골라 대화를 완성하세요.
ကွက်လပ်နဲ့ ကိုက်ညီတဲ့ စကားလုံးကို ရွေးပြီး စကားပြောကို ဖြည့်စွက်ပါ။

1)
가: 체류 가능 ___________은 어디에 나와 있어요? နေထိုင်ခွင့်ကာလက ဘယ်နားမှာလဲ။
나: 외국인 등록증 뒷면에 날짜가 적혀 있어요.
နိုင်ငံခြားသားမှတ်ပုံတင်ကတ် အနောက်ခြမ်းမှာ ရက်စွဲ ပါပါတယ်။

① 기간　　② 대상

2)
가: ___________ 기간을 연장하려는 사람이 따로 신청을 해요?
စာချုပ် သက်တမ်းတိုးမယ့်သူက သက်သက် လျှောက်ရတာလား။
나: 아니요, 그건 일하는 근무지의 사업주가 신청해요.
မဟုတ်ပါဘူး။ အဲဒါက အလုပ်လုပ်တဲ့ နေရာက အလုပ်ရှင်က လျှောက်ရတာပါ။

① 계약　　② 취업

3)
가: 체류 기간 ___________ 신청은 어디에서 해요?
နေထိုင်ခွင့်ကာလ သက်တမ်းတိုး လျှောက်တာ ဘယ်မှာ လုပ်ရတာလဲ။
나: 출입국 관리소에서 해요. လူဝင်မှုကြီးကြပ်ရေးရုံးမှာ လုပ်ရပါတယ်။

① 연장　　② 취업

4)
가: 체류지 입증 서류에는 어떤 것들이 있어요?
နေရပ်လိပ်စာ သက်သေ စာရွက်စာတမ်းက ဘယ်လိုဟာတွေလဲ။
나: 거주하고 있음을 증빙하는 ___________ 등이 필요해요.
နေထိုင်လျက်ရှိကြောင်း သက်သေဖြစ်တဲ့ အိမ်အငှားစာချုပ် စသည်ဖြင့် လိုအပ်ပါတယ်။

① 임대차 계약서　　② 자진 출국 각서

정답 1. ①-㉢ ②-㉠ ③-㉣ ④-㉡ 2. 1) ① 2) ① 3) ① 4) ①



## 대화 2 စကားပြော ၂

Track 179

သူတို့ နှစ်ယောက်က ဟူအောင်းအကြောင်း ပြောနေကြတာပါ။ ဟူအောင်းက ဘာကြောင့် တရားမဝင်နေထိုင်သူ ဖြစ်သွားလဲဆိုတာ အရင်ဆုံး သူတို့ ပြောနေတာလေးကို နားထောင်ကြည့်လိုက်ပါဦး။

투안 흐엉 씨 이야기 들었어요?
ဟူအောင်း အကြောင်း ကြားပြီးပြီလား။

리한 아니요, 무슨 일 있어요? 오늘 작업장에서 안 보이던데요.
ဟင့်အင်း၊ ဘာဖြစ်လို့လဲ။ ဒီနေ့ အလုပ်မှာလည်း မမြင်မိဘူး။

투안 체류 자격이 문제가 돼서 이것저것 알아보고 다니나 봐요.
နေထိုင်ခွင့် ဗီဇာမှာ ပြဿနာပေါ်လို့ ဟိုဟိုဒီဒီ လိုက်စုံစမ်းနေတယ်ထင်တယ်။

문제가 되다
ပြဿနာဖြစ်သည်

이것저것
ဟိုဟိုဒီဒီ

리한 정말이요? 지난달에 계약 갱신하지 않았어요?
တကယ်လား။ ပြီးခဲ့တဲ့ လက စာချုပ် သက်တမ်းတိုးလိုက်တယ်မဟုတ်ဘူးလား။

투안 네, 계약은 했는데 체류 연장 신청을 따로 안 해서 불법 체류가 됐대요.
ဟုတ်တယ်။ စာချုပ်တော့ ချုပ်ခဲ့ပေမဲ့ နေထိုင်ခွင့် သက်တမ်းတိုးကို သက်သက် မလျှောက်လိုက်လို့ တရားမဝင် နေထိုင်သူ ဖြစ်သွားတယ်တဲ့။

리한 그럼, 흐엉 씨는 귀국해야 하는 거예요?
ဒါဆိုရင် ဟူအောင်းက ပြန်ရတော့မှာလား။

투안 그건 아니고 벌금을 좀 내야 할 것 같다고 해요.
အဲလိုလည်း မဟုတ်ပါဘူး။ ဒဏ်ကြေး နည်းနည်း ဆောင်ရမယ်ထင်တယ်လို့ ပြောတယ်။



ဒီ တစ်ခါတော့ မိမိကိုယ်ကို ထူအန်းနဲ့ ရီဟန်လို့ သဘောထားပြီး စကားပြောကို လိုက်ဆိုကြည့်ပါ။ သေချာ နားထောင်ပြီး လိုက်ဆိုပြီးပြီဆိုရင် အောက်က မေးခွန်းတွေကို ဖြေကြည့်ပါ။

1. 흐엉은 왜 불법 체류자가 되었어요? ဟူအောင်းက ဘာကြောင့် တရားမဝင်နေထိုင်သူ ဖြစ်သွားတာလဲ။
2. 흐엉은 체류 자격이 문제가 돼서 귀국해야 해요?
ဟူအောင်းက နေထိုင်ခွင့်ဗီဇာမှာ ပြဿနာ ပေါ်တော့ ပြန်ရမှာလား။

정답 1. 체류 연장 신청을 따로 안 했어요. 2. 아니요, 벌금을 좀 내야 해요.

## 어휘 2 စကားပြော ၂ 체류 자격 နေထိုင်ခွင့် ဗီဇာ



နေထိုင်ခွင့် ဗီဇာအတွက် အာမခံချက်ကို ဘယ်လို ရနိုင်သလဲ။ နေထိုင်ခွင့် ဗီဇာနဲ့ ဆိုင်တဲ့ စကားလုံးတွေကို ကြည့်ကြရအောင်။


체류 자격
နေထိုင်ခွင့်ဗီဇာ


합법 체류
တရားဝင် နေထိုင်ခြင်း


불법 체류
တရားမဝင် နေထိုင်ခြင်း


체류 자격 외 활동
နေထိုင်ခွင့်ဗီဇာ ပြင်ပမှ အလုပ်



자격을 부여하다
ဗီဇာပေးသည်


자격을 획득하다
ဗီဇာရသည်



자격을 변경하다
ဗီဇာပြောင်းသည်


추방되다
ပြည်နှင်ဒဏ်ပေးခံရသည်



벌금을 내다
ဒဏ်ငွေဆောင်သည်


강제 출국을 당하다
ပြန်ပို့ခံရသည်



자진 출국하다
မိမိဆန္ဒဖြင့် ပြည်တော်ပြန်သည်

### Tip 체류 기간 연장 နေထိုင်ခွင့်ကာလ သက်တမ်းတိုးခြင်း

**체류 기간 연장이란?** နေထိုင်ခွင့်ကာလ သက်တမ်းတိုးခြင်းဆိုသည်မှာ

이전에 허가 받은 체류 기간을 초과하여 계속 대한민국에 체류하고자 하는 외국인은 체류 기간 연장 허가를 받아야 합니다.
ယခင် ခွင့်ပြုချက် ရထားသော နေထိုင်ခွင့်ကာလကို ကျော်လွန်၍ ဆက်လက်၍ ကိုရီးယားနိုင်ငံတွင် နေထိုင်လိုသော နိုင်ငံခြားသားသည် နေထိုင်ခွင့်ကာလ သက်တမ်းတိုးခွင့်ကို လျှောက်ထားရမည်။

**체류 연장 가능 기간** နေထိုင်ခွင့်သက်တမ်းတိုးနိုင်သည့် ကာလ

고용 노동부에서 재고용 확인서를 받아오면 4년 10개월을 초과하지 않는 범위내에서 체류 연장이 가능합니다.
အလုပ်သမားဝန်ကြီးဌာနမှ ထပ်မံ ခန့်အပ်ခွင့် ရရှိလာပါက ၄နှစ်နှင့် ၁၀ လကို မကျော်လွန်စေဘဲ နေထိုင်ခွင့် သက်တမ်းတိုးနိုင်ပါသည်။



အပေါ်က စကားလုံးတွေကို မကြည့်ဘဲ မေးခွန်းတွေကို ဖြေကြည့်ပါ။

1. 그림을 보고 알맞은 말을 연결하세요. ပုံကို ကြည့်ပြီး ကိုက်ညီတဲ့ စကားလုံးနဲ့ ချိတ်ဆက်ပါ။

| | |
|---|---|
| ① | ㉠ 추방되다 |
| ② | ㉡ 벌금을 내다 |
| ③ | ㉢ 자진 출국하다 |
| ④ | ㉣ 강제 출국을 당하다 |

2. 빈칸에 맞는 표현을 골라 대화를 완성하세요.
ကွက်လပ်ထဲ ဖြည့်ရမယ့် စကားလုံးကို ရွေးပြီး စကားပြောကို ပြည့်စုံအောင် ဖြည့်စွက်ပါ။

1) 가: 체류 연장 신고를 어서 해야 하는데. 통 시간이 안 나네요.
နေထိုင်မှု သက်တမ်းတိုး သတင်းပို့တာကို အမြန် လုပ်ရမှာ၊ လုံးဝ အချိန်မရပါလား။
나: 어서 하세요. 체류 기간이 만료되면 ________ 체류가 돼요.
အမြန် လုပ်ပါ။ နေထိုင်မှု ကာလ သက်တမ်းကုန်သွားရင် တရားမဝင်နေထိုင်သူ ဖြစ်သွားမှာ။

① 불법　　② 합법

2) 가: 취업하신 거죠? 증명 서류를 제출해 주세요.
အလုပ်ရပြီမဟုတ်လား။ သက်သေ စာရွက်စာတမ်းတွေ တင်ပေးပါ။
나: 취업 ________를 제출하면 될까요? အလုပ်ဝင်ထောက်ခံချက်ကို တင်ရင် ရလား။

① 신청서　　② 확인서

3) 가: 스스로 신고한 거예요? ကိုယ်တိုင် သတင်းပို့တာလား။
나: 네, ________ 출국을 하면 재입국할 때 도움이 된다고 해서요.
ဟုတ်ကဲ့၊ ကိုယ်ထူကိုယ်ထ ပြည်ကထွက်ခွာရင် ပြည်ပြန်ဝင်တဲ့အခါ အထောက်အပံ့ဖြစ်တယ်ဆိုလို့ပါ။

① 강제　　② 자진

4) 가: 신청 ________이 지나서 신고를 하면 벌금을 내요.
လျှောက်ထားရမယ့် ကာလ ကျော်လွန်ပြီးမှ သတင်းပို့ရင် ဒဏ်ငွေ ဆောင်ရမယ်။
나: 네, 날짜를 기억해야겠네요. ဟုတ်ကဲ့၊ ရက်စွဲကို သေချာ မှတ်ထားရမှာပေါ့နော်။

① 기간　　② 대상

정답 1. ①-㉡ ②-㉠ ③-㉣ ④-㉢ 2. 1) ① 2) ② 3) ② 4) ①



## 활동 အသုံးချသင်ခန်းစာများ

투안 씨의 체류 연장 허가 신청서입니다. 잘 읽고 질문에 답하세요.
ထူအန်းရဲ့ နေထိုင်ခွင့် သက်တမ်းတိုး ခွင့်ပြုချက် လျှောက်လွှာဖြစ်ပါတယ်။ သေချာ ဖတ်ပြီး မေးခွန်းကို ဖြေကြည့်ပါ။

### 신 청 서 (신 고 서)
လျှောက်ထားလွှာ(သတင်းပို့လွှာ)

출입국·외국인 정책 본부
KOREA IMMIGRATION SERVICE

| 업 무 선 택 လျှောက်ထားမှု အကြောင်းအရာ | |
|---|---|
| ① 외국인 등록 နိုင်ငံခြားသားမှတ်ပုံတင်ခြင်း | ☐ |
| ② 등록증 재발급 မှတ်ပုံတင် အသစ်ထုတ်ခြင်း | ☐ |
| ③ 체류기간 연장 허가 နေထိုင်ခွင့်ကာလ သက်တမ်းတိုးခြင်း | ☑ |
| ④ 체류기간 변경 허가 နေထိုင်ခွင့်ကာလ ပြောင်းလဲခြင်း | ☐ |
| ⑤ 체류자격 부여 နေထိုင်ခွင့်ဗီဇာ လျှောက်ထားခြင်း | ☐ |
| 신청기간 လျှောက်ထားသည့်နေ့စွဲ | 2015년 3월 21일 ၂၀၁၅ ခုနှစ် မတ်လ ၂၁ ရက်နေ့ |

| 공용란 အရာရှိ မှတ်ချက် | | | | | | | | |
|---|---|---|---|---|---|---|---|---|
| 기본사항 အခြေခံ အချက်အလက် | 최초 입국일 ကိုရီးယားကို စရောက်တဲ့နေ့ | 2012. 4. 1 | 체류 자격 နေထိုင်ခွင့်ဗီဇာ | E-9 비전문취업 ကာယလုပ်သား | 체류 기간 နေထိုင်ခွင့် ကာလ | 2013. 4. 1 – 2015. 3. 27 ၂၀၁၃.၀၄.၀၁ - ၂၀၁၅.၀၃.၂၇ | | |
| 접수사항 လျှောက်ထားမှု အကြောင်း အချက်များ | 접수 일자 လျှောက်ထား သည့်နေ့ရက် | 2015. 3. 21 | 접수 번호 လျှောက်ထားမှု အမှတ် | 201511010 | 비고 မှတ်ချက် | | | |
| 허가사항 ခွင့်ပြုချက် | 허가 일자 ခွင့်ပြုနေ့စွဲ | 2015. 3. 22 | 허가 번호 ခွင့်ပြုချက် အမှတ် | 310125226 | 체류 자격 နေထိုင်ခွင့် ဗီဇာ | E-9 | 체류 기간 နေထိုင်ခွင့် ကာလ | 1년 10개월 ၁နှစ်နှင့် ၁၀ လ |

| 결제 ငွေပေးသွင်းမှု | 담당 တာဝန်ခံ | 계장 အရာရှိ | 과장 မန်နေဂျာ | 국장 မန်နေဂျာချုပ် | 소장 ဥက္ကဋ္ဌ | |
|---|---|---|---|---|---|---|
| | (stamp) | (stamp) | (stamp) | (stamp) | 가 · 부 | (stamp) |

1. 위 신청서에 대한 설명으로 맞지 않는 것을 고르세요.
   အပေါ်က လျှောက်လွှာထဲက အကြောင်းအရာနဲ့ မတူတာကို ရွေးပါ။

   ① 투안 씨는 체류 기간을 연장하려고 합니다.
   ② 투안 씨는 비전문 취업 비자를 받았습니다.
   ③ 투안 씨는 2015년 4월에 고향에 돌아가야 합니다.
   ④ 투안 씨는 2012년 4월에 한국에 처음 들어왔습니다.

정답 1. ③

# 체류 기간 연장 신청

## နေထိုင်ခွင့် ကာလ သက်တမ်းတိုး လျှောက်ထားခြင်း

### 체류 기간 연장 허가 절차도 နေထိုင်ခွင့် ကာလ သက်တမ်းတိုး ခွင့်ပြုချက် လုပ်ငန်းစဉ် ဇယား




<table>
<tr><th colspan="2">လျှောက်ထားသူ</th><th>လျှောက်ထားရမည့် ကာလ<br>(နေထိုင်ခွင့်သက်တမ်း မကုန်ဆုံးမီအထိ)</th></tr>
<tr><td colspan="2">နေထိုင်ခွင့်ကာလ သက်တမ်းတိုး လျှောက်ထားခြင်း<br>(သက်ဆိုင်ရာ လူဝင်မှုကြီးကြပ်ရေးရုံး သို့မဟုတ် ရုံးခွဲ)</td><td rowspan="4">လိုအပ်သည့် စာရွက်စာတမ်းများ<br><br>- နေထိုင်ခွင့်သက်တမ်းတိုး လျှောက်လွှာ<br>- ပတ်စ်ပို့<br>- နိုင်ငံခြားသားမှတ်ပုံတင်ကတ်(ရှိပြီးသားဖြစ်လျှင်)<br>- နေထိုင်ခွင့်ဗီဇာအလိုက် လိုအပ်သည့် စာရွက်စာတမ်းများ<br>- ဝန်ဆောင်ခ</td></tr>
<tr><th colspan="2">စစ်ဆေးခြင်း</th></tr>
<tr><th>ခွင့်ပြုသည်</th><th>ငြင်းပယ်သည်</th></tr>
<tr><td>- ပတ်စ်ပို့တွင် အလုပ်လိပ်စာပြောင်းခြင်း ထပ်မံခွင့်ပြုကြောင်း စည်းတံဆိပ် ခတ်နှိပ်<br>- နိုင်ငံခြားသားမှတ်ပုံတင်ကတ်တွင် ခွင့်ပြုကြောင်း မှတ်ချက်ရေးသား</td><td>ငြင်းပယ်ရသည့် အကြောင်းရင်း မှတ်ချက်ရေးသား</td></tr>
</table>

### 체류 기간 연장 허가 신청 기간 နေထိုင်ခွင့်သက်တမ်းတိုး လျှောက်ထားရမည့် ကာလ

현재의 체류 기간이 만료하기 전 2개월부터 만료 당일까지 신청하여야 합니다. 체류 기간 만료일이 지난 후 체류 기간 연장 허가를 신청하면 범칙금이 부과됩니다.

နေထိုင်ခွင့် သက်တမ်း မကုန်ဆုံးခင် ၂လအလိုမှစ၍ ကုန်ဆုံးသည့်နေ့အတွင်း လျှောက်ထားရမည်။ နေထိုင်ခွင့်သက်တမ်း ကုန်ဆုံးပြီး နောက်ပိုင်းမှ နေထိုင်ခွင့်ကာလ သက်တမ်းတိုးခွင့် လျှောက်ထားလျှင် ဒဏ်ငွေ ပေးဆောင်ရပါမည်။

### 체류 기간 연장 허가 신청 방법 နေထိုင်ခွင့်သက်တမ်းတိုး လျှောက်ထားနည်း

본인 또는 대리인이 주소지 관할 출입국 사무소에 필요한 서류를 준비하셔서 신청하시면 됩니다. 단, 신청 당일 본인이 국내에 체류하고 있는 경우 신청이 가능합니다.

ကိုယ်တိုင် သို့မဟုတ် ကိုယ်စားလှယ်မှ နေရပ်လိပ်စာရှိ သက်ဆိုင်ရာ လူဝင်မှုကြီးကြပ်ရေးရုံးသို့ လိုအပ်သည့် စာရွက်စာတမ်းများကို ပြင်ဆင်၍ လျှောက်ထားလျှင် ရပါသည်။ သို့သော် လျှောက်ထားသည့်နေ့တွင် ကာယကံရှင်မှ ပြည်တွင်းတွင် ရှိနေမှသာ လျှောက်ထားနိုင်ပါသည်။



မေးခွန်း ၁ ကတော့ စကားပြောကို နားထောင်ပြီး အဖြေမှန်ကို ရွေးပေးရမှာဖြစ်ပါတယ်။ မေးခွန်း ၂ နဲ့ ၃ ကတော့ သူတို့ ပြောနေတဲ့ အကြောင်းအရာကို ဖြေပေးရမှာဖြစ်ပါတယ်။ အသံဖိုင်ကို နားမထောင်ခင် စကားလုံးတွေကို ကြိုဖတ်ထားပါ။

1. 이야기를 듣고 질문에 알맞은 대답을 고르십시오.
အကြောင်းအရာကို နားထောင်ပြီး မေးခွန်းနဲ့ သင့်တော်တဲ့ အဖြေကို ရွေးပါ။

Track 180



여자는 지금 무엇을 하고 있습니까? မိန်းကလေးက အခု ဘာ လုပ်နေသလဲ။

① 외국인 등록 ② 체류 기간 연장
③ 사업장 변경 신청 ④ 재입국 허가 신청

[2~3] 다음을 듣고 무엇에 대한 대화인지 고르십시오.
အောက်ပါတို့ကို နားထောင်ပြီး ဘာအကြောင်းပြောနေတာလဲဆိုတာ ရွေးပါ။

2. ① 신청 기간 ② 신청 대상
③ 체류 기간 ④ 취업 기간

3. ① 강제 출국 ② 불법 체류
③ 자진 출국 ④ 합법 체류



မေးခွန်း ၄ နဲ့ ၅ ကတော့ စကားပြောကို နားထောင်ပြီး အဖြေမှန်ကို ရွေးပေးရမှာဖြစ်ပါတယ်။ စကားပြောကို နားမထောင်ခင် အဖြေတွေကို ကြိုပြီး ဖတ်ကြည့်ပါ။

[4~5] 하나의 이야기를 듣고 두 개의 질문에 대답하십시오.
အကြောင်းအရာ တစ်ပုဒ်ကို နားထောင်ပြီး မေးခွန်း နှစ်ပုဒ်ကို ဖြေပါ။

4. 체류 기간을 연장하려면 어디로 가야 합니까?
နေထိုင်ခွင့်သက်တမ်းတိုးချင်ရင် ဘယ်ကို သွားရမလဲ။

① 공항 ② 고용센터
③ 현지 사무소 ④ 출입국 관리사무소

5. 여자가 이야기하지 않은 것은 무엇입니까?
မိန်းကလေးက ပြောတဲ့ အကြောင်းအရာ မဟုတ်တာကို ရွေးပါ။

① 취업 기간 연장 신청서를 접수해야 해요.
② 허가를 안 받고 일하면 불법 체류가 돼요.
③ 체류 기간을 연장하려면 허가를 받아야 해요.
④ 체류 기간이 만료된 후에도 신청할 수 있어요.

### 듣기 대본 စာသား

1. 여: 여기 체류 기간 연장 허가 신청서하고 여권, 외국인 등록증입니다.
   ဒီမှာ နေထိုင်ခွင့်သက်တမ်းတိုးခွင့် လျှောက်လွှာနဲ့ ပတ်စ်ပို့၊ နိုင်ငံခြားသားမှတ်ပုံတင်ကတ်တွေပါ။

   남: (서류 넘기는 소리, 잠시 후) 네, 접수되셨고요. 심사 후에 연락드리겠습니다.
   (စာရွက်စာတမ်း ပေးသံ၊ ခဏကြာပြီးနောက်)ဟုတ်ကဲ့၊ ဖောင်တင်ပြီးပါပြီ။ စစ်ဆေးပြီးရင် ဆက်သွယ်ပေးပါ့မယ်။

2. 남: 외국인 근로자의 경우 국내에 머무를 수 있는 기간이 3년에서 최대 5년입니다.
   နိုင်ငံခြားသား အလုပ်သမားကတော့ ပြည်တွင်းမှာ နေထိုင်ခွင့်ရှိတဲ့ ကာလက ၃နှစ်ကနေ အများဆုံး ၅နှစ်ဖြစ်ပါတယ်။

3. 여: 체류 기간이 만료하는 등 체류 자격이 없이 머무르고 있는 상태를 이야기합니다.
   နေထိုင်ခွင့်သက်တမ်း ကုန်ဆုံးခြင်း စတဲ့ နေထိုင်ခွင့်ဗီဇာ မရှိဘဲ နေထိုင်နေတဲ့ အခြေအနေမျိုးကို ဆိုလိုတာပါ။

4-5. 남: 체류 기간을 연장하고 싶은데요. နေထိုင်ခွင့်ကာလ သက်တမ်းတိုးချင်လို့ပါ။

   여: 출입국 관리소에서 신고를 해서 허가를 받아야 해요. 취업 기간 연장 신청서를 접수하고 심사를 받으세요. 체류 연장 허가를 안 받고 일하면 불법 체류가 돼서 강제 출국을 당하게 돼요.
   လူဝင်မှုကြီးကြပ်ရေးရုံးကို အကြောင်းကြားပြီး ခွင့်ပြုချက် ရယူရမယ်။ အလုပ်ကာလ သက်တမ်းတိုး လျှောက်လွှာကို တင်ပြီး စစ်ဆေးမှုကို ခံယူပါ။ နေထိုင်ခွင့်သက်တမ်းတိုး ခွင့်ပြုချက်ကို မယူဘဲ အလုပ်လုပ်ရင် တရားမဝင်နေထိုင်သူဖြစ်ပြီး အတင်းအကျပ် ပြန်ပို့ခံရမယ်။

정답 1. ② 2. ③ 3. ② 4. ④ 5. ④



### 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်




1. 질문을 듣고 알맞은 대답을 고르십시오.
   သေချာ နားထောင်ပြီး အဖြေမှန်ကို ရွေးပါ။
   ① 외국인등록증이 있어야 해요.
   ② 출입국관리사무소에 가면 돼요.
   ③ 구직 기간까지 연장할 수 있어요.
   ④ 체류 기간 끝나기 2개월 전에 해야 해요.

2. 다음을 듣고 이어지는 말로 알맞은 것을 고르십시오.
   အောက်ပါတို့ကို သေချာ နားထောင်ပြီး ဆက်ပြောရမယ့် စကားကို ရွေးပါ။
   ① 빨리 비가 오면 좋겠어요.
   ② 며칠 후에 온다고 했어요.
   ③ 태풍 때문에 그런 것 같아요.
   ④ 장마철이 끝나서 그럴 거예요.

### 확장 연습 듣기 대본 ထပ်ဆောင်း လေ့ကျင့်ရန် စာသား

1. 남: 체류 기간을 연장하려면 뭐가 필요한가요? နေထိုင်ခွင့်သက်တမ်း တိုးမယ်ဆိုရင် ဘာလိုလဲ။
2. 여: 비가 그치지 않네요. 오늘도 하루 종일 올 것 같아요.
   မိုးက မတိတ်ဘူးနော်။ ဒီနေ့လည်း တစ်နေကုန် ရွာမယ်ထင်တယ်။

정답 1. ① 2. ③



မေးခွန်း ၁ က ပုံကို ကြည့်ပြီး အဖြေမှန်ကို ရွေးပေးရမှာ ဖြစ်ပါတယ်။ မေးခွန်း ၂ နဲ့ ၃ ကတော့ မှန်ကန်တဲ့ စကားလုံးကို ရွေးပေးရမှာဖြစ်ပြီး သင်ယူထားတဲ့ စကားလုံးတွေကို ပြန်တွေးကြည့်ပြီး မေးခွန်းတွေကို ဖြေပါ။

1. 다음 그림을 보고 맞는 문장을 고르십시오.
အောက်က ပုံကို ကြည့်ပြီး မှန်တဲ့ ဝါကျကို ရွေးပါ။



① 추방됐어요. ② 벌금을 냈어요.
③ 자진 출국했어요. ④ 자격을 변경했어요.

[2~3] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်ထဲ ဖြည့်ရမယ့် အမှန်ဆုံး စကားလုံးကို ရွေးပါ။

2.
외국인 근로자는 체류 자격 외 ________을 하기 전에 반드시 신고를 해야 합니다.
နိုင်ငံခြားသား အလုပ်သမားက နေထိုင်ခွင့်ဗီဇာ ပြင်ပ အလုပ်(လှုပ်ရှားမှု)ကို လုပ်ဖို့အတွက် ဆက်ဆက် အကြောင်းကြားရပါမယ်။

① 고용 ② 신청 ③ 연장 ④ 활동

3.
체류 기간을 ________ 출입국 관리 사무소에 가야합니다.
နေထိုင်ခွင့်သက်တမ်း တိုးချင်ရင် လူဝင်မှုကြီးကြပ်ရေးရုံးကို သွားရပါမယ်။

① 연장하려면 ② 심사하려면 ③ 허가하려면 ④ 추방되려면



မေးခွန်း ၄ နဲ့ ၅ ကတော့ စာပိုဒ်ကို ဖတ်ပြီး သက်တမ်းတိုးခြင်းဆိုင်ရာ မေးခွန်းတွေကို ဖြေပါ။

[4~5] 다음 질문에 답하십시오. အောက်ပါ မေးခွန်းများကို ဖြေပါ။

4.
출입국 사무소에 가면 신청서를 작성, 접수하고 심사를 받습니다. 허가가 되면 외국인 등록증에 허가 사항을 적어 줍니다.
လူဝင်မှုကြီးကြပ်ရေးရုံးကို သွားရင် လျှောက်လွှာဖြည့်ပြီး ဖောင်တင်ပြီး စစ်ဆေးမှုခံယူရပါမယ်။ ခွင့်ပြုချက်ရရင် နိုင်ငံခြားသားမှတ်ပုံတင်ကတ်မှာ ခွင့်ပြုကြောင်း ရေးပေးပါတယ်။

체류 연장 절차가 아닌 것을 고르십시오. နေထိုင်ခွင့်သက်တမ်းတိုး လုပ်ငန်းစဉ် မဟုတ်တဲ့ ဝါကျကို ရွေးပါ။
① 심사를 받아요. ② 신청서를 작성해요.
③ 신청서를 접수해요. ④ 등록증 허가를 받아요.

5.
체류 기간을 연장하려면 체류 기간 만료일 전까지 체류 기간 연장 허가 신청서, 여권, 외국인 등록증, 수수료를 준비해서 가야 합니다.
နေထိုင်ခွင့်သက်တမ်းတိုးချင်ရင် နေထိုင်ခွင့်ကာလ မကုန်ဆုံးခင်အထိ နေထိုင်ခွင့်သက်တမ်းတိုးခွင့် လျှောက်လွှာ၊ ပတ်စ်ပို့၊ နိုင်ငံခြားသားမှတ်ပုံတင်ကတ်၊ ဝန်ဆောင်ခ စသည်တို့ကို ပြင်ဆင်ပြီး သွားရပါမယ်။

위의 내용과 맞지 않는 것을 고르십시오. အပေါ်က အကြောင်းအရာနဲ့ မတူတာကို ရွေးပါ။
① 수수료가 듭니다. ② 외국인 등록증이 필요합니다.
③ 체류 기간 연장에 대한 설명입니다. ④ 신청 기간은 만료일 다음날까지입니다.

정답 1. ① 2. ④ 3. ① 4. ④ 5. ④



## 확장 연습 ထပ်ဆောင်း လေ့ကျင့်ရန်

[1~3] 빈칸에 들어갈 가장 알맞은 것을 고르십시오.
ကွက်လပ်မှာ ဖြည့်ရမယ့် အသင့်တော်ဆုံး စကားကို ရွေးပါ။

1. 저는 한국에서 눈을 처음 봤습니다. 우리 고향은 일년 내내 ________ 눈이 오지 않기 때문입니다.
ကျွန်တော်ကတော့ ကိုရီးယားမှာ နှင်းကို ပထမဦးဆုံး တွေ့ဖူးခဲ့ပါတယ်။ ကျွန်တော်တို့ ဇာတိကတော့ တစ်နှစ်ပတ်လုံး နွေးပြီးတော့ နှင်းမကျတဲ့အတွက်ကြောင့်ပါ။

① 흐려서　② 넓어서　③ 따뜻해서　④ 깨끗해서

2. 요즘 자동차 정비 교육을 받고 있습니다. ________ 고향에 돌아가서 직장을 구할 때 도움이 될 것 같습니다.
အခုတလော ကားပြင်သင်တန်း တက်နေပါတယ်။ နောက်ပိုင်းကျရင် ဇာတိကို ပြန်ပြီး အလုပ်ရှာတဲ့အခါ အထောက်အပံ့ဖြစ်မယ်ထင်ပါတယ်။

① 별로　② 벌써　③ 깨끗이　④ 나중에

3. 이 작업 도구는 편리하기는 하지만 사용할 때 조금 위험합니다. 그래서 항상 ________ 주의해야 합니다.
ဒီ အလုပ်သုံးပစ္စည်းဟာ အဆင်တော့ ပြေပေမဲ့ သုံးတဲ့အခါ နည်းနည်း အန္တရာယ် များပါတယ်။ ဒါကြောင့်မို့ အမြဲ မထိခိုက်ရအောင် သတိထားရပါတယ်။

① 다치지 않도록　② 다치지 않으면
③ 아프지 않도록　④ 아프지 않으면

정답 1. ③ 2. ④ 3. ①



# 59 산업 안전 I
လုပ်ငန်းခွင်တွင်း ဘေးကင်းလုံခြုံမှု ၁

**학습 안내**
သင်ရိုး အညွှန်း

□ **သင်ခန်းစာ ရည်ရွယ်ချက်**
စက်မှုလုပ်ငန်းသုံး သတိပြုရန် ဆောင်ပုဒ်များနှင့် အကျွမ်းတဝင်ဖြစ်စေရန်၊
ကုန်ပစ္စည်းထုတ်လုပ်မှုဆိုင်ရာ လိုက်နာရန် စည်းမျဉ်းများနှင့် အကျွမ်းတဝင်
ဖြစ်စေရန်။
□ **ဝေါဟာရ** စက်မှုလုပ်ငန်းသုံး သတိပြုရန် ဆောင်ပုဒ်များ၊
ကုန်ပစ္စည်းထုတ်လုပ်မှုဆိုင်ရာ လိုက်နာရန် စည်းမျဉ်းများ
□ **သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** အလုပ်ရောဂါ

## 어휘 1 ဝေါဟာရ ၁ — 산업 안전 표지 စက်မှုလုပ်ငန်းသုံး သတိပြုရန် ဆောင်ပုဒ်များ



ဒါကတော့ စက်မှုလုပ်ငန်းသုံး သတိပြုရန် ဆောင်ပုဒ်တွေပါ။ ဘာတွေရှိလဲဆိုတာ လေ့လာကြည့်ရအောင်။


출입금지
အဝင်အထွက် မပြုရ


보행금지
ဖြတ်သန်းသွားလာခြင်း မပြုရ


금연
ဆေးလိပ်မသောက်ရ


화기금지
မီးမသုံးရ


인화성 물질 경고
လောင်ကျွမ်းလွယ်သော ပစ္စည်း သတိပြု


산화성 물질 경고
ဓာတ်ပြုလွယ်သော ပစ္စည်း သတိပြု


폭발성 물질 경고
ပေါက်ကွဲလွယ်သော ပစ္စည်း သတိပြု


급성독 물질 경고
အဆိပ်သင့်စေနိုင်သော ပစ္စည်း သတိပြု


방사성 물질 경고
ရေဒီယိုသတ္တိကြွ ပစ္စည်း သတိပြု


고압 전기 경고
ဗို့အားမြင့် လျှပ်စစ် သတိပြု


매달린 물체 경고
ချိတ်ဆွဲပစ္စည်း သတိပြု


낙하물 경고
ပြုတ်ကျပစ္စည်း သတိပြု


고온 경고
သတိ!အပူချိန်မြင့်သည်


저온 경고
သတိ!အပူချိန်နိမ့်သည်


몸균형 상실 경고
သတိ၊ ခန္ဓာကိုယ် ဟန်ချက်ထိန်းရန်


위험 장소 경고
သတိ၊ အန္တရာယ်များသော နေရာ




## 어휘 2 ဝေါဟာရ ၂ 제조업 관련 안전 수칙 ကုန်ပစ္စည်းထုတ်လုပ်မှုဆိုင်ရာ လိုက်နာရန် စည်းမျဉ်းများ



ဒါကတော့ ကုန်ပစ္စည်းထုတ်လုပ်မှုဆိုင်ရာ လိုက်နာရန် စည်းမျဉ်းတွေပါ။ ဘာတွေရှိလဲဆိုတာ လေ့လာကြည့်ရအောင်။

### 끼임 재해 ညှပ်မိခြင်း ထိခိုက်မှု

(1) 직선운동 중인 설비, 기계 사이에 끼임
ဖိစက်များ၊ ညှပ်စက်များ ကြားတွင် လက်ညှပ်ခြင်း




(2) 회전부와 고정물체 사이에 끼임
လည်နေသောစက်နှင့် ပစ္စည်း ခွင်ကျအောင် ချသော စက်များကြား လက်ညှပ်ခြင်း




(3) 두 회전체의 물림점에 끼임
လည်နေသော စက်သွားဘီးများနှင့် စက်သီးများကြား လက်ညှပ်ခြင်း




(4) 회전체 및 돌기부에 감김
လည်နေသော ချိန်းကြိုးများကြား ညှပ်မိခြင်း






(5) 인력 운반, 취급 중인 물체에 끼임
လေးပင်သော ပစ္စည်းများ မ-ရာတွင် သို့မဟုတ် စက်ဖြင့် သယ်ဆောင်နေစဉ် ပစ္စည်းများကြား ညှပ်မိခြင်း





## 넘어짐 재해 ပြုတ်ကျခြင်း ထိခိုက်မှု

(1) 계단, 사다리에서 넘어짐 လှေကား၊ ခြေတံရှည် လှေကားပေါ်မှ ပြုတ်ကျခြင်း





(2) 바닥에서 미끄러짐, 바닥의 돌출물 등에 걸려 넘어짐
ကြမ်းပြင်ပေါ်တွင် ချော်လဲခြင်း၊ ခလုတ်တိုက် လဲကျခြင်း





(3) 운송수단, 설비에서 넘어짐 ပို့ဆောင်ရေး စက်ကိရိယာများပေါ်မှ လဲကျခြင်း





(4) 물체의 넘어짐 လူပေါ် ပစ္စည်းပြုတ်ကျခြင်း





## 부딪힘 재해 တိုက်မိခြင်း ထိခိုက်မှု

### (1) 사람에 의한 부딪힘
လူချင်း တိုက်မိခြင်း



### (2) 고속 회전체 등에 부딪힘
အရှိန်ပြင်းသော လည်စက်ဖြင့် တိုက်မိခြင်း



### (3) 바닥에서 구르는 물체에 부딪힘
ကြမ်းပြင်တွင် လိမ့်လာသော ပစ္စည်းဖြင့် တိုက်မိခြင်း



### (4) 흔들리는 물체에 부딪힘
လှုပ်ရှားနေသော ပစ္စည်းဖြင့် တိုက်မိခြင်း



### (5) 취급사용 물체에 부딪힘
ကိုင်တွယ်နေသော ပစ္စည်းဖြင့် တိုက်မိခြင်း



### (6) 차량 등과의 부딪힘
ကား စသော ယာဉ်များဖြင့် တိုက်မိခြင်း



## 맞음 재해 ထိမှန်ခံရခြင်း ထိခိုက်မှု

### (1) 중량물 운반 시 맞음 လေးလံသော ပစ္စည်းများ သယ်ယူရာတွင် ထိမှန်ခံရခြင်း





### (2) 연삭기, 선반, 원심기 가공물에 맞음

အရှောကိုင်စက်၊ စင်ပေါ်၊ လှည့်စက်ပေါ်မှ လွင့်စင်လာသော ပစ္စည်းများ ထိမှန်ခံရခြင်း







### (3) 내압을 받는 용기부품에 맞음

အတွင်းမှ ဖိအားကြောင့် လွင့်စင်လာသော စက်အပိုပစ္စည်းများ ထိမှန်ခံရခြင်း



### (4) 보관된 부품에 맞음

သိုလှောင် ပစ္စည်းများ ပြုတ်ကျ၍ ထိမှန်ခံရခြင်း



## 기타 재해 အခြား ထိခိုက်မှုများ

(1) 고온, 고압 물이 비산
အပူချိန်မြင့်၊ ဖိအားမြင့် အရည်များ
ဖိတ်စင်ခြင်း



(2) 교류아크용접 작업 중 감전
ဗို့အားများသော စက်ဖြင့် ဂဟေဆော်နေစဉ်
ဓာတ်လိုက်ခြင်း



(3) 지붕수리 중 떨어짐
ခေါင်မိုးပြင်ရာမှ ပြုတ်ကျခြင်း



(4) 저장탱크 주유 중 화재
သိုလှောင်ကန် ဆီဖြည့်စဉ် မီးလောင်ခြင်း



(5) 에어조끼에 화상
လေဖောင်းအင်္ကျီမှတစ်ဆင့် မီးလောင်ဒဏ်ရာရခြင်း



(6) 연료통 절단 중 폭발
ဆီ၊ ဓာတ်ငွေ့ပုံး ဖြတ်ရာမှတစ်ဆင့်
ပေါက်ကွဲမှု ဖြစ်ပွားခြင်း



http://www.slideshare.net/iglassbox/safety-education-for-migrant-workers-in-koreaeng 참고함.





# 직업병

## အလုပ်ရောဂါ

### 직업병이란? အလုပ်ရောဂါဆိုတာ...

직업성 질환은 근로자의 질병이 "직업에 의하여 발생한 것"을 말합니다. 직업성 질환은 작업에서 노출되는 유해 인자에 의해 발생되는 전형적인 직업병과 비직업적 요인에 의해서도 발생되지만 직업적 요인에 의해 악화되는 작업 관련성 질환으로 구분됩니다.



အလုပ်ရောဂါဆိုတာကတော့ အလုပ်သမားရဲ့ ရောဂါက "အလုပ်ကြောင့်ဖြစ်လာတာ"ဆိုတဲ့ အဓိပ္ပါယ်ဖြစ်ပါတယ်။ အလုပ်ကြောင့်ဖြစ်တဲ့ ရောဂါတွေမှာ အလုပ်ခွင်မှာရှိနေတဲ့ ဘေးဖြစ်စေနိုင်တဲ့ ဓာတ်သတ္တုတွေကြောင့် ဖြစ်ပွားလာတဲ့ ရောဂါမျိုးနဲ့ အလုပ်ခွင်မှမဟုတ်သော အကြောင်းရင်းကြောင့် ဖြစ်ပွားခဲ့တဲ့ ရောဂါက အလုပ်ကြောင့် ပိုပြီး ဆိုးရွားလာတဲ့ အလုပ်နဲ့သက်ဆိုင်တဲ့ ရောဂါဆိုပြီး ခွဲခြားထားပါတယ်။

### 소음성 난청 ဆူညံသံကြောင့် ဖြစ်ပွားသော နားမကြားခြင်း

소음에 계속 노출되는 경우 영구적으로 청력이 손실되는 소음성 난청이 발생할 수도 있습니다. 또한 이명, 스트레스 증가, 면역체계 변화 등이 발생하여 작업 능률이 저하되거나 작업 중 부주의에 의한 사고를 유발할 수도 있습니다.



ဆူညံသံတွေထဲမှာ ဆက်တိုက် နေရတဲ့အခါ အကြားအာရုံက လုံးဝ ပျက်စီးသွားပြီး ဆူညံသံကြောင့်နားမကြားခြင်း ဖြစ်ပွားနိုင်ပါတယ်။ နောက်ပြီး နားအူခြင်း၊ စိတ်ဖိစီးမှု များလာခြင်း၊ ခုခံအားပြောင်းလဲခြင်း စတာတွေလည်း ဖြစ်လာနိုင်ပြီး အလုပ်လုပ်နိုင်စွမ်း ကျဆင်းခြင်း သို့မဟုတ် အလုပ်ခွင်အတွင်း သတိမမူမိခြင်းကြောင့် မတော်တဆမှုများလည်း ဖြစ်ပွားနိုင်ပါတယ်။

### 방사선에 의한 건강 장해 ရေဒီယိုသတ္တိကြွ အကာမြူ ရောင်ခြည်ကြောင့် ကျန်းမာရေး ဆိုးဝါးလာခြင်း

방사선에는 발생 에너지가 물체를 이온화시킬 수 있는 전리 방사선과 에너지 수준은 낮으나 지속적이며 반복적인 노출에 의해 건강상 나쁜 영향을 발생할 수 있는 비전리 방사선이 있습니다. 전리 방사선 노출에 의한 장해로는 백혈병, 갑상선암, 유방암, 폐암, 뼈암, 피부암 등이 있습니다.



ရေဒီယိုသတ္တိကြွ အကာမြူရောင်ခြည်ထဲမှာ ရုပ်ဝတ္ထုကို ဒြပ်ပြောင်းစေတဲ့ အားမြင့်ဒြပ်ပြောင်းအကာမြူနဲ့ စွမ်းအင်နည်းပေမဲ့ ဆက်တိုက် ထပ်ခါထပ်ခါ ထိတွေ့ရင် ကျန်းမာရေးကို ထိခိုက်စေနိုင်တဲ့ အားနိမ့်အကာမြူဆိုပြီး ရှိပါတယ်။ အားမြင့်အကာမြူကြောင့် ဖြစ်ပွားနိုင်တဲ့ ရောဂါတွေကတော့ သွေးကင်ဆာ၊ လည်ကျိတ်ကင်ဆာ၊ ရင်သားကင်ဆာ၊ အဆုတ်ကင်ဆာ၊ အရိုးကင်ဆာ၊ အရေပြားကင်ဆာ စသည်ဖြင့် ရှိပါတယ်။

# 60 산업 안전 II

လုပ်ငန်းခွင်တွင်း ဘေးကင်းလုံခြုံမှု ၂

**학습 안내**
သင်ရိုး အညွှန်း

- ☐**သင်ခန်းစာ ရည်ရွယ်ချက်**
  ဆောက်လုပ်ရေးလုပ်ငန်းဆိုင်ရာ လိုက်နာရန် စည်းမျဉ်းများနှင့် အကျွမ်းတဝင် ဖြစ်စေရန်
- ☐**ဝေါဟာရ** ဆောက်လုပ်ရေးလုပ်ငန်းဆိုင်ရာ လိုက်နာရန် စည်းမျဉ်းများ
- ☐**သတင်းအချက်အလက်နှင့် ယဉ်ကျေးမှု** အလုပ်ရောဂါ ကာကွယ်ရေး

## 어휘 1 ဝေါဟာရ ၁

**건축업 관련 안전 수칙** ဆောက်လုပ်ရေးလုပ်ငန်းဆိုင်ရာ လိုက်နာရန် စည်းမျဉ်းများ

ဆောက်လုပ်ရေးလုပ်ငန်းဆိုင်ရာ လိုက်နာရန် စည်းမျဉ်းတွေ ဘာတွေရှိလဲ ကြည့်ရအောင်။ ကွန်ကရစ်မှို ဆောက်လုပ်ခြင်း၊ ငြမ်းဆင်ခြင်း၊ သံတိုင် တပ်ဆင်ခြင်း၊ ကွန်ကရစ်လောင်းခြင်း၊ သံဘောင် တပ်ဆင်ခြင်း၊ အုတ်စီခြင်း၊ ဘိလပ်မြေကိုင်ခြင်းနှင့် ဆေးသုတ်ခြင်းတွေ ပြုလုပ်ရာမှာ ဘယ်လို သတိပြုစရာတွေ ရှိလဲဆိုတာ လေ့လာကြည့်ရအောင်။

### 거푸집 작업 ကွန်ကရစ်မှို ဆောက်လုပ်ခြင်း



## 갱폼 작업 ငြမ်းဆင်မှု



양중기의 인양 능력 대비 갱폼의 중량에 대한 안전성은 사전에 검토되어 있는가?
ငြမ်းဆင်ကရိန်းရဲ့ သယ်ဆောင်နိုင်စွမ်းနဲ့ ငြမ်းရဲ့ ဝန်မှုမှုအတွက် လုံခြုံရေးကို ကြိုတင်စစ်ဆေးထားမှု ရှိပါသလား။
갱폼에 대한 구조적인 안정성은 확보되어 있는가?
ငြမ်းရဲ့ တည်ဆောက်မှု ပုံစံနဲ့ ပတ်သက်ပြီး ငြိမ်သက်မှု ရရှိအောင် ဆောင်ရွက်ထားပါသလား။
강풍 등 외력에 대하여 충분히 안전한가?
လေပြင်းတိုက်ခတ်မှု စသော ပြင်ပဖိအားများမှ လုံလောက်စွာ ကင်းဝေးမှု ရှိပါသလား။
작업 방법 및 작업 순서는 준수하고 있는가?
ဆောက်လုပ်ရေးနည်းလမ်းနဲ့ အစီအစဉ်ကို လိုက်နာခြင်း ရှိပါသလား။
갱폼 내외부 진·출입 통로는 확보되어 있는가?
ငြမ်းရဲ့ အတွင်း၊ အပြင်၊ အဝင်၊ အထွက် လမ်းကို သေချာ ဖယ်ထားပါသလား။
신호수는 배치되어 있는가?
အချက်ပြသမား နေရာချထားပါသလား။
양중기에 고정시킨 상태에서 설치 · 해체 작업이 이루어지고 있는가?
ငြမ်းဆင်ကရိန်းမှာအသေနေရာချထားပြီးမှ တပ်တဲ့ ဖြုတ်တဲ့ အလုပ်ကို လုပ်နေတာ ဟုတ်ပါသလား။
갱폼 안전 조치
– 단부 안전난간 설치
– 수직 보호망 설치
– 진 · 출입 통로 확보
– 갱폼간 연결 통로 및 수직 사다리 설치
ငြမ်းနှင့် ပတ်သက်သော ဘေးကင်း စည်းမျဉ်းများ
- လက်ရန်း တပ်ဆင်ခြင်း
- ပိုက်ဇကာအရှည် တပ်ဆင်ခြင်း
- အဝင်အထွက်လမ်း ဖယ်ထားခြင်း
- ငြမ်း တစ်ခုနဲ့ တစ်ခုကြား သွားလမ်းများ၊ လှေကားရှည်များ တပ်ဆင်ခြင်း



철근 작업 သံတိုင် တပ်ဆင်ခြင်း
근로자는 개인보호구를 바르게 착용하고 있는가? လုပ်သားများ အသက်ကယ်ခါးပတ်ကြိုး သေချာ ဝတ်ဆင်ထားခြင်း ရှိပါသလား။
작업 발판은 안전한 구조로 견고하게 설치되어 있는가?
- 안전 난간 설치
- 작업 발판 설치
- 발끝막이판 설치 철근의 전도 방지 위험은 없는가?
အလုပ်ခွင် ကြမ်းခင်းကို ခေါးကင်းတဲ့ ပုံစံနဲ့ ခိုင်ခိုင်မာမာ တပ်ဆင်ထားပါသလား။
- လက်ရန်း တပ်ဆင်မှု
- ကြမ်းခင်း တပ်ဆင်မှု
- ခြေနင်းပြား တပ်ဆင်မှု၊
- သံတိုင် လွင့်စင်ခြင်း ကာကွယ်မှု၊ အန္တရာယ် ရှိမရှိ
작업장 주변의 정리정돈 상태는 양호한가? သံတိုင်ဖြင့် ထိုးမိခြင်း အန္တရာယ် ရှိနိုင်ပါသလား။
철근의 넘어짐 방지 위험은 없는가? သံတိုင်များ ပြိုကျမှု ကာကွယ်ရန် အတွက် အန္တရာယ် ရှိနိုင်ပါသလား။
철근에 찔릴 위험은 없는가? သံတိုင်ဖြင့် ထိုးမိခြင်း အန္တရာယ် ရှိနိုင်ပါသလား။
작업 발판 없이 철근에 매달려 작업을 하고 있지는 않는가? ခြေနင်းပြား မရှိဘဲ သံတိုင်မှာ တွဲလောင်းခိုပြီး အလုပ်လုပ်နေတာမျိုး ရှိပါသလား။
철근 조립 작업 장소까지 철근 운반 방법은 안전한가? သံတိုင် တပ်ဆင်ရာ လုပ်ငန်းခွင်ထိ သံတိုင် ပို့ဆောင်သော နည်းလမ်းမှာ အန္တရာယ်ကင်းမှု ရှိပါသလား။
철근 가공 작업 중 철근 절단기 또는 절곡기와 관련하여 재해 위험은 없는가? သံတိုင်ပြုလုပ်ရာမှာ သံဖြတ်စက် သို့မဟုတ် သံကွေးစက်နဲ့ ပတ်သက်တဲ့ ထိခိုက်မှုမျိုး ရှိနိုင်ပါသလား။
작업 발판은 밀실하게 설치되어 있는가? အလုပ်ခွင် ကြမ်းခင်းကို ခပ်စိပ်စိပ် ခင်းကျင်း တပ်ဆင်ထားမှု ရှိပါသလား။

## 콘크리트 ကွန်ကရစ်

콘크리트 타설 배관 경로는 적정하며 안전한가?
ကွန်ကရစ် လောင်းသော ပိုက်လိုင်း တည်ရှိရာ နေရာမှာ သင့်တော်ပြီး အန္တရာယ်ကင်းမှု ရှိပါသလား။

고압 가공 전선에 접촉될 위험은 없는가?
ဗို့အားပြင်း လျှပ်စစ်ကြိုးဖြင့် ထိမိနိုင်သော အန္တရာယ် ရှိပါသလား။

벽체-기둥-보-슬래브-거푸집 동바리 조립도에 의해 조립되었으며 콘크리트 타설 시 이상 유무를 감시하고 있는가?
နံရံ၊ တိုင်၊ ထုပ်တန်း၊ အမိုး၊ ကွန်ကရစ် မို သစ်သားတိုင်များ ဆောက်လုပ်ရာတွင် ပုံကြမ်းနဲ့ အညီ ဆောက်လုပ်ထားပြီး ကွန်ကရစ် လောင်းရာမှာ လွဲမှားနိုင်ခြေ ရှိမရှိကို သေချာ ကြီးကြပ်နေမှု ရှိပါသလား။

콘크리트 타설 중 비산물이 발생되고 있지는 않는가?
ကွန်ကရစ်လောင်းရာမှာ အလေအလွင့်များ ဖြစ်ပေါ်နေမှု ရှိပါသလား။

근로자는 올바르게 개인 보호구를 착용하고 있는가?
လုပ်သားများ မိမိကိုယ်ကို ကာကွယ်ရန် အသက်ကယ် ခါးပတ်ကြိုးများကို မှန်ကန်စွာ ဝတ်ဆင်ထားခြင်း ရှိပါသလား။

설치신호수는 배치되어 있는가?
အချက်ပြသမား နေရာချထားခြင်း ရှိပါသလား။

콘크리트 펌프카의 넘어짐 위험은 없는가?
- 지반 침해방지
- 아웃리거
ကွန်ကရစ်သယ်ဆောင်ထားသော ယာဉ် တိမ်းမှောက်နိုင်သည့် အန္တရာယ် ရှိပါသလား။
- မြေထဲနိမ့်ဝင်ခြင်းကို ကာကွယ်ခြင်း
- ထောက်တိုင် တပ်ဆင်ခြင်း

거푸집 동바리 조립도에 의해 조립되었으며 콘크리트 타설 시 이상 유무를 감시하고 있는가?
- 감시자 배치
ကွန်ကရစ် မို သစ်သားတိုင်များ ဆောက်လုပ်ရာတွင် ပုံကြမ်းနဲ့ အညီ ဆောက်လုပ်ထားပြီး ကွန်ကရစ် လောင်းရာတွင် လွဲမှားနိုင်ခြေ ရှိမရှိကို သေချာ ကြီးကြပ်နေပါသလား။
- ကြီးကြပ်သူ ချထားရန်

## 철골 작업 သံဘောင် တပ်ဆင်မှု

철골 부재의 인양 와이어로프 상태는 양호한가?
သံဘောင်များ ရွှေ့ရာတွင် သုံးသော ဝါယာကြိုး အနေအထား ကောင်းမွန်မှု ရှိပါသလား။

중량물의 중량이 인양 장비의 인양 능력 범위 내에 있는가?
သယ်ယူပစ္စည်း အလေးချိန်က မစက်ရဲ့ သယ်ယူနိုင်သော အလေးချိန် အတွင်းမှာ ရှိနေပါသလား။
- 안전율 5 이상
  ဘေးကင်းမှုနှုန်း ၅နဲ့ အထက်

근로자는 안전대를 착용하고 부착 설비에 부착하고 있는가?
လုပ်သားများ အသက်ကယ် ခါးပတ်ကြိုးများ ဝတ်ဆင်ပြီး ကိရိယာများ သေချာ တပ်ဆင်ထားခြင်း ရှိပါသလား။

근로자의 이동 통로는 확보되어 있는가?
လုပ်သားများ လှုပ်ရှား သွားလာနိုင်ရန် လမ်း သီးသန့် ဖယ်ထားပါသလား။

인양된 철골 부재 가조립 후에 인양 로프를 해체하고 있는가?
မတင်လာတဲ့ သံမဏိဖရိမ်များကို တပ်ဆင်ပြီးတဲ့အခါ ကရိန်းကြိုး ဖြုတ်ထားခြင်း ရှိပါသလား။

낙하물 발생 위험은 없는가?
ပစ္စည်းများ ပြုတ်ကျမှု အန္တရာယ် ရှိနိုင်ပါသလား။

근로자의 떨어짐 방지 조치는 적정한가?
လုပ်သားများ ပြုတ်ကျခြင်းမှ ကာကွယ်နိုင်ရန် ပြင်ဆင်မှုများ လုံလောက်ပါသလား။

승강 설비는 설치되어 있는가?
အဆင်းအတက် ယာဉ်များ တပ်ဆင်ထားပါသလား။

작업장 하부에 다른 작업이 진행되고 있지는 않는가?
လုပ်ငန်းခွင် အောက်ပိုင်းမှာ အခြား လုပ်ငန်းများ လုပ်ဆောင်နေမှု ရှိပါသလား။

철골 작업장 하부에 높이 10m 이내마다 추락 방지망이 설치되어 있는가?
သံဘောင် တပ်ဆင်ရာ အောက်ဘက် ၁၀မီတာ အမြင့်တိုင်းမှာ ပြုတ်ကျမှု ကာကွယ်တဲ့ ပိုက်ကွန်များ တပ်ဆင်ထားပါသလား။

## 조정 및 미장(견출) 작업 အုတ်စီခြင်းနှင့် ဘိလပ်မြေကိုင်ခြင်း



## 도장 작업 ဆေးသုတ်ခြင်း



근로자의 떨어짐 방지 조치는 적정한가? - 구명줄 설치 - 안전대 착용
လုပ်သားများ ပြုတ်ကျမှုမှ ကာကွယ် ပြင်ဆင်မှုများ သင့်တင့်မှု ရှိပါသလား။ - အသက်ကယ်ကြိုး တပ်ဆင်မှု - အသက်ကယ် ခါးပတ်ကြိုး ဝတ်ဆင်မှု
달기로프가 풀리거나 파손될 위험은 없는가?
ချည်ထားသော ကြိုးများ ပြေခြင်း၊ ပျက်စီးခြင်း အန္တရာယ် ရှိပါသလား။
신호수 또는 감시원은 배치되어 있는가?
အချက်ပြသမားနှင့် ကြီးကြပ်သူများ နေရာချထားခြင်း ရှိပါသလား။
작업 공구 및 재료에 의한 맞음 위험은 없는가?
လုပ်ငန်းသုံး ကိရိယာများနှင့် ပစ္စည်းများ ထိမှန်ခံရခြင်း အန္တရာယ် ရှိနိုင်ပါသလား။
작업 근로자는 안전대를 올바르게 구명줄에 착용하고 있는가?
လုပ်သားများ အသက်ကယ် ခါးပတ်ကြိုးကို မှန်ကန်စွာ အသက်ကယ်ကြိုးဖြင့် တပ်ဆင်ထားခြင်း ရှိပါသလား။
위험구역내 외부 근로자의 통제는 적절히 이루어지고 있는가?
အန္တရာယ်ဇုန်အတွင်း ပြင်ပလုပ်သား ဝင်ရောက်ခြင်း ထိန်းချုပ်မှုကို သင့်တင့်စွာ ဆောင်ရွက်နေပါသလား။
도장재료의 비산대비 하부의 안전 조치는 적절한가?
ဆေးသုတ်စဉ် လွင့်စင်မှုအတွက် အောက်ဘက်ရှိ ကာကွယ်မှု အပြင်အဆင်များ သင့်တင့်ပါသလား။
달기로프의 길이는 지면까지 닿을 만큼 충분한가?
ချည်ထားသော ကြိုးအရှည်က မြေပေါ် ကျနိုင်တဲ့အထိ လုံလောက်ပါသလား။

# 직업병 예방

## အလုပ်ရောဂါ ကာကွယ်မှု



화학물질을 취급하는 경우 불침투성 고무장갑이나 보호의 등 개인용 보호구를 착용하고, 직접 손으로 만지거나 피부에 닿지 않도록 주의합니다.
ဓာတုဗေဒပစ္စည်းများကို ကိုင်တွယ်ရတဲ့ အခါမှာ ဖောက်ထွင်းဖို့ ခက်ခဲတဲ့ ရော်ဘာလက်အိတ်တွေ ဝတ်စုံတွေ စတဲ့ အကာအကွယ်များ ဝတ်ဆင်ပြီး လက်နဲ့ တိုက်ရိုက် ကိုင်တာမျိုးလို အရေပြားကို ထိတာမျိုး မဖြစ်စေဖို့ ဂရုစိုက်ရပါမယ်။

공기중으로 발생하는 화학 물질의 양을 최소화하도록 환기 장치를 설치하고, 가동한 상태에서 작업합니다.
လေထုထဲမှာ ပေါ်ပေါက်တဲ့ ဓာတုဗေဒပစ္စည်း ပမာဏကို လျှော့ချဖို့အတွက် လေဝင်လေထွက်ကောင်းစေတဲ့ စက်များ တပ်ဆင်ပြီး စက်များ ဖွင့်ထားလျက် အလုပ်လုပ်ရပါမယ်။

화학물질의 유해, 위험성과 취급상의 주의사항에 대한 교육을 받은 후 작업을 실시합니다.
ဓာတုဗေဒပစ္စည်းရဲ့ ထိခိုက်အန္တရာယ် ဖြစ်စေနိုင်မှုနဲ့ ကိုင်တွယ်ရာတွင် ဂရုပြုရန်များကို သင်တန်းပို့ချမှု ရယူပြီးမှ အလုပ်စရပါမယ်။

취급하는 화학 물질에 적합한 호흡용 보호구를 착용하고 작업합니다.
မိမိ ကိုင်တွယ်ရာ ဓာတုဗေဒပစ္စည်းနှင့် သင့်လျော်သော အသက်ရှူ မျက်နှာဖုံးကို တပ်ဆင်ပြီး အလုပ်လုပ်ရပါမယ်။

화학 물질 취급 작업장 내부에서 음료 또는 음식물을 섭취하거나 흡연을 하여서는 안 됩니다.
ဓာတုဗေဒပစ္စည်း ကိုင်တွယ်ရာ အလုပ်ခွင်တွင်းသို့ အချိုရည်နှင့် စားစရာများ စားသုံးခြင်း၊ ဆေးလိပ်သောက်ခြင်းများ မပြုလုပ်ရပါ။

작업장에 배치되기 전과 후에 건강진단을 받습니다.
အလုပ်ခွင်တွင်း လုပ်ငန်းချထား မပေးမီနှင့် ပြီးချိန်တို့မှာ ဆေးစစ်ခြင်းများ ပြုလုပ်ရပါမယ်။

작업에 의한 질병으로 의심되는 증상이 생긴 경우 즉시 병원에 가거나 인근 이주 노동자 지원센터에 가서 상담합니다.
အလုပ်ကြောင့် ရရှိတဲ့ ရောဂါလို့ သံသယရှိတဲ့ လက္ခဏာများ ပေါ်လာတဲ့အခါ ချက်ချင်း ဆေးရုံကို သွားတာမျိုး၊ နီးစပ်ရာ ရွှေ့ပြောင်းလုပ်သားထောက်ပံ့ရေးစင်တာတွေကို သွားပြီး တိုင်ပင်ဆွေးနွေးတာမျိုး ပြုလုပ်ရပါမယ်။

## ㄱ





## ㄴ



## ㄷ





ㅅ

## ㅈ





## ㅊ

## 1. '—' 불규칙 '—' ဖြင့် ဆုံးသော ကြိယာစကားလုံးများ

| | 번역 အဓိပ္ပါယ် | -ㅂ/습니다 | -아/어요 | -았/었어요 | -고 | -(으)니까 |
|---|---|---|---|---|---|---|
| **아프다** | နာသည်<br>နေမကောင်းဖြစ်သည် | 아픕니다 | 아파요 | 아팠어요 | 아프고 | 아프니까 |
| **예쁘다** | လှသည်<br>ချစ်စရာကောင်းသည် | 예쁩니다 | 예뻐요 | 예뻤어요 | 예쁘고 | 예쁘니까 |
| **바쁘다** | အလုပ်များသည် | 바쁩니다 | 바빠요 | 바빴어요 | 바쁘고 | 바쁘니까 |
| **슬프다** | ဝမ်းနည်းသည် | 슬픕니다 | 슬퍼요 | 슬펐어요 | 슬프고 | 슬프니까 |
| **고프다** | ဆာလောင်သည် | 고픕니다 | 고파요 | 고팠어요 | 고프고 | 고프니까 |
| **크다** | ကြီးသည် | 큽니다 | 커요 | 컸어요 | 크고 | 크니까 |
| **쓰다** | ခါးသည် | 씁니다 | 써요 | 썼어요 | 쓰고 | 쓰니까 |
| **나쁘다** | ဆိုးသည် | 나쁩니다 | 나빠요 | 나빴어요 | 나쁘고 | 나쁘니까 |
| **기쁘다** | ဝမ်းသာသည်<br>ပျော်ရွှင်သည် | 기쁩니다 | 기뻐요 | 기뻤어요 | 기쁘고 | 기쁘니까 |
| **잠그다** | သော့ပိတ်သည် | 잠급니다 | 잠가요 | 잠갔어요 | 잠그고 | 잠그니까 |
| **쓰다** | ရေးသည်<br>ဝတ်ဆင်သည်<br>အသုံးပြုသည် | 씁니다 | 써요 | 썼어요 | 쓰고 | 쓰니까 |
| **끄다** | ပိတ်သည် | 끕니다 | 꺼요 | 껐어요 | 끄고 | 끄니까 |



## 2. 'ㄹ' 불규칙 'ㄹ' ဖြင့် ဆုံးသော ကြိယာစကားလုံးများ

| | 번역 အဓိပ္ပါယ် | -ㅂ/습니다 | -아/어요 | -고 | -(으)니까 | -(으)세요 |
|---|---|---|---|---|---|---|
| **살다** | နေထိုင်သည် | 삽니다 | 살아요 | 살고 | 사니까 | 사세요 |
| **팔다** | ရောင်းချသည် | 팝니다 | 팔아요 | 팔고 | 파니까 | 파세요 |
| **만들다** | ပြုလုပ်သည် | 만듭니다 | 만들어요 | 만들고 | 만드니까 | 만드세요 |
| **열다** | ဖွင့်သည် | 엽니다 | 열어요 | 열고 | 여니까 | 여세요 |
| **놀다** | ကစားသည် | 놉니다 | 놀아요 | 놀고 | 노니까 | 노세요 |
| **알다** | သိသည် | 압니다 | 알아요 | 알고 | 아니까 | 아세요 |
| **울다** | ငိုသည် | 웁니다 | 울어요 | 울고 | 우니까 | 우세요 |
| **걸다** | ချိတ်ဆွဲသည် | 겁니다 | 걸어요 | 걸고 | 거니까 | 거세요 |
| **졸다** | အိပ်ငိုက်သည် | 좁니다 | 졸아요 | 졸고 | 조니까 | 조세요 |
| **쓸다** | လှဲကျင်းသည် | 씁니다 | 쓸어요 | 쓸고 | 쓰니까 | 쓰세요 |
| **풀다** | ဖြည်သည် | 풉니다 | 풀어요 | 풀고 | 푸니까 | 푸세요 |
| **널다** | လှန်းသည် | 넙니다 | 널어요 | 널고 | 너니까 | 너세요 |
| **길다** | ရှည်သည် | 깁니다 | 길어요 | 길고 | 기니까 | |
| **멀다** | ဝေးသည် | 멉니다 | 멀어요 | 멀고 | 머니까 | |
| **달다** | ချိုသည် | 답니다 | 달아요 | 달고 | 다니까 | |

## 3. 'ㅂ' 불규칙 'ㅂ' ဖြင့် ဆုံးသော ကြိယာစကားလုံးများ

| | 번역 အဓိပ္ပါယ် | -ㅂ/습니다 | -아/어요 | -고 | -(으)면 | -(으)ㄹ 거예요 |
|---|---|---|---|---|---|---|
| 덥다 | ပူသည် | 덥습니다 | 더워요 | 덥고 | 더우면 | 더울 거예요 |
| 춥다 | ချမ်းသည် | 춥습니다 | 추워요 | 춥고 | 추우면 | 추울 거예요 |
| 쉽다 | လွယ်ကူသည် | 쉽습니다 | 쉬워요 | 쉽고 | 쉬우면 | 쉬울 거예요 |
| 어렵다 | ခက်ခဲသည် | 어렵습니다 | 어려워요 | 어렵고 | 어려우면 | 어려울 거예요 |
| 맵다 | စပ်သည် | 맵습니다 | 매워요 | 맵고 | 매우면 | 매울 거예요 |
| 싱겁다 | အရသာပေါ့သည် | 싱겁습니다 | 싱거워요 | 싱겁고 | 싱거우면 | 싱거울 거예요 |
| 가볍다 | အလေးချိန်ပေါ့သည် | 가볍습니다 | 가벼워요 | 가볍고 | 가벼우면 | 가벼울 거예요 |
| 무겁다 | အလေးချိန်လေးသည် | 무겁습니다 | 무거워요 | 무겁고 | 무거우면 | 무거울 거예요 |
| 뜨겁다 | ပူသည်(ထိတွေ့မှု) | 뜨겁습니다 | 뜨거워요 | 뜨겁고 | 뜨거우면 | 뜨거울 거예요 |
| 차갑다 | အေးသည် | 차갑습니다 | 차가워요 | 차갑고 | 차가우면 | 차가울 거예요 |
| 더럽다 | ညစ်ပတ်သည် | 더럽습니다 | 더러워요 | 더럽고 | 더러우면 | 더러울 거예요 |
| 어지럽다 | မူးသည် | 어지럽습니다 | 어지러워요 | 어지럽고 | 어지러우면 | 어지러울 거예요 |
| 시끄럽다 | ဆူညံသည် | 시끄럽습니다 | 시끄러워요 | 시끄럽고 | 시끄러우면 | 시끄러울 거예요 |
| 외롭다 | အထီးကျန်သည် | 외롭습니다 | 외로워요 | 외롭고 | 외로우면 | 외로울 거예요 |
| 고맙다 | ကျေးဇူးတင်သည် | 고맙습니다 | 고마워요 | 고맙고 | 고마우면 | 고마울 거예요 |
| 가깝다 | နီးသည် | 가깝습니다 | 가까워요 | 가깝고 | 가까우면 | 가까울 거예요 |
| 즐겁다 | ပျော်ရွှင်သည် | 즐겁습니다 | 즐거워요 | 즐겁고 | 즐거우면 | 즐거울 거예요 |
| 무섭다 | ကြောက်သည် | 무섭습니다 | 무서워요 | 무섭고 | 무서우면 | 무서울 거예요 |
| 아름답다 | လှပသည် | 아름답습니다 | 아름다워요 | 아름답고 | 아름다우면 | 아름다울 거예요 |
| 그립다 | လွမ်းဆွတ်သည် | 그립습니다 | 그리워요 | 그립고 | 그리우면 | 그리울 거예요 |
| 굽다 | ကင်သည် | 굽습니다 | 구워요 | 굽고 | 구우면 | 구울 거예요 |
| 줍다 | ကောက်ယူသည် | 줍습니다 | 주워요 | 줍고 | 주우면 | 주울 거예요 |
| 돕다 | ကူညီသည် | 돕습니다 | 도와요 | 돕고 | 도우면 | 도울 거예요 |
| 입다 | ဝတ်ဆင်သည် | 입습니다 | 입어요 | 입고 | 입으면 | 입을 거예요 |
| 좁다 | ကျဉ်းသည် | 좁습니다 | 좁아요 | 좁고 | 좁으면 | 좁을 거예요 |



## 4. ‘ㄷ’ 불규칙 ‘ㄷ’ ဖြင့် ဆုံးသော ကြိယာစကားလုံးများ

| | 번역 အဓိပ္ပါယ် | -ㅂ/습니다 | -아/어요 | -고 | -(으)니까 | -(으)ㄹ 거예요 |
|---|---|---|---|---|---|---|
| 걷다 | လမ်းလျှောက်သည် | 걷습니다 | 걸어요 | 걷고 | 걸으니까 | 걸을 거예요 |
| 듣다 | နားထောင်သည် | 듣습니다 | 들어요 | 듣고 | 들으니까 | 들을 거예요 |
| 묻다 | မေးသည် | 묻습니다 | 물어요 | 묻고 | 물으니까 | 물을 거예요 |
| 싣다 | ကုန်တင်သည် | 싣습니다 | 실어요 | 싣고 | 실으니까 | 실을 거예요 |
| 깨닫다 | သိမြင်လာသည် | 깨닫습니다 | 깨달아요 | 깨닫고 | 깨달으니까 | 깨달을 거예요 |
| 닫다 | ပိတ်သည် | 닫습니다 | 닫아요 | 닫고 | 닫으니까 | 닫을 거예요 |
| 받다 | လက်ခံရရှိသည် | 받습니다 | 받아요 | 받고 | 받으니까 | 받을 거예요 |
| 믿다 | ယုံကြည်သည် | 믿습니다 | 믿어요 | 믿고 | 믿으니까 | 믿을 거예요 |
| 묻다 | မြေမြှုပ်သည် | 묻습니다 | 묻어요 | 묻고 | 묻으니까 | 묻을 거예요 |

## 5. 'ㄹ' 불규칙 'ㄹ' ဖြင့် ဆုံးသော ကြိယာစကားလုံးများ

| | 번역 အဓိပ္ပါယ် | -ㅂ/습니다 | -아/어요 | -고 | -(으)니까 | -(으)ㄹ 거예요 |
|---|---|---|---|---|---|---|
| 빠르다 | မြန်သည် | 빠릅니다 | 빨라요 | 빠르고 | 빠르니까 | 빠를 거예요 |
| 누르다 | နှိပ်သည် | 누릅니다 | 눌러요 | 누르고 | 누르니까 | 누를 거예요 |
| 부르다 | ခေါ်သည် | 부릅니다 | 불러요 | 부르고 | 부르니까 | 부를 거예요 |
| 오르다 | တက်သည် | 오릅니다 | 올라요 | 오르고 | 오르니까 | 오를 거예요 |
| 자르다 | ဖြတ်သည် | 자릅니다 | 잘라요 | 자르고 | 자르니까 | 자를 거예요 |
| 서투르다 | မကျွမ်းကျင်ဖြစ်သည် | 서투릅니다 | 서툴러요 | 서투르고 | 서투르니까 | 서투를 거예요 |
| 다르다 | ကွဲပြားခြားနားသည် | 다릅니다 | 달라요 | 다르고 | 다르니까 | 다를 거예요 |
| 마르다 | ခြောက်သွေ့သည်<br>ရေငတ်သည်<br>ပိန်သည် | 마릅니다 | 말라요 | 마르고 | 마르니까 | 마를 거예요 |
| 들르다 | တစ်ထောက်ဝင်သည် | 들릅니다 | 들러요 | 들르고 | 들르니까 | 들를 거예요 |
| 모르다 | မသိပါ/မသိဖြစ်သည် | 모릅니다 | 몰라요 | 모르고 | 모르니까 | 모를 거예요 |
| 고르다 | ရွေးချယ်သည် | 고릅니다 | 골라요 | 고르고 | 고르니까 | 고를 거예요 |
| 나르다 | သယ်ပို့သည် | 나릅니다 | 날라요 | 나르고 | 나르니까 | 나를 거예요 |



## 6. 'ㅅ' 불규칙 'ㅅ' ဖြင့် ဆုံးသော ကြိယာစကားလုံးများ

| | 번역 အဓိပ္ပါယ် | -ㅂ/습니다 | -아/어요 | -고 | -(으)니까 | -(으)ㄹ 거예요 |
|---|---|---|---|---|---|---|
| **낫다** | ပြန်ကောင်းသည်<br>သာလွန်ကောင်းမွန်သည် | 낫습니다 | 나아요 | 낫고 | 나으니까 | 나을 거예요 |
| **짓다** | တည်ဆောက်သည် | 짓습니다 | 지어요 | 짓고 | 지으니까 | 지을 거예요 |
| **붓다** | လောင်းသည် | 붓습니다 | 부어요 | 붓고 | 부으니까 | 부을 거예요 |
| **잇다** | ဆက်စပ်သည် | 잇습니다 | 이어요 | 잇고 | 이으니까 | 이을 거예요 |
| **씻다** | ဆေးကြောသည် | 씻습니다 | 씻어요 | 씻고 | 씻으니까 | 씻을 거예요 |
| **벗다** | ချွတ်သည် | 벗습니다 | 벗어요 | 벗고 | 벗으니까 | 벗을 거예요 |
| **빗다** | ခေါင်းဖြီးသည် | 빗습니다 | 빗어요 | 빗고 | 빗으니까 | 빗을 거예요 |

## 7. 'ㅎ' 불규칙 'ㅎ' ဖြင့် ဆုံးသော ကြိယာစကားလုံးများ

| | 번역 အဓိပ္ပါယ် | -ㅂ/습니다 | -아/어요 | -고 | -(으)니까 | -(으)ㄹ 거예요 |
|---|---|---|---|---|---|---|
| **파랗다** | ပြာသည် | 파랗습니다 | 파래요 | 파랗고 | 파라니까 | 파랄 거예요 |
| **하얗다** | ဖြူသည် | 하얗습니다 | 하얘요 | 하얗고 | 하야니까 | 하얄 거예요 |
| **빨갛다** | နီသည် | 빨갛습니다 | 빨개요 | 빨갛고 | 빨가니까 | 빨갈 거예요 |
| **노랗다** | ဝါသည် | 노랗습니다 | 노래요 | 노랗고 | 노라니까 | 노랄 거예요 |
| **까맣다** | မည်းသည် | 까맣습니다 | 까매요 | 까맣고 | 까마니까 | 까말 거예요 |
| **그렇다** | ဟုတ်သည် | 그렇습니다 | 그래요 | 그렇고 | 그러니까 | 그럴 거예요 |
| **어떻다** | ဘယ်လိုဖြစ်သည် | 어떻습니까? | 어때요? | 어떻고 | | |
| **좋다** | ကောင်းသည် | 좋습니다 | 좋아요 | 좋고 | 좋으니까 | 좋을 거예요 |
| **놓다** | ထားသည် | 놓습니다 | 놓아요 | 놓고 | 놓으니까 | 놓을 거예요 |

**집필** ရေးသားပြုစုသူ

| | |
|---|---|
| **김선정** Kim Seon Jung | 계명대학교 Keimyung University |
| **민경모** Min Kyung Mo | 계명대학교 Keimyung University |
| **강현자** Kang Hyun Ja | 계명대학교 Keimyung University |

**번역** ဘာသာပြန်

| | |
|---|---|
| Lay Lay Mon | Yonsei University |
| Aye Aye Aung | Hankuk University of Foreign Studies |
| Shwe Tim Hoon | Ewha Womans University |
| Thae Thae Wynee Chit | Ewha Womans University |

**감수** စာစီစာစစ်

| | |
|---|---|
| Myint Myint Maw | Yangon University of Foreign Languages |

**미얀마어 녹음** မြန်မာဘာသာဖြင့် အသံသွင်းသူ

| | |
|---|---|
| Lay Lay Mon | Yonsei University |

**보조 집필** လက်ထောက်များ

| | |
|---|---|
| **최현정** Choi Hyun Jung | 계명대학교 Keimyung University |


မြန်မာသင်တန်းသားများအတွက်
ကိုယ်တိုင်လေ့လာမှု အထောက်အကူပြု




ကိုရီးယားဘာသာစကား (၂)

| | |
|---|---|
| ပုံနှိပ်ရက်စွဲ | ၂၀၁၇ ခုနှစ်၊ ဒီဇင်ဘာလ (၂၅)ရက်နေ့ |
| မူပိုင် (© 2017) | HRD Korea |
| ဖြန့်ချိရေး | HRD Korea |
| လိပ်စာ | 345 Jongga-ro, Jung-gu, 44538 Ulsan, Republic of Korea |
| စာစီဒီဇိုင်း | Design maru |

မြန်မာသင်တန်းသားများအတွက်




# 한국어 2

ကိုရီးယားဘာသာစကား (၂)